မဏိသာရမဉ္ဇူသာဋီကာဆရာတော်

# သမန္တပါသာဒိက

## အရှင်မဟာအရိယဝံသ

၏

# ဇာတ်ဝိသောဓနကျမ်း







## ပိဋကဗျူဟာအဖွဲ့

ရွှေတိဂုံစေတီတော် တနင်္ဂနွေဒေါင့်

အာဇာနည်ဗိမာန်လမ်း၊ ရွှေဂုံတိုင်၊ ရန်ကုန်မြို့။

ပေမူမှပုံနှိပ်မူသို့ ပိဋကဗျူဟာမှ ဖော်ထုတ်ပူဇော်သည်။

H 669—A [ဟံသာဝတီ]



**ပိဋကတ်မျူဟာအဖွဲ့-ဒုတိယကျမ်းစာ**

**ဇာတ်ဝိသောဓနကျမ်း**

ဘာသာရေးဆိုင်ရာစာပေ ခွင့်ပြုချက်အမှတ်(၁၁၁၇၆)
ပဌမအကြိမ်၊ အုပ်ရေ (၂၀၀၀)
သာသနာတော်နှစ် (၂၅၂၂)
၁၃၄၀-ပြည့်နှစ်၊ သီတင်းကျွတ်လ
၁၉၇၈-ခုနှစ်၊ အောက်တိုဘာလ

**ပန်းချီ** ။ ။ဦးစံတိုး

**မျက်နှာဖုံး**။ ။ကာလာမောင်ဝင်း

**ထုတ်ဝေသူ**။ ။ဦးအောင်သိမ်း (ဥက္ကဋ္ဌ)
ကင်းလွတ်ခွင့်အမှတ် (၀၄၆၀၇)
ပိဋကတ်မျူဟာအဖွဲ့
အာဇာနည်ဗိမာန်လမ်း
ရွှေဂုံတိုင်စာတိုက်၊ ရန်ကုန်မြို့။

**ပုံနှိပ်သူ**။ ။ဦးဇော်ဝင်း (၀၁၄၈၅)
ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်
၃၄၉-ဗိုလ်အောင်ကျော်လမ်း
ရန်ကုန်မြို့။

**တန်ဖိုး--၁၀/-**

# ကျမ်းဦးပလ္လင်

## တိပိဋကံ ဗုဒ္ဓဝစနံ စိရံ တိဋ္ဌတု

၁။ ပုံနှိပ်အဖြစ်သို့ မရောက်ဘူးသေးပဲ တိမ်မြုပ်နေသည့် ပိဋကစာပေ (ပေမူ)တို့ကို ပုံနှိပ်မူအဖြစ်သို့ ဖော်ထုတ် ပူဇော်၍ ပရိယတ္တိသာသနာတော်ကို အားဖြည့်ရန်- ဟူသော ရည်ရွယ်ချက်ဖြင့် ဖွဲ့စည်း တည်ထောင်ခဲ့သော **ပိဋကဗျူဟာအဖွဲ့**-၏ ဒုတိယကျမ်းစာအဖြစ် မဏိသာရမဉ္ဇူသာဋီကာ **ကျမ်းပြုအကျော်** စစ်ကိုင်း-အရှင်အရိယဝံသဆရာတော်၏ ဇာတ်ဝိသောဓနကျမ်းကို ပေမူမှ ပုံနှိပ်မူအဖြစ်သို့ ဖော်ထုတ်၍ ပူဇော်လိုက်ပါသည်။

၂။ ဇာတ်ဝိသောဓနကျမ်းကို မဖတ်ရှု မလေ့လာမီ ဤကျမ်းပြုဆရာတော်၏ အကြောင်းနှင့် ဤကျမ်း၏ ဂုဏ်ရည်တို့ကို ပိဋကဗျူဟာ-စာပေ ဦးဆောင်အဖွဲ့မှ နိဒါန်းဖြင့် စာလမ်း ခင်းပေးထားပါသည်၊ ဤကျမ်း၏ နိဒါန်းကို လေ့လာဖတ်ရှုပါက ဤကျမ်းပြု ဆရာတော်နှင့် ဤကျမ်းဂုဏ်ရည်တို့ကို ဂုဏ်ယူ အားရဖွယ်ရာ ကြည်ညိုရမည် ဖြစ်ပါသည်။

၃။ နိဒါန်းကို ဖတ်ရှုကြည့်ပြီးနောက် ဤကျမ်း၏ ပဓာန အခန်းဖြစ်သည့် ကျမ်းစာကိုယ် (ဇာတ်ဝိသောဓနေ)ကို လေ့လာရမည်ဖြစ်ပါသည်၊ ဤကျမ်းသည် ဇာတ်ကြီး ဆယ်ဖွဲ့လာ ပါဠိအနေအထားတို့ကို သုတ်သင်ပြင်ဆင် သော (အဆင့်မြင့်) ပါဠိဝိနိစ္ဆယ မြန်မာလက်သန်းကျမ်း ဖြစ်ပါသည်၊ ပိဋကပ ပါဠိစာပေပညာရှင်တို့ အထူး လေ့လာ အားထားရမည့်ကျမ်းကောင်း ကျမ်းမြတ်တဆူ ဖြစ်ပါသည်၊မြတ်စွာဘုရား၏ အဆုံးအမတော်ဖြစ်သော ပရိယတ္တိ (သင်စဉ်)နှင့် ပဋိပတ္တိ(ကျင့်စဉ်)တို့ကို သံဂါ ယနာသမိုင်းစဉ်တွင် ပါဠိစာပေဖြင့် တညီတညွတ်တည်း မှတ်တမ်းတင်ခဲ့လေရာ ပါဠိစာပေကို စောင့်ရှောက် ခြင်းသည် သာသနာတော်ကို စောင့်ရှောက်ခြင်း မည် ပါသည်၊ ဤကျမ်းက ဤတာဝန်ကို ကျေကျေပွန်ပွန် ထမ်းဆောင်ထားပါသည်။

၄။ ဤကျမ်း၏ ပဓာနစာကိုယ်ခန်းကို လေ့လာပြီးနောက် ပိဋကဗျူဟာအဖွဲ့၏ သာသနာတော်အတွက် မြော်ရည် ချက် ဆန္ဒများ– စာတမ်းကို ဆက်လက်လေ့လာတော် မူကြရန် ဖြစ်ပါသည်၊ ဤစာတမ်းတွင် ပိဋကဗျူဟာ၏ ရည်ရွယ်ချက်, လုပ်ဆောင်ချက်နှင့် မြော်မှန်းချက်တို့ကို ပြည့်ပြည့်စုံစုံ တင်ပြထားပါသည်၊ စုံစုံလင်လင် တင်ပြ ထားသော ပိဋကဗျူဟာ၏ သာသနာတော် အတွက် မြော်ရည်ချက်ဆန္ဒများသည် စာရှုသူတို့၏ စေတနာ, ဆန္ဒ

နှင့် တထပ်တည်း ဖြစ်နိုင်လိမ့်မည်ဟု မြော်လင့်ပါသည်၊ ဆန္ဒတူ စေတနာတူ ပုဂ္ဂိုလ်များကို ပိဋကဗျူဟာမှ လေးစား လိုက်လှဲစွာ ကြိုဆိုနေပါသည်၊ ဤကြိုဆိုချက်ကို ဝမ်းမြောက်စွာ လက်ခံလိမ့်မည်ဟုလည်း ယုံကြည်မြော်လင့်နေပါသည်၊ ကျမ်းစာဖော်ထုတ်ရေး အစီအစဉ်တွင် ပိဋကဗျူဟာ–ဟူသော အမည်နာမ (ဦးတည်ချက်) အားလျော်စွာ ပရိယတ္တိသာသနာတော်အတွက် ကျေးဇူးများမည့် ပါဠိပိဋက စာပေဆိုင်ရာများကို ဦးစားပေး ဖော်ထုတ်သွားမည်ဖြစ်ပါသော်လည်း လူပုဂ္ဂိုလ်များ အလွယ်တကူ လေ့လာနိုင်မည့် ပေမူများကိုလည်း အကြောင်းအားလျော်စွာ ဖော်ထုတ်သွားရန် အစီအစဉ်ရှိပါသည်၊ ဤအစီအစဉ် အပါအဝင် အသေးစိတ် အစီအစဉ်တို့ကို ဤစာတမ်းဖြင့် ပီပီပြင်ပြင် တင်ပြထားပါကြောင်း ဤကျမ်းဦးပလ္လင်ဖြင့် အစီရင်ခံအပ်ပါသည်။

ပိဋကဗျူဟာအဖွဲ့

# မာတိကာ

မာတိကာ 

| အကြောင်းအရာ | | စာမျက်နှာ |
|---|---|---|

# မာတိကာ

# နိဒါန်း

ဤဇာတ်ဝိသောဓနကျမ်းကား ဇာတ်ကြီးဆယ်ဖွဲ့ ပါဠိတော်, အဋ္ဌကထာ၌ ပုဒ်ပါဠိ အဆစ်အဖုကို သုတ်သင်သော ကျမ်းတည်း။ ဤကျမ်းကို သာသနာ့လင်္ကာရကျမ်း၌ "ဂဏ္ဌိကျမ်း" ဟု ဆိုသည်။ ထို့ကြောင့်ပင် အချို့ပေတို့၌ ကျမ်းအမည်ကို "အရိယဝံသ ဇာတ်ဂဏ္ဌိ" ဟု တွေ့ရသည်။ ဂဏ္ဌိကျမ်းဖြစ်သည့်အတိုင်း ခက်စနိုးထင်ရာ ပုဒ်ပါဠိတို့ကိုသာ သဒ္ဒါနည်းအရ မြန်မာဘာသာဖြင့် ဖွင့်ဆိုသောကျမ်း ဖြစ်လေသည်[၁]။ ဇာတ်ပါဠိတော်, အဋ္ဌကထာ နှစ်မျိုးတွင်လည်း ပါဠိတော်လာ ပုဒ်ပါဠိတို့ကိုသာ အများအပြား ရှင်းပြ၍ အဋ္ဌကထာလာ ပုဒ်ပါဠိတို့ကိုမူ အနည်းအကျဉ်းသာ သုတ်သင်သည်ကို တွေ့ရသည်။

ဤကျမ်းကို ရေးသားပြုစုခဲ့သော ဆရာတော်ကား မြန်မာနိုင်ငံ ပါဠိစာပေသမိုင်းတွင် ထင်ရှားသော အရှင်မဟာအရိယဝံသမထေရ် ဖြစ်ပါသည်။ ကျမ်း၏ နိဂုံး၌ "သမန္တပါသာဒိက မဟာအရိယဝံသထေရေန"-ဟု မိမိ (ကျမ်းပြု) ၏ အမည်ကို ပြထားပါသည်။ ထို့ကြောင့် ကျမ်းပြုအရှင်၏ ဘွဲ့မည်

၁။ သာသနဝံသပ္ပဒီပိကာ၌ ပါဠိဘာသာဖြင့် ရေးသည်ဟု ဆိုခြင်းမှာ ချွတ်ယွင်းချက်သာ ဖြစ်ပါသည်။

အရှည်မှာ သမန္တပါသာဒိက မဟာအရိယဝံသ–ဟု ဆိုရပါမည်။ ဤကျမ်းဆရာသည် ဤ ဇာတ်ဝိသောဓနကျမ်းကိုသာ ရေးသားခဲ့သည် မဟုတ်၊ အများ လေးစားလောက်သည့် မဏိသာရမဉ္ဇူသာဋီကာ, မဏိဒီပဋီကာ, ဂန္ထာဘရဏကျမ်းနှင့် အနုဋီကာ မဟာနိဿယကျမ်းတို့ကိုလည်း ရေးသားတော်မူခဲ့ပါသည်။ ယင်းကျမ်းတို့တွင် မဏိသာရမဉ္ဇူသာကျမ်း၏ နိဂုံး၌ "ပတ်ဝန်းကျင်၌ တည်သော တန်ခိုးကြီးဘုရားအပေါင်းဖြင့် တန်ဆာ ဆင်အပ်သော ကြည်လင်၍ မြအဆင်းရှိသော ချိုမြိန်သော ရေရှိသော ဧရာဝတီမြစ်၏ကမ်း၌ တည်သော ကြီးသော အာနုဘော်ရှိသော ပတ္တမြားရတနာ၏ တည်ရာဖြစ်သော ဓမ္မိကတောင်၌ နေလေ့ရှိသော အရိယဝံသ ဓမ္မသေနာပတိ–ဟု ဆရာတို့ မှည့်ခေါ်အပ်သော အမည်ရှိသော မဟာထေရ်သည် အဘိဓမ္မတ္ထဝိဘာဝိနီမည်သော အဘိဓမ္မတ္ထသင်္ဂဟ အဖွင့်ကျမ်း၏ အဖွင့်ဖြစ်သော မဏိသာရမဉ္ဇူသာ–အမည်ရှိသော ဤကျမ်းကို နှစ်ဆယ်ရှစ်အလွန်ရှိသော ရှစ်ရာသော သက္ကရာဇ်၌ စီရင်အပ်သတည်း" ဟု ဆိုထားသဖြင့် ဤကျမ်းပြုအရှင်သည် ဓမ္မသေနာပတိ–ဟူသော ဘွဲ့ကိုလည်း ရကြောင်းသိရပါသည်။ ထို့ကြောင့် နှစ်ခုပေါင်းလျှင် ကျမ်းဆရာ၏ ဘွဲ့မည်အပြည့်အစုံမှာ သမန္တပါသာဒိက မဟာအရိယဝံသဓမ္မသေနာပတိ–ဟု ဖြစ်ပါသည်။

ဤ မဏိသာရမဉ္ဇူသာဋီကာနိဂုံး၌ ပါသော ဓမ္မိကတောင်–ဟူသည်ကား ယခု စစ်ကိုင်းတောင် ပုညရှင် စေတီတော်မြတ်တည်ရှိရာ တောင်ပင်ဖြစ်ပါသည်။ ဤကျမ်းဆရာသည် ထို

တောင်၌ သီတင်းသုံး နေထိုင်လျက် မဏိသာရမဉ္ဇူသာဋီကာ ကျမ်းကို သကရာဇ် ၈၂၈-ခုနှစ်တွင် အပြီး ရေးသားတော်မူခဲ့ပါသည်။ ဤမျှသာ ယင်းနိဂုံးအရ သိရပါသည်။

သို့သော် ဆရာစဉ် သမားဆက် မပျက်မကွက် ဆောင်ရွက်လာသောစကားစဉ် စာဟောင်း စာတမ်းအရ ရေးသားထားသော သာသနာလင်္ကာရကျမ်း အဆိုအရ ဆိုရလျှင် အရှင်အရိယဝံသသည် ပင်းယ စကားခုနစ်ကျောင်းမှ ရဟန်းကောင်း ရဟန်းမြတ်တို့က ဆင်းသက်ခဲ့သော ပုဂံမြို့သာသနာ, နောက်သာသနာ အနွယ်အဆက်ဝင် ဖြစ်ပါသည်[၁]။ ထိုအရှင် စစ်ကိုင်းသို့ ရောက်လာပုံနှင့် မဏိသာရမဉ္ဇူသာဋီကာကို ရေးသားခဲ့ပုံ အကြောင်းအရာများကို ယင်းသာသနာလင်္ကာရကျမ်း၌ပင် အကျယ်ပြဆိုထားပါသည်။ ထိုအကြောင်းအရာမှာ စိတ်ဝင်စားဖွယ်လည်းကောင်း, မှတ်သားဖွယ်လည်း ကောင်းသဖြင့် အနည်းငယ်ရေးပါဦးမည်။

အရှင်အရိယဝံသသည် ပင်းယ စကားခုနစ်ကျောင်းကပင် ပါဠိ အဋ္ဌကထာ ဋီကာကျမ်းဂန်များကို သင်ကြားပြီး ဖြစ်၏။ [illegible]န်းမ ကိုယ်ဝန်ဆောင်တရွက်ခန့် စာပေများကို နှုတ်တက်အာဂုံဆောင်နိုင်ပြီး ဖြစ်၏။ သို့စဉ် များပြားစွာသော ကျမ်းဂန်တို့ကို [illegible]င်ကြားပြီး, အာဂုံရပြီး ဖြစ်သော်လည်း "ကျမ်းဂန်တတ်[illegible]ည်၊ စာတတ်သည်" ဆိုသည့် သဘောကိုပင် မသိသေး၍

၁။ ပိဋကတ်သမိုင်း၌ ပင်းယမြို့တောင် စကားအင်းရွာဇာတိဟု ဆိုသည်။

စစ်ကိုင်းအရပ်ရှိ ကျမ်းဂန်တတ် ဆရာတော်များထံ နည်းနာခံမည်–ဟု ကြံ၍ ပင်းယဖက်မှ စစ်ကိုင်းဖက်သို့ ကူးခဲ့လေသည်။ ထိုစဉ်ကပင် စစ်ကိုင်းပုညရှင်တောင် ပတ်ပတ်လည်တွင် ကျောင်းများ စည်ကားလျက် ရှိနေပြီဖြစ်ရာ ပုညရှင်ဘုရား၏ အရှေ့မြောက်ဖက် ချောက်၌ ယခု ရေငုံချောင်–ဟုခေါ်သော ချောင်တချောင်လည်း ထင်ရှားရှိနေပြီ ဖြစ်သည်။ ထို ချောင်ဆရာတော်ကား ကျမ်းဂန်လည်းတတ်, အကျင့်လည်းကောင်းသော ဆရာတော်ဖြစ်သည်။ အချည်းနှီးသော စကားကို မပြောလို၍ ရေကို ငုံနေလေ့ရှိသောကြောင့် ရေငုံဘုန်းကြီး–ဟု တွင်လေသည်။

အရှင် အရိယဝံသ သည် ထိုဆရာတော်ထံမှာ နည်းခံလို၍ စာဝါတောင်းမည်ဟု ကြံပြီး သွားရောက် ဆည်းကပ်သည်။ သို့သော် နှစ်ရက်တိုင်တိုင် စကားပြောခွင့် မရ၊ ဝတ်ဖြည့်၍သာ ပြန်ခဲ့ရသည်။ သုံးရက်မြောက်နေ့၌ စကားပြောခွင့် မရ၍ ပြန်မည်ဟု သားရေနွယ်ကို ခေါက်သည့်အခါမှ ဆရာတော်ကြီး အသံကြား၍ ရေကိုထွေးပြီးလျှင် အကျိုးအကြောင်းမေးမြန်းတော်မူသည်။ စာဝါတောင်းမည်လာကြောင်း အရှင်အရိယဝံသက လျှောက်သောအခါ သင်ယူဘူးသောစာများကို မေးမြန်းတော်မူသည်။ အရှင်အရိယဝံသကသင်ကြားဘူးသော ကျမ်းဂန်များကို လျှောက်သောအခါ "မသင်ကြားမလေ့ကျက်ဖူးသော ကျမ်းဂန်ပင်မရှိပြီကော"–ဟု ဆရာတော်ကြီးက မိန့်ရာ "ကျမ်းဂန်တတ်သည်၊စာတတ်သည် ဆိုသည့် အကြောင်းကို မသိပါသေးသောကြောင့် စာဝါတောင်းရောက်လာရပါသည်"–ဟုလျှောက်

ထားသောအခါ ဆရာတော်ကြီးက ''ငါ့မှာ စာသုံးဝါပို့ရသည်၊ မွန်းယိမ်းလျှင် ပုညခေတီသို့တက်၍ တံမြက်ဝတ်လည်း ပြုရသည်၊ မအားမလပ်ပြီ၊ သို့သော်လည်း စာတတ်မှန်း မသိဆိုသည့်ကို တံမြက်ဝတ် ပျက်ပစေဦး၊ ဋီကာလက်သန်းကို သင်တော့''-ဟု မိန့်၍ စာဝါပေးတော်မူလေသည်။ ဋီကာလက်သန်းဆိုသည်မှာ သင်္ဂြိုဟ်ကျမ်း၏ အဖွင့်ဖြစ်သော အဘိဓမ္မတ္ထဝိဘာဝိနီဋီကာ တည်း။

အရှင်အရိယဝံသသည် စာဝါ ရပြီးနောက် ပုညစေတီအရှေ့မြောက် မန်ကျည်းပင်တောတွင် တည်းကျောင်း ဆောက်၍ နေသည်-ဟု သာသနာလင်္ကာရစာ၌ ဆိုပါသည်။ ထိုမန်ကျည်းပင်တောသည် ယခုအခါ အရိယဝံသချောင်-ဟု ခေါ်သော နေရာပင် ဖြစ်ဟန်ရှိပါသည်။

စာတက်သော တပည့်သည် အခြေခံ ညံ့သူမဟုတ်ကြောင်း သိတော်မူသဖြင့် စာချသည့်ဆရာတော်သည် နည်းအမျိုးမျိုးဖြင့် နည်းရလောက်အောင် ပို့ချတော်မူဟန်တူပါသည်။ တပည့်ကလည်း အထူးဂရုစိုက်၍ လေးလေးစားစား သင်ယူဟန် ရှိခဲ့ပါသည်။ သုံးရက်မျှ သင်ပြီးသောအခါ အရှင်အရိယဝံသ၏ ဉာဏ် ပွင့်သွားခဲ့ဟန်တူပါသည်။ ဆရာသင်ပြလိုက်သော နည်းအတိုင်း အပြန်ပြန် အလှန်လှန် ဆင်ခြင်စဉ်းစား၍ အထပ်ထပ် သုံးသပ်နေခဲ့ရာ စာတက်သွားရန်ပင် သတိမေ့နေခဲ့သည်။ နှစ်ရက် သုံးရက်ကြာမှ ''ကျမ်းဂန်တတ်သည်၊ စာတတ်သည်'' ဆိုသည့် အကြောင်းကို သတိရ၍ ဆရာတော်ထံသို့ မိမိအကြောင်း

လျှောက်ရန်သွားလေသည်။ ဆရာတော်လည်း ပင်းယပုဂ္ဂိုလ် မလာသဖြင့် မေးမြန်းရန် ရဟန်းတပါးကို လွှတ်လိုက်ရာ ထိုရဟန်းနှင့် အရှင်အရိယဝံသတို့ လမ်းမှာ တွေ့ကြလေသည်။ ဆရာတော်ထံရောက်၍ နှစ်ရက် သုံးရက် မလာသည့် အကြောင်းကို မေးမြန်းတော်မူသောအခါ "ဆရာ့ပြသော နည်းကို မှီ၍ ဆင်ခြင်ကြံစည်သောကြောင့် စာတတ်သည်-ဆိုသည့် အကြောင်းကို သိရပေပြီ" ဟု လျှောက်လေသည်။ မိမိပေးသောနည်းကို မှီ၍ ပုဂ္ဂိုလ်တပါး စာဉာဏ်ပွင့်သွားသည်ကိုသိသဖြင့် ဆရာတော်သည် လွန်စွာ ဝမ်းမြောက်တော်မူ၍ "ဋီကာလက်သန်းကို အခြင်းအစ နှစ်ကန့်ပတ်လောက်သင်ကာမျှဖြင့် စာတတ်ပေသည်၊ ထို့ကြောင့် ဋီကာလက်သန်းကို ကျေးဇူးဆပ်ချည်၊ ဋီကာလက်သန်း၏ပင် အဖွင့်ကျမ်းကို ရေးလေ"-ဟု မိန့်တော်မူသည်။ အရှင်အရိယဝံသလည်း ဆရာမိန့်သည့်အတိုင်း ဋီကာလက်သန်း အဖွင့် မဏိသာရမဉ္ဇူသာဋီကာကို ပုညရှင် အရှေ့မြောက် ချောက်တွင်နေ၍ စီရင်လေသည်။ထိုချောက်မှာပင် စာပေလည်း ပို့ချတော်မူသည်။ တပည့်သံဃာအများလည်း ပြန့်ပွားစည်ပင်လေသည်။

စစ်ကိုင်းတောင် ဥမင်ကိုးဆယ်ဘုရား၏ အရှေ့ဖက် ချောက်ထဲ၌ အရိယဝံသချောင်-ဟုရှိသည်။ ယခုအခါ အဆောက်အအုံ-ဟု ဆိုရလောက်အောင် မရှိတော့။ သို့သော် ထိုချောင်သည် အရှင်အရိယဝံသမထေရ် သီတင်းသုံးစဉ်ကမူ စည်ကားသိုက်မြိုက်ရှိခဲ့သည်-ဟု ဆိုရပါမည်။ ထိုချောင်၌ ဗောဓိပင်တပင်ရှိသည်။ ထိုဗောဓိပင်ကား အဓိကရ ဗောဓိပင်တည်း။ တခါ၌ အရှင်

အရိယဝံသ ထံသို့ ဘုရင်မင်းခေါင် အဖူးအမြော်ရောက်စဉ် စီးတော်ဆင်မယာဉ်သွားသည့် ထိုဗောဓိပင်၏ အခက်ကို ချိုးစားရာ ထိုအရပ်မှာပင် ဆင်မလည်း၍ ဆရာတော် သစ္စာပြု၍ မေတ္တာရေသွန်းမှ ပကတိချမ်းသာလေသည်။ ဘုရင်မင်းခေါင်လည်း ဆင်မ တစီးဖိုး တန်အောင် ကျောင်းတော်မှ မြစ်ဆိပ်သို့ သွားသည့်လမ်းကို ကျောက်ဖျာစီခင်း၍ လှူခဲ့ဘူးလေသည်။ ထိုချောင်အတွင်းပိုင်း တော်တော်ချောင်ကျသော ကမ်းပါးရံတခု အနီး၌ ယခုအခါ ကျောင်းငယ်ကလေး တဆောင်ကို တွေ့ရသည်။ ယင်းကျောင်းကလေးသည် အရိယဝံသချောင်စည်ကားသည့် အချိန်မှာပင် ဆိတ်ငြိမ်မှုရသောကျောင်းကလေးဖြစ်ခဲ့ပေမည်။ ထိုကျောင်းကလေး ရှိရာဌာနကိုပင် အရှင်အရိယဝံသ မဏိသာရမဉ္ဇူသာဋီကာကို စီရင်ရာ ဌာနအဖြစ် ယခုအခါ ညွှန်ပြလေ့ရှိကြပါသည်။

အရှင်အရိယဝံသသည် ဆိတ်ငြိမ်မှုရသည့် ထိုကျောင်းကလေးမျိုး၌ သီတင်းသုံးလျက် မဏိသာရမဉ္ဇူသာ ဋီကာကျမ်းကို ရေးလေသည်။ရေးသားပြီးသမျှကိုလည်း သီတင်းနေ့တိုင်း ပုညရှင်စေတီယင်ပြင်၌ သံဃာအများရှေ့တွင် ဖတ်ပြလေသည်။ထိုသို့ဖတ်ပြသော တခုသောဥပုသ်နေ့၌ ပုဂံမှ ဘုရားဖူးကြွလာသော ရဟန်းတပါးလည်း စာနာနေသောပရိသတ်အစွန်တွင် ထိုင်၍ စာနာလျက်ရှိ၏။ထိုနေ့က အရှင်အရိယဝံသ စာဖတ်သောအခါ ထိုပုဂံမှ ပုဂ္ဂိုလ်သည် "ဧ ဧ"-ဟု နှစ်ကြိမ်တိုင် အသံပြုလေသည်။ အရှင်အရိယဝံသလည်း စာဖတ်ယင်းမှင် ထိုမှနေရာကို မှတ်သား

ထားလိုက်သည်။ထိုပုဂ္ဂိုလ် တည်းခိုနေသည့် နေရာကိုလည်း မေးစေသည်။ထိုနေ့က ကျောင်းသို့ ပြန်ရောက်ပြီးနောက် ပုဂံပုဂ္ဂိုလ် "ငငံ"–ဆိုသော နှစ်နေရာကို စစ်ဆေးကြည့်ရှုရာ တနေရာတွင် ဝါကျထပ်နေသည်ကို တွေ့ရ၍ တနေရာတွင်မူ "ဣမံ ဂန္ထံ"–ဟု စွဲရမည်ကို "ဣဒံ ဂန္ထံ" ဟု စွဲထားသဖြင့် လိင်မှားနေသည်ကိုတွေ့ရလေသည်။ ထိုသို့ မိမိအမှားကို သိရပြီးနောက် အရှင်အရိယဝံသသည် "ငငံ"–ဆိုသော ပုဂ္ဂိုလ်ကို ပင့်စေ၍ ရောက်လျှင် ဤသို့ဆိုလေသည်၊–"ငါ့ရှင် ဤကျမ်းကို ငါသည် သာမည မပြု၊ လူသံ, ငှက်သံစဲမှ ညဉ့်ကို ပုရပိုက်ဖွင့်၍ ရေးသည်၊ လူသံ, ငှက်သံကြားမှ နေ့ကိုပုရပိုက်အုပ်၍နေသည်။ သို့စဉ် ကြိုးစားအားထုတ်ပါသည်ကို 'ငငံ'–ဆို ပြန်ရလေသည်"။ ထိုအခါ "ငငံ"–ဆိုသောပုဂ္ဂိုလ်က ဤသို့လျှောက်သည်– "အရှင်ဘုရား စီရင်ပြုစုသောကျမ်းသည် ဆိုဖွယ်အများပင် မရှိပေ။ သူတယောက်သည် ကျောက်စစ်ကို ဆုပ်၍ တိုက်နံရံကို ပစ်သော် တစေ့မကျန် တိုက်နံရံကိုချည်း မှန်လေသကဲ့သို့ မိန့်ဆိုသမျှ စကားသည် အလိုရှိသော အနက်အဓိပ္ပါယ်သို့ချည်း ရောက်ပလေသည်။ ဝါကျတချက် ထပ်သည်၊ အစွဲတချက် ပျက်သည်ကိုသာ 'ငငံ'ဆိုပေသည်"။ ဤသို့ လျှောက်သောအခါ ကျမ်းပြုဆရာတော်သည် အားရ နှစ်သက် ရှိတော်မူလှ၍ ကိုယ်တွင် သုံးသော ဒုကုဋ်ကို လှူတော်မူသည်။ "ငါ့ရှင်ကို ပူဇော်သည် မဟုတ်၊ ငါ့ရှင် ဂုဏ်ကိုသာ ငါပူဇော်သည်"–ဟု ထိုပုဂ္ဂိုလ် ခံယူစေအောင်လည်း မိန့်တော်မူလေသည်။ နောင်လည်း ဘုရင်မင်းခေါင်အား ပြောကြား၍ တံဆိပ်အလှူတော် ခံရသည်–ဟု စကားစဉ် ရှိလေသည်။

အထက်ပါ အကြောင်းအရာများကား သာသနာလင်္ကာရ စာတမ်း၌ လာသည်တို့ဖြစ်ပါသည်။ ယင်းတို့ကို ရှု၍ အရှင် အရိယဝံသသည် ကြီးစွာသော သတိ,ဝီရိယ,ဉာဏ်တို့ဖြင့် ယင်း ကျမ်းကို ပြုစုကြောင်း, ငါဟူသောမာန်မာန အစွဲမရှိပဲ အများ၏ ဝေဖန်မှုကိုလိုလားကြောင်း, အမှားထောက်ပြသူအား အမျက် မထွက်ပဲ ကျေးဇူးပင် တင်တတ်သူဖြစ်ကြောင်း ထင်ရှားလှ ရကား အရှင်အရိယဝံသမထေရ်သည် နှောင်းလူတို့အဖို့ လေး စားထိုက်သည်နှင့်အမျှ အားကျဖွယ်,အတုယူဖွယ် ကောင်းလှ သော ဆရာတော်တပါး ဖြစ်တော်မူကြောင်း မှတ်သားအပ် ပါသည်။

မဏိသာရ မဉ္ဇူသာကျမ်း ထွက်ပေါ်ပြီးနောက် အရှင် အရိယဝံသ၏ ဂုဏ်သတင်းမှာတမုဟုတ်ချင်းပြန့်နှံ့သွားခဲ့ဟန်တူပါ သည်။ ရှေးက အဘိဓမ္မတ္ထဝိဘာဝိနီဋီကာကို "ဋီကာလက်သန်း" ဟုရင်း,အဖွင့်အပြ သိသာ ခြားနားလှသောကြောင့် "ဋီကာလှ" ဟူ၍ရင်းခေါ်ဝေါ်ခဲ့ကြသည်[၁]။ ဤဋီကာကို သုံးရက်မျှသင်ယူရာ တွင် အရှင်အရိယဝံသ ကျမ်းဂန်တတ်သွား လေသောကြောင့် အရှင်အရိယဝံသလက်ထက်မှစ၍ ယခုနေ့တိုင် "ဋီကာကျော်"ဟု တွင်လေသည်။

အရှင်အရိယဝံသ ပြုစုသော အခြားကျမ်းများကို ဤနိဒါန်း အစ၌ ပြခဲ့ပြီ။ ယင်းကျမ်းတို့တွင် မဏိဒီပကျမ်းကား ဒွါရ

---

၁။ အရှင်အရိယဝံသကိုယ်တိုင်ကမူ ဤဋီကာကို "ဋီကာငယ်"ဟု ဤဇာတ်ဝိသောဓန (နှာ-၁၃၉) ၌သုံးနှုန်းတော်မူသည်။

ကထာတိုင်အောင်သော မူလဋီကာကျမ်း၏ အဖွင့်တည်း။ ယင်းကျမ်း ပဌမတွဲ(ဝိသတိဝဏ္ဏနာပိုင်း အဆုံးအထိ)ကို ၁၂၉၁–ခုနှစ်က ရန်ကုန်မြို့ သုဓမ္မဝတီပုံနှိပ်တိုက်က ရိုက်နှိပ်ထုတ်ဝေသည်။ ကျန်အတွဲများကား ပေဘာဝဖြင့်ပင် ရှိကြသဲဖြစ်သည်[၁]။

ဂန္ထာဘရဏကျမ်းကား ဝါကျတ္ထဇောတက နိပါတ်များနှင့် ဝါကျများ, စုဒ် စောဒနာများကို ပြဆိုသော ပါဠိဂါထာများဖြင့် ရေးသားထားသော သဒ္ဒါငယ်ကျမ်းတည်း။ ယင်းကျမ်း၌ ဂါထာပေါင်း ၉၁–ဂါထာ (နောက်ထည့်ဟု ယူဆရသော အဆုံး ၄–ဂါထာ မပါ) ရှိသည်။ ယင်းကျမ်းကို သဒ္ဒါငယ် ၁၄–စောင်တွဲ, ၁၅–စောင်တွဲတို့၌ အကြိမ်များစွာ ရိုက်နှိပ်ပြီး ဖြစ်ပါသည်။

အနုဋီကာ မဟာနိဿယကျမ်းကား “မူလဋီကာနှင့် အနုဋီကာကို စပ်ယှဉ်၍ဖွင့်သော မဟာနိဿယကျမ်းတည်း”ဟု သာသနာလင်္ကာရ၌ဆိုသည်။ ရန်ကုန်မြို့ အမျိုးသားစာကြည့်တိုက်တွင် သာသနာပိုင်ဆရာတော်၏ ပေမူမှ တဆင့် ရေးကူးထားသော လက်ရေးမူတခု တွေ့ရပါသည်။ စာမျက်နှာ ၁–မှ ၅၉၉–အထိ ရှိပါသည်။ ဤကျမ်းလည်း အရှင်အရိယဝံသ၏ လက်စွမ်းပြကျမ်း ဖြစ်ဟန်တူပါသည်။ အဘယ်ကြောင့်ဟူမူ အနုဋီကာလာ

---

၁။ ကျန် မဏိဒီပ ပေမူများကို ပိဋကဈေးဟာမှ ရှာဖွေ ရရှိကူးယူထားပြီးဖြစ်သဖြင့် မကြာမီ စာအုပ်အဖြစ်သို့ ပို့ဆောင်နိုင်ပါလိမ့်မည်။

၇-မျက်နှာမျှသာ ရှိသောစာကို စာမျက်နှာ ၆၀၀-ခန့်ရှိသည့်တိုင် ဖွင့်ဆိုရေးသားထားသောကြောင့် ဖြစ်ပါသည်။ ထိုအနုဋီကာ ၇-မျက်နှာကား မူလဋီကာ ၄-မျက်နှာ၏ အဖွင့်ဖြစ်၍ ယင်း မူလဋီကာ ၄-မျက်နှာကား အဋ္ဌသာလိနီ ပဏ္ဏာမ တစ်ဂါထာ၏ အဖွင့်ဖြစ်ပါသည်။ ထို့ကြောင့် အရှင်အရိယဝံသသည် နိဿယ ပဋ္ဌာနထုပ်၏ နိဂုံး၌ "ဋီကာ အနုဋီကာယ ရတနသာရသမ္ဘတေ မဟာနိဿယေ ပဋ္ဌာနဂါထာမဟာနိဿယော။ အရိယဝံသ ဓမ္မသေနာပတိရစိတာယံ"- ဟု ပါဠိဘာသာဖြင့် အဋ္ဌသာလိနီလာ တစ်ဂါထာ၏ အဖွင့်မျှသာ ပြီးသေးကြောင်း မှာဆိုခဲ့ပါသည်။ ဤကျမ်းအပြီးသို့ ရောက်, မရောက်ကိုရင်း ပြီးသမျှ ပေထုပ် မည်မျှရှိသည်ကိုရင်း မသိရပါ။

## အကျယ်ရေးသားခြင်းအကြောင်း

ဤနိဒါန်း၌ အရှင်အရိယဝံသ အကြောင်း အကျယ်ရေးသားခြင်းကား ထိုအရှင်၏ အစစ်အမှန်ဖြစ်သော ဂုဏ်များ ပေါ်လွင်ထင်ရှား စေလိုသောကြောင့်ရင်း, ဤအရှင်နှင့် ပတ်သက်၍ မျက်မှောက်ခေတ် ရေးသားချက်များတွင် လွဲမှားမှုများ ပါနေသည်ကို ထင်ရှားစေလိုသောကြောင့်ရင်း ဖြစ်ပါသည်။

မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၁၀၊ နှာ-၂၇၁-၌ "ထင်ရှားကျော်စောခြင်း မရှိမီ သဒ္ဒါသင်ရန် စစ်ကိုင်းမြို့သို့ သွားလေသည်"-ဟု တွေ့ရပါသည်။ အရှင်အရိယဝံသသည် အထက်၌ ပြခဲ့သည့်အတိုင်း ပင်းယ စကားခုနစ်ကျောင်းကပင် သင်ရိုးစာများ ကုန်အောင်သင်ယူပြီး ဖြစ်ပါသည်။ပရိယတ္တိနယ်ပယ်၌

စာသင်သားတို့သည် ကျမ်းစာအများစုကိုဖြစ်စေ, ကျမ်းတစောင် တဖွဲ့ကိုဖြစ်စေ ဆရာတဦးဦးထံ၌ ကျေကျေနပ်နပ် သင်ကြားပြီး ဖြစ်စေကာမူ အားရနှစ်သိမ့်၍ မနေတတ်ကြပါ။ အခြား ထင်ပေါ်ကျော်ကြားသော ဆရာတပါးပါး၏ နည်းကိုလည်း မှတ်သား လေ့လာ, နာယူတတ်ကြစမြဲ ဖြစ်ပါသည်။ ဒရှင်အရိယဝံသသည်လည်း ပင်းယစကားခုနစ်ကျောင်းမှ သဒ္ဒါကျမ်းတို့ကို ကျေကျေနပ်နပ် သင်ယူခဲ့ပြီးဖြစ်သော်လည်း ကျော်ကြားသော စစ်ကိုင်းဖက်ရှိ သဒ္ဒါအကျော် ဆရာတော်တို့ထံ နည်းခံရန် ကူးသွားခြင်းသာ ဖြစ်ပါသည်၊ ထို့ကြောင့် သဒ္ဒါသင်ရန်–ဟု ဆိုထားခြင်းမှာ စာသင်သားတို့၏ သဘာဝကို မလေ့လာမိ၍သာ ဆိုခြင်းဖြစ်ပါသည်။

သာသနာလင်္ကာရစာတမ်း၌ နည်းနာခံရန်-ဟု အထင်အရှား ပြဆိုထားပါလျက် စွယ်စုံကျမ်း၌ အဘယ့်ကြောင့် သဒ္ဒါသင်ရန်-ဟူ၍ ရေးသားရသနည်း-ဟု အကြောင်းကိုရှာသော် Before he became famous he went to Sagaing to study grammar ဟူသော မေဘယ်လ် ဗို့ဒ်၏ The Pali Literature of Burma စာအုပ်ပါ စကားဖြစ်ကြောင်း တွေ့ရပါသည်။ မေဘယ်လ် ဗို့ဒ်သည် အဘယ့်ကြောင့် to study grammar ဟု ရေးခဲ့ရသနည်းဟု တဆင့်တက်၍ စိစစ်သောအခါ သူ၏မှီရာမှာ သာသနဝံသပ္ပဒီပိကာ (၁၀၈) လာ "သဒ္ဒနယံ ဥဂ္ဂဟေတွာ နိသီဒိ" – ဟူသော စကားပင် ဖြစ်သည်ကို တွေ့ရပါသည်။ ထိုစကား၏အဓိပ္ပါယ်မှာ သဒ္ဒါနည်းကို သင်ယူ၍ နေထိုင်၏–ဟု ဖြစ်၏။ သာသနဝံသပ္ပဒီပိကာ

သည် များသောအားဖြင့် သာသနာလင်္ကာရ၏ ပါဠိပြန်ပင် ဖြစ်ပါသည်။ သို့သော် ဤနေရာ၌ကား ပါဠိပြန်ပုံသည် မူရင်း ကိုမမီ-ဟု ဆိုချင်သည်။ "နည်းနာခံမည်-ဟု စစ်ကိုင်းသို့ ကူး လေ၏"-ဟူသော သာသနာလင်္ကာရစကားကိုပင် အဓိပ္ပါယ်ကို ယူ၍ "သဒ္ဒနယံ ဥဂ္ဂဟေတုံ"-ဟု ပါဠိပြန်ခဲ့ဟန် တူပါသည်။ သို့ပြန်ခဲ့ရာ၌ မူရင်းနှင့် အတိအကျ မကိုက်ညီသော်လည်း အဓိပ္ပါယ်ကား မပျက်လှပါ။ "သဒ္ဒံ ဥဂ္ဂဟေတုံ"-ဟုဖြစ်စေ "သဒ္ဒဂန္ထံ ဥဂ္ဂဟေတုံ"-ဟု ဖြစ်စေ မဆိုပဲ "သဒ္ဒနယံ ဥဂ္ဂဟေ တုံ"-ဟု ဆိုခဲ့သဖြင့် သာသနဝံသပ္ပဒီပိကာဆရာ ဆိုလိုသည်မှာ သဒ္ဒါကို သင်သည်မဟုတ်၊ သဒ္ဒါနည်းကို သင်သည်သာ ဖြစ် သည်။ သဒ္ဒါနည်း-ဟူရာ၌လည်း မိမိတတ်သိနားလည်ပြီးသော သဒ္ဒါဗဟုသုတကို အသုံးပြု၍ အနုသန္ဓေ စုဒ် စောဒနာ အတက် အထွက်လုပ်နည်း ပုဒ် ပါဌ် အက္ခရာ ဖွင့်ဆိုသုတ်သင်နည်း- စသော ကျမ်းဂန် လေ့လာရေးသားနည်းတို့ပင် ဖြစ်ပေမည်။ သို့သော် ဗိုဒ်သည် ယင်းကို သဘောမပေါက်၍ သဒ္ဒနယံ-၌ နယ-ကို ဘာသာမပြန်ပဲ သဒ္ဒါကိုသာ ဘာသာပြန်၍ to study grammar-ဟု လွဲမှားစွာ ပြန်ခဲ့လေရာ ယင်းကိုပင် တဆင့် မြန်မာပြန်၍ "သဒ္ဒါသင်ရန်"ဟု ရေးခဲ့သော စွယ်စုံကျမ်းကား မူလ ဖြစ်ရပ်အမှန်နှင့် များစွာ အလှမ်းကွာဝေး၍ နေသည်-ဟု ဆိုသင့်လှပါသည်။

ဇာတ်ဝိသောဓနကျမ်း

ဤနိဒါန်းအစ၌ ဇာတ်ဝိသောဓနသည် မည်သည့်ကျမ်းမျိုးဖြစ် ကြောင်း ရေးခဲ့ပြီ။ ဤကျမ်း၌ ဇာတ်ကြီးဆယ်ဖွဲ့ ပါဠိတော်, အဋ္ဌ

ကာထာလာပုဒ်များကိုသာ သုတ်သင်ထားလေသည်။ ထို့ကြောင့် ကျမ်းဆရာကိုယ်တိုင်က နိဂုံး၌ "ဒသဇာတက ဝိသောဓနဲ"-ဟု အမည်ပေးခဲ့ပါသည်။ ထိုအမည်မှ ဒသကို ဖြုတ်၍ "ဇာတက ဝိသောဓန" ယင်းမှ တဖန် "ဇာတ်ဝိသောဓန"ဟု အလွယ် အားဖြင့် ခေါ်ဝေါ်ခဲ့ကြဟန် တူပါသည်။

ဤကျမ်း၏နိဂုံး၌ကျမ်းပြီးသကရာဇ်ကို ပြမထားပါ။ သို့သော် မဏိသာရမဥ္ဇူသာ ဋီကာကျမ်းကို ၈၂၈-ခုနှစ်တွင် အပြီးစီရင်ခဲ့ ကြောင်းယင်းကျမ်း နိဂုံးအရသိရပါသည်။ ထို့ပြင်ကျမ်းနိဂုံး၌ပင် ကျမ်းပြုဆရာတော်က မိမိကိုယ် မိမိ"မဟာထေရနဲ"ဟု သုံးနှုန်း ထားပါသည်။ သာသနာတော်၌ အနည်းဆုံး ဝါ ၂၀-ရပြီး သော ရဟန်းကိုသာ မဟာထေရ-ဟု ခေါ်ရပါသည်။ ထို့ကြောင့် အရှင်အရိယဝံသသည် မဏိသာရမဥ္ဇူသာဋီကာကို ရေးသားပြီး ချိန်၌ အငယ်ဆုံးအားဖြင့် ဝါ ၂၀-အသက်အားဖြင့် ၄၀-ရှိနေ ပြီ-ဟု ဆိုနိုင်ပါသည်။ သို့ဖြစ်ရာ အရှင်အရိယဝံသသည် သကရာဇ် ၇၉၀-အနီးအပါး၌မွေးဖွားခဲ့သည်-ဟု ခန့်မှန်းလျှင် သင့်လျော် မည်-ဟု ယူဆပါသည်။ သကရာဇ်၇၉၀-မှ ၈၈၈-ခုနှစ် အထိ အချိန်အတွင်းအင်းဝနေပြည်တော်၌မိုးညင်းမင်း(၇၈၇-၈၀၁) မင်းရဲကျော်စွာ (၈၀၁-၈၀၄), ထူပါရုံဒါယကာ နရပတိ (၈၀၄-၈၃၀), ပြည်စုန် သီဟသူ (၈၃၀-၈၄၂), ဒုတိယ မင်းခေါင်(၈၄၂-၈၆၃), ရွှေနန်းကြော့ရှင်(၈၆၃-၈၈၈)တို့ စိုးစံနေခဲ့သည်ကိုတွေ့ရပါသည်။ ထိုနှစ်များအတွင်း အင်းဝ၌ ရှင် ထွေးညို, ရှင်ဥတ္တမကျော်,ရှင်မဟာသီလဝံသ,ရှင်အုံးညို,ရှင်ခေမာ, ရှင်မဟာရဋ္ဌသာရ-စသော ပျို့ကဗျာဆိုင်ရာ မြန်မာစာပေ၏

မီးရှူးတန်ဆောင်နှင့်တူသော ပုဂ္ဂိုလ်ကျော်များ ထွန်းကားခဲ့ပါသည်။ ထိုခေတ်၌ တောလား, ပျို့, ကဗျာ, ရတု-စသော စာများသာ အများအပြား ထွန်းကားခဲ့၍ မြန်မာစကားပြေ အရေးအသားမှာမူ များစွာမထွန်းကားဟု ဆိုရပါမည်။ ထိုခေတ် မြန်မာစကားပြေကျမ်းများတွင် ရှေးအကျဆုံးအဖြစ် ရှင်မဟာသီလဝံသ၏ ပါရာယနဝတ္ထုနှင့် ရာဇဝင်ကျော်တို့ကို တွေ့ရပါသည်။ ယခု ဇာတ်ဝိသောဓနေသည် ထို နည်းပါးလှသည့် အင်းဝခေတ် မြန်မာစကားပြေကျမ်းတို့တွင် တကျမ်းအပါအဝင် ဖြစ်ပါသည်။

ဤကျမ်းသည် မြန်မာစကားပြေအဖြစ်ဖြင့် ပါရာယနဝတ္ထုနှင့်ကား ယှဉ်ပြိုင်နိုင်မည် မဟုတ်-ဟု ထင်ပါသည်။ အဘယ့်ကြောင့်ဟူမူ ကျမ်းနှစ်ကျမ်း၏အကြောင်းအရာမတူသောကြောင့် ဖြစ်ပါသည်။ ပါရာယနဝတ္ထု၌ ဝတ္ထုကြောင်းများဖြစ်၍ ပါဠိအသုံးများစွာ မပါပဲ ရေးနိုင်သော်လည်း ဇာတ်ဝိသောဓနေ၌မူ ထိုသို့မဟုတ်ပါ။ ပါဠိ ပုဒ် ပါဌ်တို့ကို သုတ်သင်သောကျမ်းဖြစ်၍ ဤကျမ်း၌ သဒ္ဒါဆိုင်ရာ အသုံးအနှုန်းများကို များစွာ တွေ့ရပါသည်။ သဒ္ဒါဆိုင်ရာ အရေးအသားဖြစ်သောကြောင့် ဝတ္ထုကြောင်းကို ဖတ်ရသကဲ့သို့ ချောချောမွေ့မွေ့ မရှိလှ-ဟု ဆိုရပါမည်။ မည်သို့ဆိုစေ ဤကျမ်း၌ အင်းဝခေတ် မြန်မာစကားအသုံးအနှုန်းနှင့် မြန်မာဝါကျ ဖွဲ့ထုံးတို့ကိုပါ တစိတ်တဒေသ လေ့လာနိုင်မည်ဖြစ်သဖြင့် ဤကျမ်းသည် ပါဠိသုတေသီများ အဖို့သာမက မြန်မာစာ သုတေသီများအဖို့ပါ လေ့လာဖွယ်ကောင်းသော ကျမ်းတကျမ်းဖြစ်ပါသည်။

အရေးအသားနှင့် ပတ်သက်၍ ခြုံပြီးဆိုရလျှင် ဤကျမ်း၌ ဝါကျတိုများကို သုံးလေ့ရှိပုံ, စကားအသုံးအနှုန်း ကျစ်လစ်ပုံ, သိလောက်သည်ဟု ထင်လျှင် အဖြည့်ခံနည်းဖြင့် ရေးပုံများကို တွေ့ရှိနိုင်ပါသည်။ အောက်ပါ ပုံစံများကိုကြည့်ပါ။

ဘိက္ခဝေ, ဘိက္ခဝေါ–ဟု ဘုရားအာလုပ်။ ဘိက္ခဝေ–ကား သန္ဓိဖြစ်, မဖြစ်နှစ်ပါး။ ဤနှစ်ပါးလည်း စုဏ္ဏိယ ပုဒ်သာ၊ ဂါထာဝယ် မရှိရာ။ ဘိက္ခဝေါ–ကား ဂါထာ, စုဏ္ဏိယ ပုဒ်နှစ်ပါးရှိရာ၏။ စုဏ္ဏိယပုဒ်သော်ကား သန္ဓိသာ၊ သန္ဓိ မဖြစ်သည်မရှိ။ (ဤကျမ်းစာမျက်နှာ–၂၂)။

ဩစိနာယတု–ကား အဝ–ရှေး စိနေ–ခတ်၊ စိနေ မည်နာယံ–ဖွင့်။ အောက်မေ့ခြင်း။ ဧ–ကို အာယ–ပြု၊ ခတ်နန် မကျေ၊ ဂိလာယတိ–ကဲ့သို့။ ဂိလေ ပီတိက္ခယေ–ဟုဖွင့်။ (ဤကျမ်းနှာ–၆)။

ရတျော–ကို ရတ္တိယော–ဖွင့်။ ဒါသော စ ဒါသျော အနုဇီဝိနော စ၊ ပုတ္တာ စ ဒါရာ စ မယဥ္စ သဗ္ဗေ–၌ ဒါသျော–ကို ဒါသိယော–ဖွင့်သို့။ (၃၂)

ကဿံ ပုရိသကာရိယံ–၌ ကဿံ–ကား ဘဝိဿန္တိ ဿံ–နှောင်း ကရ–ကို က–ရေး။ (၃၈)

ဿဘိ–ဝိဘတ်ဝယ် ဿ–ကို ဆ–ရေးသည်–ဟု သဒ္ဒနီတိ။ (၅၃)

ဤ၌ ပုမော–ကား ကစ္စည်း မပြီး၊ သဒ္ဒနီတိ ပြီး၏။ (၄၉)

ထို့ပြင် ဤကျမ်းသည် ရှေးရေးကျမ်းဖြစ်သဖြင့် ရှေး အသုံး အနှုန်းများကိုလည်း တွေ့ရသည်။ယင်းတို့တွင် အချို့မှာ အောက် ပါအတိုင်း ဖြစ်ပါသည်။

ထို့ကြောင့် မူလော(၆၊၂၂-စသည်)။

အ-သောဟူက နားပင်းသည် ပြီး၏-ဟု အဋ္ဌကထာ၌ ဆိုသည်ကား စကားတို့ မပြန်တတ်ခဲ့ရကား မကြား သည် တလည်လည်-ဟု ဆိုသတည်း။အ-လျှင် နားပင်းမြဲ ဖြစ်၍ မဆို၊အ-သော်လည်း နားမပင်းခဲ့က ဟတ္ထဝိကာရ စသည် မူတတ်၏။(ဂ)

မျက်မမြင်သောအားဖြင့် ရေရှိနိုး၍ ဆိုသည်။(၃၄)

နစ္စဂီတဿ နစ္စဂီတော၌။ကုသလာ-ဟု အစားသက် သော်လည်း ကြံ့။(၃၁)

နတ်ကြားလာသည် မှန်သကဲ့သို့ ဆံဖြူက မမြင့် သေရအံ့သည်ကား မှန်သတည်း။(၆၂)

ကျမ်း၏ အရည်အသွေးနှင့် ပတ်သက်၍ကား ရေးစရာ များ လှသည်။ဤ၌ အနည်းငယ်မျှသာ ရေးပါမည်။

ဤကျမ်း၌ များသောအားဖြင့် ပုဂံခေတ်ပေါ် သဒ္ဒနီတိ ကျမ်းနောက်သို့ လိုက်၍ ပုဒ်ပါဌ် ဆုံးဖြတ်သည်တို့ကို တွေ့ရပါ သည်။သို့သော် အချို့နေရာများတွင်မူ သဒ္ဒနီတိထက်မင် ကြွ၍ သွားပုံ၊ သဒ္ဒနီတိကိုပင် "ဆင်ခြင်"-ဟု ဆိုသွားပုံတို့ကိုလည်း

တွေ့ရပါသည်။ တေမိဇာတ်ပါဠိတော်, အဋ္ဌကထာတို့၌ဥပါယနာနိ မေ ဒဇ္ဇံ-ဟု ယခုစာမူတို့၌ ရှိ၏။ ယင်း၌ ဥဘယာနာနိ-ဟု မရှိစေရ၊ ဥပယာနာနိ-ဟု ရှိစေရမည့်အကြောင်း သဒ္ဒနီတိအကိုးဖြင့် ရေးပြီး နောက်မှ စရိယာပိဋကပါဠိတော်, အဘိဓာန့်, ဒါဌာဓာတုဝံသတို့ကို အထောက်အထားပြု၍ “ဥပယာနာနိ-မလို၊ ဥပါယနာနိ မေ ဒဇ္ဇံ-လိုသည်”-ဟု ဤကျမ်း(နှာ-၂၁)၌ ရေးသားထားပါသည်။ ယင်းကား သဒ္ဒနီတိဆရာကြီး၏ ပျောက်ကွက်တခုကို ဖော်ထုတ်ပြလိုက်ခြင်းပင် ဖြစ်တော့သည်။

မဟာဇနက ဇာတ်အဋ္ဌကထာ၌ ဒိဝါဒိဝဿေဝ နိက္ခမိ-ဟု ရှိရာ ယင်း ဒိဝါ ဒိဝဿ-နှင့် ပတ်သက်၍ ဤကျမ်း၌ အင်္ဂုတ္တိုရ်အဋ္ဌကထာ, အင်္ဂုတ္တိုရ်ဋီကာ, သုတ်သီလက္ခန်ဋီကာတို့ကို ကိုးကား၍ “ဤသို့ကျမ်းကြီးတို့၌ ဆိုသောကြောင့် သဒ္ဒနီတိ၌ ဒိဝါ ဒိဝဿ-တွင် သတ္တမီ၌ ဆဋ္ဌီဟူသည်ကို ဆင်ခြင် (နှာ-၃၆)” ဟု ပွင့်ပွင့် လင်းလင်းပင် မိန့်ဆိုထားသည်ကို တွေ့ရပါသည်။

ထို့ကြောင့် ဤကျမ်းဆရာသည် များစွာသော နေရာတို့၌ သဒ္ဒနီတိကို ကိုးကားမှီငြမ်းပြု၍ ရေးသားခဲ့သော်လည်း မသင့်ဟု ယူဆသော နေရာများတွင်မူ ပွင့်ပွင့်လင်းလင်းပင် စိစစ်ဝေဖန်၍ ရေးသားသွားသည်ကို မှတ်သားရပါသည်။

ထို့ပြင် ကျမ်းဆရာသည် ဇာတ်ကြီးဆယ်ဖွဲ့၌ ပါသော ပုဒ်, ပါဠိများကိုသာ မက ယင်းပုဒ်များနှင့် တနည်းနည်းအားဖြင့်

ဝက်သွယ်မှုရှိသော အခြားပုဒ်ပါဠိများကိုလည်း သုတ်သင်
တော်မူခဲ့သည်ကို တွေ့ရပါသည်။ ထိုသို့ သုတ်သင်ခဲ့သည့်အတွက်
"ခရီးသွားယင်း ဟန်လဲ့" ဆိုသလို အခြားကျမ်းများမှ ခက်ခဲ
သော ပုဒ်ပါဠိများကိုပါ သိရှိနားလည်ရသဖြင့် ကျမ်းဆရာ
ား များစွာ ကျေးဇူးတင်ဖွယ် ဖြစ်ပါသည်။ ကိစ္စာ(၃၁),
ဝန်းကြောင့် နိဂ္ဂဟိတ်ကျေပုံ (၃၂), ဒိသမ္ပတိ(၄၂),ပုမော,
ယာနိမှိ, ကုသာဝတိမှိ, သန္တိမှိ(၄၉-၅၀), အကံသု(၈၀),
ဝခိ(၈၆)ပုဒ်များအကြောင်းရေးသားချက်တို့ကို ကြည့်ပါလေ။

ဤကဲ့သို့ အခြားကျမ်းများမှ စပ်ဆိုင်ရာ ပုဒ်ပါဠိများကိုပါ
တုတ်သင် ရေးသားခဲ့သောကြောင့်ပင် ယခုအခါ ဆဋ္ဌသံဂါ
ဝနာမူ၌ပင် ပါဝင်ခွင့်မရခဲ့သော ပုဒ်နှစ်ပုဒ်ကို ဤကျမ်း၌
တွေ့ရခြင်းဖြစ်ပါသည်။

ထိုပုဒ် နှစ်ပုဒ်ကား ဗြဟ္မစေရ-နှင့် ဣဿေရ-ဟူသော ပုဒ်
တို့ဖြစ်ပါသည်။ဝေဿန္တရဇာတ်လာ အာစေရမိဝ မာဏဝေါ-
ဟူရာ၌ အာစေရပုဒ်နှင့် စပ်၍ အလားတူအဖြစ် ဤကျမ်းဆရာ
ာ ယင်းနှစ်ပုဒ်ကို ထုတ်ပြခဲ့ခြင်းဖြစ်ပါသည်။

သဒ္ဒဗေဒနည်းစနစ်အရ အာစရိယပုဒ်မှ အာစယိရ၊ ယင်းမှ
ာစေယ္ယရ၊ယင်းမှ အာစေရ-ဟု ချုံ့ထားသာပုဒ် ဖြစ်လာပါ
ည်။ ဤပုဒ်မျိုးကို အထူးသဖြင့် အက္ခရာအရေအတွက်ဖြင့်
ရးသားရသော ဂါထာတို့၌ တွေ့ရတတ်ပါသည်။အာစရိယ-

ဟု ရေးလျှင် အက္ခရာတလုံး ပိုမည့်နေရာမျိုး၌ အာစေရ-ဟု ရေးလိုက်လျှင် အက္ခရာ မပိုတော့ပဲ ဆန်းကိုက်သွားပါသည်။ သို့သော် နေရာတိုင်းမှာပင် ဤသို့ဖြစ်ရမည်-ဟုကား မဆိုလိုပါ။ ဒါနဉ္စ ဓမ္မစရိယာ စ-၌ အက္ခရာတလုံးပိုလျက်ပင် ရှိပါသည်။ သို့သော် အက္ခရာအတိအကျ ရေးလိုသည်ဆိုပါမူ ဤပုဒ်မျိုးသည် အသုံးဝင်လှပါသည်။ ထို့ကြောင့်ပင် ပါဠိဘာသာ၌ အစ္ဆရိယ-အစ္ဆေရ၊ မစ္ဆရိယ-မစ္ဆေရ-ဟူသော ပုဒ်များကိုလည်း တွေ့ရခြင်းဖြစ်ပါသည်။ ဗြဟ္မစေရ-နှင့် ဣဿေရ-ပုဒ်တို့ကိုဂါထာတို့၌တွေ့ရပါသည်။ ယင်းဂါထာတို့ကို ကျမ်းဆရာကိုယ်တိုင်က ပြထားပါသည်။ နှာ-၁၅၉-တွင် ကြည့်ပါ။

ယင်းဂါထာတို့၌ ဆဋ္ဌသံဂါယနာမူဝယ် "ဗြဟ္မစာရိဗလေနာဟံ"-ဟုရင်း, "ဣဿရံ ကာရယာမဟံ"-ဟုရင်း တွေ့ရပါသည်။မူကွဲလည်း ပြမထားသဖြင့် နိုင်ငံခြား မူတို့၌လည်း ဆဋ္ဌမူအတူပင် ရှိသည်ဟု မှတ်ရပါမည်။သို့သော် ဤ ဇာတ်ဝိသောဓနကျမ်းကို ရှု၍ ယင်းဂါထာတို့ဝယ် သကရာဇ် ရှစ်ရာကျော်က "ဗြဟ္မစေရဗလေနာဟံ"-ဟုရင်း, "ဣဿေရံ ကာရယာမဟံ"-ဟုရင်း ရှိခဲ့ကြောင်း ထင်ရှားပါသည်။ ယင်းပါဠိတို့သာ သဒ္ဒါနည်း, ဆန်းနည်း နှစ်မျိုးလုံး ဖြောင့်သောပါဠိများဖြစ်၍ ပါဠိဟောင်းတို့ ဖြစ်ရပါသည်။ နောင်အခါ ဤသို့ပုဒ်ချို့သဘောကို နားမလည်သူတို့က ပြင်လိုက်သဖြင့် "ဗြဟ္မစာရိ, ဣဿရံ"-ဟု ဖြစ်သွားရာမှ ယင်းပါဠိတို့ကိုပင် ပါဠိမှန်ဟု လက်ခံခဲ့ကြခြင်း ဖြစ်ဟန်တူပါသည်။ ဇာတ်ဝိသောဓနေ၌

အသေအချာ ရေးသားပြဆိုထားသဖြင့် ဗြဟ္မစေရ-ဗ္ဗသေရ-တို့သာ ယင်းဂါထာတို့၌ ပါဠိဟောင်း, ပါဠိမှန် ဖြစ်ကြောင်း ထင်ရှားရကား အကယ်၍သာ ဆဋ္ဌသံဂါယနာမူ အပဒါန် ပါဠိတော်ကို ရိုက်နှိပ်ရန် ပြင်ဆင်ခဲ့ကြစဉ်က ဤကျမ်းပေါ် ထွက်ပြီးဖြစ်၍ ကြည့်ရှုမိခဲ့ကြမည်ဆိုပါလျှင် ဤပုဒ်နှစ်ပုဒ်သည် မိမိတို့၏ နေရာမှန်ကို ကေန်ရခဲ့ကြမည် ဖြစ်ပါသည်။ မည်သို့ဆိုစေ ယင်းပုဒ် နှစ်ပုဒ်သည် မှတ်တမ်းဝင် ပါဠိပုဒ်များဖြစ်၍ ယင်းနှစ်ပုဒ် မပါသော ပါဠိအဘိဓာန်သည် စုံလင်သော အဘိဓာန် ဖြစ်နိုင်မည် မဟုတ်သည်ကိုမူ ပါဠိအဘိဓာန်ပြုစုသူတို့ သတိမူရမည့်အချက် ဖြစ်ပါသည်။

ဤသို့လျှင် ဤကျမ်းကို ဖတ်ရှုရသဖြင့် ပါဠိဘာသာ၌ ကွယ်ပျောက်သကဲ့သို့ ဖြစ်နေသော အလွန် နှစ်သက်ဖွယ်ကောင်းသည့် ပုဒ်နှစ်ပုဒ်ကို ပြန်လည် ဖော်ထုတ်နိုင်မည်ဖြစ်ရာ ဤအချက် တခုတည်းဖြင့်ပင် ဤကျမ်းကို ဖတ်ရကျိုးနပ်သည်ဟု ဆိုချင်ပါသည်။

ဤပုဒ်များ အလားတူပင် မြန်မာမူတို့၌ မရှိသကဲ့သို့ဖြစ်နေသော မူကွဲများရှိပါသေးသည်။ ထိုမူကွဲများကိုလည်း ဤကျမ်းကို အထောက်အထားပြု၍ မြန်မာမူကွဲများအဖြစ် ဖော်ထုတ်နိုင်ပြန်ပါသည်။ ပုံစံတခုမျှ ပြပါမည်။ ဝေဿန္တရဇာတ် ပါဠိတော်, အဋ္ဌကထာတို့၌ "အစိရံ ဝတ တေ တတော၊ ပိတာ တံ ဒဋ္ဌုမေဿတိ" (ဋ္ဌ၊ ၇။ ၃၆၀)-ဟု ရှိ၍ "တာတော" (သီ၊ သျာ၊ ဗ္ဗ)-ဟု အောက်ခြေ၌ မူကွဲပြထားပါသည်။ ယင်းသို့

ပြထားသဖြင့် သီဟိုဠ်၊ ယိုးဒယား၊ အင်္ဂလိပ်မူတို့၌ တာတော-ဟု ရှိ၍ မြန်မာမူတို့၌ တတော-ဟု ရှိသည်ဟု ဆိုလိုပါသည်။ သို့သော် ဤကျမ်းဆရာက "ဆန်းဒီဃ" (ဆန်းကြောင့် ဒီဃ ပြုထားသည်)ဟု ဆိုထားရာ (နှာ-၁၆၂)ဤကျမ်းဆရာတို့ လက်ထက်က တာတော-ဟုပင် မြန်မာမူများ၌ရှိကြောင်း သိနိုင်ပါသည်။ ဤသို့လျှင် ဤကျမ်းကို ဖတ်ရသဖြင့် ပါဠိစာပေ၌ လျှို့ဝှက်ချက်များစွာကို ဖော်ထုတ်နိုင်မည် ဖြစ်ပါသည်။

ပြဆိုခဲ့ပြီးသည့်အတိုင်း ဤကျမ်းသည် အများ လေးစားလောက်သည့် အဖိုးတန်ကျမ်း ဖြစ်ပါသည်။ ထို့ကြောင့်လည်း နှောင်းခေတ်ပုဂ္ဂိုလ်များ ဤကျမ်းကို ကိုးကား၍၎င်း၊ ဤကျမ်းမှ အချက်အလက်တို့ကို ယူ၍၎င်း ရေးသားခဲ့ကြသည်တို့ကို တွေ့ရခြင်း ဖြစ်ပါသည်။ နိဿယကျမ်းများ ပြုစုရာတွင် နာမည်ကြီးသော မြည်ဆရာတော်ဘုရားကြီးသည် "ပိယတော ဇာယတီ သောကော၊ ပိယတော ဇာယတီဘယံ"-၌ ဇာယတီ-ဟု ဤဒီဃနှင့်သာ အမှန်ဖြစ်ကြောင်း ဆုံးဖြတ်ရာ၌ "ဇာတ်ဝိသောဓန၌ အရိယဝံသ မဟာထေရ်ကျော် ဤအဆုံးအဖြတ်ကို မိန့်တော်မူသည်"ဟု ကိုးကား ရေးသားတော်မူခဲ့ပါသည်။ ထိုအဆိုကို ဤကျမ်း နှာ-၁၇-၌ တွေ့နိုင်ပါသည်။ ထို့ပြင် ယောမင်းကြီး ဦးဖိုးလှိုင်ကလည်း အထက်၌ ပြဆိုခဲ့သော ဗြဟ္မစရေ-ပုဒ်နှင့် လ္လဃေရ-ပုဒ်တို့ကို သူ၏ သဒ္ဒသင်္ဂဟကျမ်း၌ ထည့်သွင်းပြဆိုထားသည်ကို တွေ့ရပါသည်။ ဤသဒ္ဒသင်္ဂဟကျမ်းလည်း ပေဘာဝ၌သာ ရှိသေးသော ကျမ်းတစောင် ဖြစ်ပါသည်။

## ကိုးကားသော ကျမ်းအချို့

ဤကျမ်း၌ ပါဠိတော်,အဋ္ဌကထာ,ဋီကာများအပြင် ဂန္ထန္တရ ခေါ် ကျမ်းပေါင်းများစွာကို ကိုးကားထားပါသည်။ အချို့ အရာတွင် ကျမ်းအမည်ကို ဖော်၍ ကိုးပြီး အချို့အရာ များ တွင်မူ ကျမ်းအမည်ကို မဖော်ပဲ ကိုးသည်ကို တွေ့ရပါသည်။ ကျမ်းအမည်ကို ဖော်၍ကိုးသော ကျမ်းတို့တွင် သန္နိဋ္ဌိဝိသောဓနီ, ဘာသကရိ, ဥပါသကာလင်္ကာရ, စန္ဒသူရိယဂတိဒီပနီ, မဟာဝံသ, ဒါဌာဓာတုဝံသ ကျမ်းတို့မှာ မြန်မာနိုင်ငံ၌ ပုံနှိပ် အဖြစ်သို့ ရောက်ကြသေးဟန် မတူပါ။ ထိုတွင် ဘာသကရိ ကျမ်းသည် မည်သို့သော ကျမ်းဖြစ်သည်ကို မသိရပါ။ ယင်း ကျမ်းအမည်ကို စူဠဂန္ထဝံသနှင့် ပိဋကတ်တော်သမိုင်း မှာ လည်း မတွေ့ရပါ။ သို့သော် ဆပ္ပဒထေရ် ပြုစုသော သုတ္တနိဒ္ဒေသ ကျမ်း၌ကား ယင်းကျမ်းကို ကိုးကားထားသော နေရာ ၇- နေရာကို တွေ့ရှိရပါသည်။ ထို့ကြောင့် ယင်းကျမ်းကား သဒ္ဒါ ကျမ်းတမျိုးပင်ဟု မှတ်ယူရန် ရှိပါသည်။ စန္ဒသူရိယဂတိဒီပနီ ကိုကား သီဟိုဠ်ကျွန်း အနုရာဓမြို့နေ အသမယောသဆရာ စီရင် သည်ဟု ပိဋကတ်တော်သမိုင်း၌ ဆိုပါသည်။ ဤကျမ်းလည်း ပေမူအဖြစ်ဖြင့်သာ ရှိသေးသည်ဟု ထင်ပါသည်။ ဥပါသကာ လင်္ကာရ ကျမ်းကိုကား မူလဋီကာပြု အရှင်အာနန္ဒာစီရင်သည်ဟု ဆိုပါသည်။ မြန်မာပြည်၌ ယင်းကျမ်းကို ပုံမနှိပ်ဖူးသေးဟု ထင် ပါသည်။ သီဟိုဠ်ကျွန်း၌ကား သာသနာနှစ် ၂၄၆၉-ခုနှစ်ကပင် ရိုက်နှိပ် ထုတ်ဝေခဲ့ပါသည်။ လွန်ခဲ့သည့် နှစ်အနည်းငယ်ကလည်း

လန်ဒန် ပါဠိစာပေအသင်းကြီးက အင်္ဂလိပ်အက္ခရာဖြင့် ရိုက်နှိပ် ထုတ်ဝေခဲ့ပါသည်။

ဤဇာတ်ဝိသောဓနကျမ်း၌ "ဝိနည်းဥတ္တရသိဥ္စည်း"ဟု တွေ့ရသည်(နှာ-၁၃၇)။ယင်း ကျမ်းကိုးပြ ပါဠ်ကို ရှာဖွေ စူးစမ်းသောအခါ အရှင်ဗုဒ္ဓဒတ္တမထေရ် ရေးသော ဝိနယဝိနိစ္ဆယကျမ်း၌ တွေ့ရပါသည်။ သကရာဇ် ၁၀၄-ခုနှစ်ထိုး ပုဂံ ဝက်ကြီးအင်း တက်နွယ်ကျောင်း ကျောက်စာ(ဒုမျက်နှာ၊ ကြောင်းရေ-၃၈)၌ "ဝိနေည်သိန်စေည် ဥတြသိန်စေည်"ဟု ကျမ်းနှစ်ကျမ်းကို တွေ့ရပါသည်။ ထိုတွင် ပဌမကျမ်းကား ဝိနယဝိနိစ္ဆယဖြစ်၍ ဒုတိယကျမ်းသည် ဥတ္တရဝိနိစ္ဆယကျမ်း ဖြစ်ပါသည်။ ထိုနှစ်ကျမ်းတွဲကိုပင် ဤ၌ ဝိနည်းဥတ္တရသိဥ္စည်း-ဟု ခေါ်ခြင်းဖြစ်ဟန် တူပါသည်။ ခေတ်တူစာပေနှင့် ကျောက်စာမှတ်တမ်းတို့၌ ကျမ်းအမည် ဝေါဟာရတူ သုံးစွဲထားသည်ကို မှတ်သားရန် ဖြစ်ပါသည်။

ထို့ပြင် ဤကျမ်းဝယ် ဝိဓုရဇာတ်၌ ကဝိဝစနဟု ဆို၍ ဂီတာဿရေန-စသော ဂါထာကြီးတို့ကို ပြဆိုထားပါသည်။ ထိုဂါထာတို့ မူလပါရှိရာကျမ်းကို မသိရပါ။ သို့သော် ယင်းဂါထာတို့ကို သုဗောဓာလင်္ကာရဆရာသည်ပင် ရေးသားအပ်သည် ဆိုသော ယင်းကျမ်း၏ သီဟိုဠ်နိဿယဟောင်း၌ရင်း, မည်သည့်ခေတ်ကဟု အတိအကျ မသိရသော မြန်မာဆရာတော်တပါး စီရင်အပ်သော ယင်းသီဟိုဠ် နိဿယ၏ ပါဠိမြန်ဖြစ်သော

သုဗောဓာလင်္ကာရ ဋီကာသစ်၌ပင်း တွေ့ရပါသည်။ အကယ်၍ သီဟိုဠ်နိဿယမှယူ၍ အရှင်အရိယဝံသ ရေးခဲ့သည် ဖြစ်လျှင် ထိုခေတ်ကပင် မြန်မာနိုင်ငံ၌ သီဟိုဠ်နိဿယများကိုပါ တတ်ကျွမ်းနားလည်သော ဆရာများ ရှိနေပြီဟု ခန့်မှန်းနိုင်မည် ဖြစ်ပါသည်။

## တည်းဖြတ်ခြင်း

ဤကျမ်းကို တည်းဖြတ်ရာ၌ ကမ္ဘာအေး ဗုဒ္ဓသာသနာအဖွဲ့ (ယခု-သာသနာရေး ဦးစီးဌာန)က ပေမူတခုမှ ကူးယူထားသော လက်ရေးမူ တခုနှင့် မန္တလေးမြို့ မြတောင်တိုက်ရှိ ပိဋကတိုက်မှ ရသော ပေမူ-ဤနှစ်မူကို ညှိနှိုင်းတည်းဖြတ်ပါသည်။ လက်ရေးမူ၏ မှီရာဖြစ်သော ပေမူကို ယခု ရှာမရ၍ပင်း, ယင်းကို မူလ ပေမူနှင့် အပြည့်အစုံ ပြန်လည် မတိုက်ဆိုင်လိုက်ရသဖြင့်ပင်း များသောအားဖြင့် မြတောင်ပေမူကို ဦးစားပေး၍ တည်းဖြတ်ပါသည်။ ထို့ပြင် မြတောင်ပေမူ၌ လက်ရေးလက်သားလည်း ကောင်းသည်။ ပြင်ချက်များလည်း ပါသည်။ လက်ရေးမူဝယ် ရှေ့နောက်ပြန်နေသော နေရာများ၌ မြတောင်မူဝယ် အစဉ်မှန်သည်များကို တွေ့ရပါသည်။ ထို့ကြောင့် မြတောင်ပေမူသည် ဂရုတစိုက် တည်းဖြတ်ထားသော ပေမူဖြစ်ကြောင်း ထင်ရှားပါသည်။ ထို့ကြောင့်လည်း ယင်းမူကို ဦးစားပေးခြင်း ဖြစ်ပါသည်။

သို့သော် တနေရာတွင်မူ လက်ရေးမူကို ဦးစားပေးခဲ့ပါသည်။ လက်ရေးမူ နေရာအချို့တို့၌ "ထို့ကြောင့်မူလော" ဟု တွေ့ရပါ

တည်းဖြတ် ပြင်ဆင်ရသော လုပ်ငန်းမှာလည်း တကယ်လုပ်ကြည့်မှ တာဝန်ကြီးလှကြောင်း သိရပါသည်။ ပေမူဆိုလျှင် မည်သည့် ပေမူမဆို စာလုံးအမှားအယွင်း များသော မူများသာ ဖြစ်ပါသည်။ ရံခါ ပေစာရေး၏ လက်ရေးကို မရိပ်မိသဖြင့် ကြာရှည်စွာ စဉ်းစား၍ ဖော်ရသော စာလုံးတို့လည်း ရှိခဲ့ပါသည်။ ဤအကြောင်းကို ပေစာဖတ်ဖူးသူတိုင်း သိကြပါလိမ့်မည်။

ဤသို့လျှင် ကျမ်းပြုဆရာတော်သည် မိမိ၏ ကျယ်ပြန့်လှစွာသော ဗဟုသုတကို အသုံးပြု၍ ဤကျမ်းကို ရေးသားတော်မူခဲ့၏။ ပိဋကတ်ပျံ့ပြဟာ စာပေဦးဆောင်အဖွဲ့ကလည်း အတတ်နိုင်ဆုံး သန့်ရှင်းသပ်ရပ်၍ အကြည့်အရှုလွယ်, အရှာအဖွေလွယ်သော စာအုပ်အဖြစ်သို့ ရောက်အောင် မိမိတို့၏ ပင်ပန်းမှုကို ပမာဏမထားပဲ အားထုတ်ခဲ့ပါသည်။ ဤသို့ ကျမ်းဆရာ၏ ပညာစွမ်း, ပိဋကတ်ပျံ့ပြဟာ၏ စာပေဦးဆောင် ပုဂ္ဂိုလ်တို့၏ ဝီရိယစွမ်းအားတို့ကြောင့် ကြည့်ပျော် ရှုပျော် အခြေသို့ရောက်လာသော ဤကျမ်းစာကို ကြည့်ရှုလေ့လာ၍ မိမိတို့ လိုလားသော လောကီ, လောကုတ္တရာအကျိုးတို့ကို ရယူနိုင်ကြပါစေ-ဟု ဆုတောင်းပါသည်။

ကျမ်းပြုပုဂ္ဂိုလ်တို့က ကျမ်းများကို ပြုစုခဲ့ကြသော်လည်း ထိုကျမ်းတို့သည် ယခုအခါ၌ ပုံနှိပ်စာအုပ်အဖြစ်သို့ မရောက်လျှင် ရေးရကျိုး မနပ်ဟုပင် ဆိုရပါမည်။ ဤ ဇာတ်ဝိသောဓနကို သကရာဇ် ရှစ်ရာကျော်အခါက ရေးအပ်ခဲ့သည်ဖြစ်ရာ ဤကျမ်းသည် အနှစ် ၅၀၀-တိုင်တိုင် ပေစာဘဝ ကြည့်ရှုသူ မရှိ

သလောကဘာဝမှ ပိဋကဗျူဟာအဖွဲ့ ဝန်ဆောင် ပုဂ္ဂိုလ်တို့၏ ဘဏ်အား, လူအား, စေတနာအင်အား တို့ကြောင့် ယခု ာအုပ်အဖြစ်ဖြင့် အလွယ်တကူ ကြည့်ရှုနိုင်သည့် အဖြစ်သို့ ရောက်ခဲ့ပါပြီ။ ကျမ်းဂန်နှံ့စပ်၍ ထက်မြက်သော ပညာရှင် တဦး၏ စွမ်းပကားသည် ကွယ်ပ တိမ်မြုပ်နေရာမှ အကျိုး ခံစားလိုသူတို့ ခံစားနိုင်ရန် စာအုပ်အဖြစ် ထွက်ပေါ်လာပြီ ဖြစ်ပါသည်။ ထိုသို့ အနှစ် ၅၀၀-တိုင် ပေစာဘဝ၌သာ နေခဲ့ရသော အဖိုးတန် ကျမ်းတကျမ်းကို ပုံနှိပ်စာအဖြစ် ရောက် အောင် ပိဋကဗျူဟာ အဖွဲ့က ဖော်ထုတ် ပူဇော်ခွင့် ရသဖြင့် များစွာ ဝမ်းမြောက်ခြင်းဖြစ်ရပါသည်[၁]။

ဤသို့ ဆောင်ရွက်နိုင်ခြင်းမှာလည်း ပိဋကဗျူဟာအဖွဲ့အား ပါဝင်လှူဒါန်းကြသော အနယ်နယ်အရပ်ရပ်ရှိ ရဟန်းရှင်လူ အပေါင်းတို့၏ စေတနာ, သဒ္ဓါတရားကြောင့်ပင် ဖြစ်ပါသည်။ သို့ဖြစ်၍ ဓမ္မဒါနကုသိုလ်ရှင် အပေါင်းတို့သည်လည်း မိမိတို့၏ ကုသိုလ်ကောင်းမှုကို တစေ့စေ့ အောက်မေ့ကာ စာဂါနုဿတိ ပွားများလျက် မြတ်စွာဘုရား၏ ပရိယတ္တိသာသနာတော်ကြီး ကို အစဉ်စောင့်ရှောက်နိုင်ကြပါစေ၊ထို့ပြင်လည်း ဤကျမ်းစာ မှာ သာသနာတော်၌ ကျေးဇူးများလတ္တံ့သော စာကောင်း ပေမွန်များကို ပြန်လည်ဖော်ထုတ်လျက် မဟာဿာဟ ဝီရိယ

၁။ ဇာတ်ဝိသောဓနကို ပုံနှိပ်စာအုပ်အဖြစ် တွေ့ဘူးသည်- ဟုလည်း ပြောကြပါသည်။ ထိုသည် ဤဇာတ်ဝိသောဓန ဟုတ်, မဟုတ် အသေအချာ မသိ-ဟုလည်း ဆိုပါသည်။ ထိုစာအုပ်ကိုစုံစမ်းရှာဖွေ၍ မရပါ။

ကောင်းကောင်းဖြင့် စုပေါင်းလုပ်ဆောင်လျက်ရှိနေသည့် ပိဋက ဗျူဟာအဖွဲ့ကြီးနှင့် လက်တွဲ၍ အမြဲ သာသနာပြုလုပ်ငန်းတို့ကို အစွမ်းရှိသမျှ လုပ်ဆောင်နိုင်ကြပါစေ-ဟု ဆုတောင်းမေတ္တာ ပတ္ထနာ ပြုလိုက်ရပါသည်။

ပိဋကဗျူဟာ
စာပေဦးဆောင်အဖွဲ့

# မှတ်တမ်းတင်ပါသည်

ပရိယတ္တိသာသနာတော် အတွက် တန်ဘိုး ကြီးမား လှသော ဤ ဇာတ်ဝိသောဓနေကျမ်း ကို ပေမူမှ ပုံနှိပ်မူသို့ ဖော်ထုတ်ပူဇော်ရာ၌ အစ-အဆုံး ချောမောပြီးစီးကောင်း မွန်အောင် ဦးစီးဆောင်ရွက် ပေးတော်မူသော ပိဋက ဗျူဟာ-စာပေဦးဆောင်အဖွဲ့ဝင် မန္တလေးမြို့ စိန်ပန်းရပ် အဘယာရာမ့်ရွှေဂူတိုက် ဒုတိယနာယကဆရာတော် အရှင် သီလာနန္ဒာဘိဝံသ အား ပိဋကဗျူဟာ-ဗဟိုအမှုဆောင် အဖွဲ့မှ အထူးကျေးဇူးဥပကာရ တင်ရှိပါကြောင်း လေး စားစွာ မှတ်တမ်းတင်အပ်ပါသည်။

ပိဋကဗျူဟာ
ဗဟို အမှုဆောင်အဖွဲ့

# ဇာတ်ဝိသောဓနကျမ်း

## ပြင်ဆင်ဖတ်ရှုပါရန်

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၃ | ၁၀ | တ္တေ | တ္ထေ |
| ၁၃ | ၁ | ရေးသော | ရေသော |
| ၁၄ | ၁၀-၁၃ | ပဒ္ဓါ | ပဒ္မါ |
| ၁၅ | ၁၃ | (သဗ္ဗညု) | |
| | | ဝေနေယျဇ္ဈာသယ | ဝေနေယျဇ္ဈာသယ |
| ၂၀ | ၁၅ | အက္ခရာပျက | အက္ခရာပျက် |
| ၂၆ | အောက်ခြေ | မေမိတ္ထ(၃-နေရာ) | မေဓိတ္ထ(၃-နေရာ) |
| ၃၀ | ၁ | ရထားနိက | ရထာနိက |
| ၃၂ | ၁၄ | ဂေါမဏ္ဍပရိ | ဂေါမဏ္ဍလပရိ |
| ၃၂ | အောက်ခြေ-၂။ | ခိယေထ | ခီယေထ |
| ၃၅ | ၉ | အန္တမှိ | အန္တမှိ |
| ၄၁ | ၄ | ပိုလ်နှစ်သောင် | ပိုလ်နှစ်ထောင် |
| ၉၁ | ၂ | ဘိဒ | ဘိဒိ |
| ၉၁ | ၉ | ဂရု | ဂရူ |
| ၁၀၀ | အောက်ခြေ | သုတ္ထ | သုတ္တ |
| ၁၀၁ | ၂၁ | အပဟိဟူကျိုကော | အပဟိတုကျိုကော |
| ၁၁၅ | အောက်ခြေ-၃။ | ဂိတဿရေန | ဂီတဿရေန |
| ၁၂၀ | ၁၇ | သဘာဝယမဇ္ဈော | သဘာဝယမဇ္ဈေ |

(ဿ)

# ပြင်ဆင်ဖတ်ရှုပါရန်

| စာမျက်နှာ | ကြောင်းရေ | အမှား | အမှန် |
|---|---|---|---|
| ၁၂၅ | ၇ | မဟေသိယာ | မဟေသီသိယာ |
| ၁၃၀ | ၂၂ | (ခေါ၊ ၉၆) | (ခေါ၊ ၆၉) |
| ၁၃၈ | ၇ | ဝဋ္ဋိတာ | ဝဍ္ဍိတာ |
| ၁၅၃ | ၁၁ | မဟာမတိယာ | မဟာမဟိယာ |
| ၁၅၄ | ၅ | အပြဖ် | အပြစ် |
| ၁၅၈ | ၂၂ | ၌-ပဒက္ကမနံ | ၌(ပဒက္ကန္တံ-ကို) ပဒက္ကမနံ |
| ၁၆၀ | ၇ | ပိုဒ်ကို | ပုဒ်ကို |
| ၁၆၀ | ၁၀ | ကမဏ္ဍိုလုံ | ကမဏ္ဍလုံ |

# ဇာတ်ဝိသောဓနကျမ်း

# နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

# တေမိယဇာတ်

ဇာတ်အဋ္ဌကထာ-ဆဋ္ဌမတွဲ
စာမျက်နှာ-၁

" ပုနာပရံ ယဒါ ဟောမိ၊
ကာသိရာဇဿ အတြဇော။
မူဂပက္ခောတိ နာမေန၊
တေမိယောတိ ဝဒန္တိ မံ"။-

ဟု စရိယာပိဋက (၄၁၂) ၌ ဟောတော်မူရကား ဣဒံ မူဂပက္ခဇာတကံ, ဣဒံ တေမိယဇာတကံ-ဟု နှစ်ပါး စွဲကောင်း၏။

ဇာတ-သဒ္ဒါပုဒ် ကေ-ဓာတ်။ ကေ-သဒ္ဒေ-ဟု ဖွင့်။ မယှံ ဣဒံ, မယှံ ဣဒန္တိ ကန္ဒတီတိ မယှကော-ဟူ၏သို့ ဇာတံ ကိယတိ ကထိယတိ ဧတေနာတိ ဇာတကံ။ ဧတေန ဝစနေန၊ ဖြင့်။

ဇာတံ၊ ဖြစ်ဘူးလေပြီးသော အဖြစ်ကို။ ကိယတိ ကထိယတိ၊ ဆိုအပ်၏။ ဣတိ၊ ကြောင့်။ ဇာတကံ၊ မည်၏။ ဒေသနာပါဠိ ရ၏။ ဇာတကံ သမောဓာ နေသိ-ဝယ်သော်ကား ဇာတမေဝ ဇာတကံ-ပြု။

ဟော ဉ်-သုတ်ကို ထောက်ရှု၍ ကေဒိဝသဥ္ဇ-လိုသည်၊ ဟိ-မလို။ ဤသည့် ဟိ-ကား သမတ္ထနှ၊ သမတ္ထန-ဟူက တထာ ဟိ-ဖွင့်။ "ဟိတိ သမတ္ထနေ။ တထာ ဟိတိ အတ္ထော"-ဟု သုဗောဓာလင်္ကာရဋီကာ (၂၄၃-ဂါထာဖွင့်)။

နိက္ခမပါရမိံ ဝဏ္ဏယန္တော-ဟု ကေဝုစ်သာ လိုသည်၊ ပါရမိ-ယော-ဗဟုဝုစ် မလို။ မဟာဘိနိက္ခမနံ အာရဗ္ဘ၊ န ဘိက္ခဝေ ဣဒါနေဝ။ ပ ။ မဟာဘိနိက္ခမနံ နာမ အနစ္ဆရိယံ၊ ဤနှစ် ပါးကို ရှု။

ဘိက္ခဝေ, ဘိက္ခဝေါ- ဟု ဘုရား အာလုပ်။ ဘိက္ခဝေ-ကား သန္ဓေဖြစ်, မဖြစ် နှစ်ပါး။ ဤနှစ်ပါးလည်း စုဏ္ဏိယ ပုဒ်သာ။ ဂါထာဝယ် မရှိရာ။ ဘိက္ခဝေါ-ကား ဂါထာ, စုဏ္ဏိယ ပုဒ်နှစ်ပါး ရှိရာ၏။ စုဏ္ဏိယပုဒ်သော်ကား သန္ဓေသာ၊ သန္ဓေမဖြစ်သည် မရှိ။ ဘိက္ခူ အာမန္တေသိ၊ သောတုကာမတ္တ ဘိက္ခဝေတိ။ သန္ဓေဖြစ်။ န ဘိက္ခဝေ ဣဒါနေဝ-ကား သန္ဓေ မဖြစ်။ အရညေ ရုက္ခမူလေ ဝါ၊ သုညာဂါရေဝ ဘိက္ခဝေါ။ ဘဂဝါ ဘိက္ခူ အာမန္တေသိ ဘိက္ခဝေါတိ။ ဤသို့ ဂါထာ, စုဏ္ဏိယပုဒ် ဘိက္ခဝေါ နှစ်ပါး။ သာဝကတို့အာလုပ်၌ ဘိက္ခဝေ-

ာ၊ ဘိက္ခဝေါ မရှိ။ ဘိက္ခဝေ ရှိသော်လည်း သန္တော။
ာရိပုတ္တော ဘိက္ခူ အာမန္တေသိ အာဝုသော ဘိက္ခဝေတိ °။

စက္ခုဒွါရေ ရူပန္တတ္တံ ကာရေတိတိ စက္ခုဒွါရဘာဝေ တံဒွါရိ
ကဟိ အတ္တနော ရူပဘာဝံ ပရမိဿရဘာဝံ ကာရယတိတိ
ဝတ္တော။ တံ ဟိ တေ ရူပဂ္ဂဟာဏေ အတ္တာနံ အနုဝတ္တေတိ၊
တ စ တံ အနုဝတ္တန္တိတိ။ **အဘိဓမ္မဋီကာ** (မူလဋီ၊ ၂။ ၇၈)။

ရဇ္ဇံ **ကာရေဟိ** ဘဒ္ဒန္တေ၊ ကိံ အရညေ ကရိဿသိတိအာဒီသု
ကုံ အတ္တနော ရာဇဘာဝံ အမှေဟိ **ကာရာပေဟိ**။ အတ္တာနံ
ဇ္ဇေ အဘိသိဉ္စာပေဟိ၊ မယံ တံ ရဇ္ဇေ အဘိသိဉ္စိတုကာ-
ာတိ အတ္တော။ ဖြဟ္မဒတ္တော ရဇ္ဇံ **ကာရေတိ**တိ ဧတ္တ ဖြဟ္မ
တ္တော အတ္တနော ရာဇဘာဝံ မဟာဇနေန **ကာရယတိ**တိ
ဝတ္တော။ သာသနဿိံ ဟိ ကာရိတဝိသယေ ကရဏဝစနံ
ပယောဂတ္တညေဝ ဒီပေတိ။ **သဒ္ဒနီတိ** (ဓာ၊ ၃၈၈)။ ဤနည်း
ကိုမှီ၍ **ကာသိကရာဇာ** နာမ ရဇ္ဇံ **ကာရေသိ**-ကို အနက်
ာမှန်။

တာသု ကောပိ-ကို ရှု၍ န လဘိ-သာ လိုသည်၊ န
ာဘိံ သုံ-မလို။

န ဂစ္ဆန္တီတိ နဂါ။ မသွားတတ်သော အိမ်, ပြာသာဒ်-
သည်ကို ယူ။ နဂါ ဧတ္တ သန္တီတိ နဂရံ။ အိမ်ရှိရာ။
ဂရေ ဇာတာ **နာဂရာ**။ ပြည်သူ။ **နာဂရာ**-ကား ပုဒ်ပျက်။

---

၁။ နီတိ၊ ပဒ။ ၂၅၁-ကြည့်။

ဝံသာနုရက္ခိတော မလို၊ ဝံသာနုရက္ခကော-ဟု စရိယာပိဋက ပါဠိ(စရိယာ၊ ၄။၂၀၉)။ အနုရက္ခိဿတီတိ အနုရက္ခကော။ ဝံသဿ အနုရက္ခကော တထာ။ အနာဂတ်၌ ဏွု၊ တု-ပစ္စည်းကို သဒ္ဒနီတိ (သုတ္တ။၁၂၉၀) ဆို၏။ ကရိဿတီတိ ကာရကော၊ ဘုဥ္ဇိဿတီတိ ဘောတ္တာ-ဟု ပြု၏။

## စာမျက်နှာ-၂

ပတ္တေန္တိယောပိ-လိုသည်၊ ပတ္တေန္တယောပိ-ဟု အဂ္ဂယော, မူနယောသို့-မရှိကောင်း။

စန္ဒကုမာရော, နန္ဒကုမာရော-ကို ရှုသော် စန္ဒ, နန္ဒ သဒ္ဒါ ဣတ္ထိဟော မမြဲရကား ခတ္တိယကညာ-ကဲ့သို့ ပုလ္လိင်၌ အာ ကျေကောင်းလျက် စန္ဒာဒေဝီဝယ် အာမကျေသည်ကား အပ္ပက။ နန္ဒာဒေဝီလည်း ဤနည်းတူ။ တနည်းတုံ စန္ဒဒေဝီ,နန္ဒဒေဝီ-ရှိသော်ကား သမာသ်၊ စန္ဒာ ဒေဝီ နန္ဒာ ဒေဝီ-ရှိသော်ကား ဝါကျ [၁]။ဝါကျကား ဝေ နန္ဒာယ ဒေဝိယာ၊ ဝေဒေဟော ဆေဒယိဿတိ-ကို ရှု။ ထို့ကြောင့် စန္ဒာ ဒေဝီ နာမ, စန္ဒဒေဝီ နာမ နှစ်ပါး ရှိကောင်း၏။

သီလသမ္ပန္နော-မလို၊ သီလသမ္ပန္နာ-လိုသည်။

တယိ မနုဿလောကေ ဥပပန္နေ-လိုသည်၊ မနုဿလောကံ-မလို။

---

၁။ ရူပသိဒ္ဓိ ၁၈၆-ကြည့်။

အယံ ကာသိကရညော – ဝယ် အယံ-ကို ကာသိကရညောနှင့် ယှဉ်အပ်။ ကာသိကရညော၊ ၏။ စန္ဒာ နာမ အယံ အဂ္ဂ ဟေသီ–ဟု သမ္ဗန်။

## စာမျက်နှာ–၃

နေ့နှင့် ညဉ့်သော် နာရီခြောက်ဆယ်တည်း၊ တနာရီသော် ထိန်းလေးယောက်စီ နှင့်နှင့် ဖြစ်ရကား လေးယောက်သည် ကြိမ်ခြောက်ဆယ်ကို ရည်၍ စတုသဋ္ဌိ ဓာတီယော-ဟူသည်။ တသန္ဓံ သဋ္ဌိ စတုသဋ္ဌိ။နှစ်ရာ့လေးကျိပ် ၁။

## နှာ–၄

တိန္တဒိဝသေ ဇာတော တေမိယော။တိမု–ဓာတ်။တိမု အဒ္ဒ ဘာဝေ–ဖွင့်။အဒ္ဒဘာဝေ–ကား တိန္တဘာဝေ၊စွတ်သောအဖြစ်။ ဣယ–ပစ္စည်း။

သကဏ္ဍကာဟိ၊ အဆူးတပ်ကုန်သော။ကသာဟိ၊ ကြိမ်လုံး။ ဘာသာဟိ–မလို။သူလာရောပနံ၊တံကျင်တိုင်သို့ တင်ခြင်း။

## နှာ–၅

ပဏ္ဍိတိ ဂစ္ဆတိ ဇာနာတီတိ ပဏ္ဍာ။ပညာ။ပဋိ–ဓာတ်။ပဋိ ဂတိယံ-ဖွင့်။သိခြင်း။ပဏ္ဍာယ ဣတော ဂတော ပဝတ္တောတိ ပဏ္ဍိတော။ပုဂ္ဂိုလ်။ပဏ္ဍာ–သဒ္ဒါ၊ပပဒ ဣ–ဓာတ်။ဣ ဂတိမှိ–ဖွင့်။

---

၁။ တေမိယဇာတ်တော်ကြီးဝတ္ထုဦးလည်း နှစ်ရာ့လေးကျိပ် ဟုပင် ဆိုသည်။

ဂတိမို၊ဖြစ်ခြင်း။တ-ပစ္စည်း။ပဏ္ဍိတဿ ဘာဝေါ ပဏ္ဍိစ္စံ။ ပညာ လည်းကောင်း။ ပဏ္ဍိစ္စ ဧဝ ပဏ္ဍိစ္စယံ။ယ-အနက် မရှိ။ပဏ္ဍာ, ပဏ္ဍိစ္စံ, ပဏ္ဍိစ္စယံ–ဤသုံးပါးကား အနက်တူ၊ပညာဟောနိုင်နိုင် တည်း။ထို့ကြောင့်အဋ္ဌကထာ၌ ပဏ္ဍိစ္စယန္တိ ပဏ္ဍိစ္စံ၊အယမေဝ ဝါ ပါဌော-ဟူသည်။မာ ပဏ္ဍိစ္စံ ဝိဘာဝယ-ဟူ၍သော်လည်း ပါဌ်ဟောင်းရှိ၏-ဟူလိုသည်။ ဝိဘာဝယ-ကား တုမ္ဟယောဂ ပဥ္စမီ ဟိ-ကျေသတည်း။ "မာ ဝိဘာဝယ မာ ပကာသေဟိ"။ စရိယာပိဋက(စရိယာ၊ဌ။၂၁၁)။ထို့ကြောင့် တံ-ဟု ကတ္တား။ ဘဝံ မာ ဝိဘာဝေယျ-ဟု ယျေ-ကြံကုန်၏။ကျမ်းနှင့် မညီ။ ထို့ကြောင့် မူလော° ဗာလမတော ဘဝ-ဟု ရှိသည်။

သြစိနာယတု-ကား အဝရှေး စိနေ-ဓာတ်၊စိနေ မညနာယံ-ဖွင့်။အောက်မေ့ခြင်း။ဧ-ကို အာယ-ပြု၊ဓာတွန် မကျေ။ဂိလာ ယတိ-ကဲ့သို့။ဂိလေ ပိတိက္ခယေ-ဟုဖွင့်။

တေတံ-ကို တေ+တံ-ဟု ခွဲ။

မေ အမ္ဗ-လိုသည်၊အမ္မ-မလို။ အမ္ဗာ, အမ္ဗာ-စသည် အမိ ဟော ။ "အမ္မမ္ဗာ ဇနနီ မာတာ၊ဇနေတ္တိ ဇနိကာ ဘဝေ"။ အဘိဓာန် (၂၄၄)။

## နှာ-၆

ဘဝိတဗ္ဗမေတ္တ ကာရဏေန-၌ ကာရဏေန၊သည်။ဘဝိတဗ္ဗ-ဟု ပေး။ပဋ္ဌမာ-ကေဝုစ်-ဘောဟော-နပုံသာ ဘဝိတဗ္ဗ-ပုဒ် ရှိရာ သည်။ဤပုဒ် ကတ္တားလည်း တတိယန္တသာ ဖြစ်ရာသည်။

---

၁။ မှတ်လော။(မြ။နောက်၌လည်း နည်းတူ)

“ ဘဝိတဗ္ဗပဒံ ဟောတိ၊
သဗ္ဗညုဝရသာသနေ။
ပဋ္ဌမေကာဝဓော ဘာဝ-
ဝါစကာဠ နပုံသကံ”။(နီတိ၊ပဒ။၃၃၉)။

နှာ-၇

အဂ္ဂိနော၊ မီးမှ။ ဘာယန္တိ။ ဘယအယှဉ် အပါဒါန်။ မတ္တာဟတ္ထိနော ဘာယန္တိ-လည်း အတူ။စရိယာပိဋကဋ္ဌ(၄။၂၁၂) ကား အဂ္ဂိတော မတ္တာဟတ္ထိတော-ဟူလျှင်းလေ၏။

နှာ-၈

ကာလကဏ္ဏီ-မလို၊ ကာဠကဏ္ဏီ-လိုသည်။ “အလက္ခိ ကာဠကဏ္ဏိတ္ထီ၊အထ လက္ခီသိရိတ္ထိယံ”-ဟု အဘိဓာန်(၈၂)။ ကာဠကရောတီတိ ကာဠကဏ္ဏီ။ ကာဠံ ကာဠဝဏ္ဏသဒိသံ၊ မည်းသော အဆင်းနှင့် တူသောသဘောကို။ ကာဠ-သဒ္ဒူပပဒ ကရ-ဓာတ်၊ ဏ-ပစ္စည်း။ ဤကာရန္တ။ အဘိဓာန်ဋီကာ(၈၂ ဂါထာဖွင့်)။ စရိယာပိဋကပါဠိ(၄၁၃)၌လည်း-

“ တတော မေ ဟတ္ထေ စ ပါဒေ စ၊
ဇိဝှံ့ သောတဉ္စ မဒ္ဒိယ။
အန္ဓနတံ မေ ပယိတ္ဂာ၊
ကာဠကဏ္ဏီတိ နိန္ဒယုံ”။-ဟု ကာဠကဏ္ဏီ-ရှိ၏။

နှာ-၁၁

စတုဗ္ဘိတ္တိကံ၊ နံရံလေးဘက်ရှိသော-ဟူလိုသည်။ စတုဗ္ဘိတ္တကံ-မလို။

နှာ-၁၄

ဝါတပုဏ္ဏဘသ္တစမ္မံ-မလို၊ ဝါတပုဏ္ဏ ဘသ္တစမ္မံ-လိုသည်။ ဘသ္တ-သဒ္ဒါ သာ၊ရေ အိတ်-ဟော။ "ဘသ္တာ စမ္မပသိဗ္ဗကံ"-ဟု **အဘိဓာန်** (၅၂၆)။ ငါးရာတွင် [၁] "သတ္တု ဘသ္တဇာတကံ" (ဇာ၊ ၁။၁၆၁)-ဟူ၏။

ကိံ နု သန္တရမာနောဝ။ ပ။ ကိံ ကာသုယာ ကရိဿသိ။ ဤ၌ ရှေးကိံ-ကား ပုစ္ဆာ၊ နောက် ကိံ-ကား ဂရဟာ-ဟု ဆိုစကုန်၏။ **သဒ္ဒနီတိ** (ပဒ၊ ၃၇၁)၌ရှေး ကိံ-ကား ကာရဏ ပုစ္ဆာ၊ **နောက်** ကိံ-ကား ကိစ္စပုစ္ဆာ-ဟူ၏။

ရဍ္ဎော သမိဇ္ဈိတ္တော-ဝယ် ရဍ္ဎော မလို၊ ရညာ-လိုသည်။ **စရိယာပိဋက** (၄။၂၁၇)၊ ပါဠိဇာတ်တို့၌လည်း ရညာ-သာ ရှိ၏။

အ-သော ဟူက နားပင်းသည် ပြီး၏-ဟု အဋ္ဌကထာ၌ ဆိုသည်ကား စကားတုံ့ မပြန်တတ်ခဲ့ရကား မကြားသည် တလည်လည်-ဟု ဆိုသတည်း။ အ-လျှင်နားပင်းမြဲဖြစ်၍ မဆို။ အ-သော်လည်း နား မပင်းခဲ့က ဟတ္ထဝိကာရ-စသည် မူတတ်

---

၁။ ငါးရာ့ငါးဆယ် ဇာတ်ပါဠိတော်၌-ဟူလို။နောက်၌လည်း နည်းတူ။

၏။ ထို့ကြောင့် မူလော နားပင်းခြင်းကို အလိုစမ်း အသီး ဆိုသကား။ "တိဏ္ဏံ အင်္ဂါနိ အမိဋ္ဌာယဟိ"(ဇာ၊ ၄၊ ၆။၅)-ဟု နတ်သမီး သင်ပေးသောအခါလည်း အ-လျှင် နားပင်းတပြီး ကား သုံးပါးဟူဘွယ် မရှိ။ အကျဉ်း သင်အပ်သောအခါဖြစ်၍ နှစ်ပါးကို ဆောက်တည် ဆိုရာသတည်း။ ထို့ကြောင့် အ-လျှင် နား မပင်း။အဘိဓာန်၌လည်း "ဗဓိရော သုတိဟီနော ထ၊ မူဂေါ သုညဝစော ဘဝေ"(၃၂၂)ဟုဆို၏။

နှာ-၁၅

န ပင်္ဂုလော န စ ပီဂ်ဳလော-ဟု ရှိသည်၊ ပုဒ်ပျက်တည်း။ န ပင်္ဂုလော န စ ဝိကလော-ဟု ပါဠိဟောင်း ပါဠ်ဇာတ်ရှိ၏။ ပင်္ဂုလော-ကို ပင်္ဂုလော-ဟု ဖွင့်လိုသည်။ "ပင်္ဂုလော ကာလေ ဗလေ သာချေ၊သခီဝ ါဇေသု ပင်္ဂုလေ"-ဟု အဘိဓာန် အနေ-ကတ္ထ(၈၆၅)ဆို၏။ ကာလေ၊အခါ။ ဗလေ၊အား။ သာချေ၊ ပြီးစေအပ်သောအမှု။ သခီ၊ခင်ပွန်း။ ဝါဇ၊ အတောင်။ပင်္ဂုလ၊ ငဆွံ့။စရိယာပိဋကပါဠိ(၄၁၃)၌ "မူဂေါ အဟောသိံ ဗဓိ ရော၊ပင်္ဂုလော ဂတိဝိဝဇ္ဇိတော"-ဟု ရှိတုံ၏။အဋ္ဌကထာ(၂၁၂)လည်း "ပင်္ဂုလောတိ ပီဌသပ္ပီ"-ဟု ဖွင့်၏။ ထိုသို့ ရှိရကား ပင်္ဂုလော, ဖင်္ဂုလော ဤနှစ်ပါးကား အနက်အတူ။ အဘိဓာန် (၃၂၀)ကား ပင်္ဂုလော-စသည် ငါးပုဒ်ကို ငဆွံ့ဟော-ဟူ၏။ ပင်္ဂုလော-ကို မဆို။

ဋီကာ၌လည်း "ဝိဂတာ အက္ခသဒိသာ ဇင်္ဃာ ယဿာတိ ဝိကလော ပင်္ဂုလော"-ဟူ၏။ အက္ခာ ဝိယ အက္ခာ။ ဝင်ရိုး

ကဲ့သို့။ မြင်းခေါင်းကို ဝင်ရိုးကဲ့သို့ ဟူသတည်း။ ပဂတာ
အက္ခာ ယဿ သော ပက္ခော။ မြင်းခေါင်း ကင်းသောသူ။
ဝင်ရိုးမဝ ပ်သော ရထား မရွေ့တတ်၏သို့ မြင်းခေါင်း မရှိ
သော် မသွားတတ်-ဟူလိုသည်။ ဤသို့ ပက္ခောကို ပ+အက္ခော
ခွဲ၍ ပ-ကို ပဂတ-အနက် ကြံမူလည်း ပက္ခော-ပုဒ်နေ။ဖက္ခော-
ဟု ဖအက္ခရာနှင့်ရှိသော် ပြန်သည်-ဟူပါကောင်း၏။ ဆရာ
တချို့ကား ပင်္ဂုလဒ္ဓါ ယထာ ဂန္တုံ-စသည်ကို ရှု၍နပက္ခော
န စ ပင်္ဂုလော-ဟု ပြင်၏။

"ပင်္ဂုလော ပီဌသပ္ပိ စ၊
ပင်္ဂု ဆိန္နိရိယာပထော။
ပက္ခော ခဉ္ဇော တု ကောဏ္ဍော ထ၊
မူဂေါ သုညဝစော ဘဝေ"။-

ဟူသော အဘိဓာန်၌လည်း ပင်္ဂုလော။ပ။ ပက္ခော-ဤငါးပုဒ်
ကို ငဆွံ့ဟောသည်-ဟူခဲ့ရကား န ပက္ခော-ရှိပြီးလျက် န စ
ပင်္ဂုလော-ဟု ထပ်ခဲ့ရာသတည်း။ ထို့ကြောင့်ရကား န ပက္ခော
န စ ပီကလော-ရှိသော ပါဠိပုဒ်ပါ၌ ဇာတ်ကိုလျှင် ယုံကြည်
ရာ၏။ တချို့သော သဒ္ဒါကျမ်း၌ နာဟံ အသန္တိတာ ပက္ခော-
(ဇာ၊ဌ။ ၆။ ၂၀)ဟုဆောင်၍ ပင်္ဂုလ-ကို ပက္ခ ရေးသည်-ဟူ၏။
ဝနေ၊တော၌။မံ၊ငါ့ကို။ ဧ၊အကယ်၍။ တုံ၊သည်။နိက္ခဏ၊
မြုပ်အံ့ ။ဝံ သတိ၊ဤသို့ မြုပ်သည်ရှိသော်။အမေ့၊မသင့်သော
အမှုကို။ ဘဝံ၊ သင်သည်။ ကယိရာ ကရေယျ၊ရာ၏။ကယိရာ-
၌ ယျေ-ကို သုတ်ကြီးဖြင့် အာ-ရေးသည်ဖြစ်၍ တုံ-ကတ္တား

မဖြစ်ကောင်း။ ကယိရာ-ပုဒ်နေ၊ကရိယာ အက္ခရာပြန်။ "ခြေကာရာ စ သံယောဂ ပုဗ္ဗာ ရဿာ ဝ ဝုစ္စရေ"-ဟု သန္ဓိဝိသောဓနီ-စသော သဒ္ဒါကျမ်း၌ သံယုဂ်ရှိသောပုဒ် ရှေးက ၄,သြ-နှစ်လုံးကို ရဿကဲ့သို့ ရွတ်အပ်သော-ဟူ၏။သဒ္ဒနီတိ (သုတ္တ။ ၂၂) ရူပသိဒ္ဓိ(၄)တို့ကား မခြေ တို့၊ ပုတ္တော တျာဟံ-ဝယ် ရဿမရွတ်အပ်-ဟူ၏။

ကထံ ဇာနေမု-ကား ယျောမ-ဝိဘတ်ကို သုတ်ကြီးဖြင့် မေ့-ရေးသည်°။ သမ္ဗုပဇီဝသိ-ကို သမ္ဗ+ဥပဇီဝသိ-ဟူ၍ ခွဲ။ သမ္ဗ-အာလုပ်။

## နှာ-၁၆

သသေယျ ဓါ-မလို၊ သယေယျ ဝါ-လိုသည်။ သိ-ဓာတ်။ သိ သယေ-ဖြင့်။ ဣ-ကို ဝေ့ဒ္ဓိပြု။ ဧ-ကို အယ-ရေး။ ယျေ-ဝိဘတ်။

ရုက္ခော၊ သည်။ နိဿယော ယထာ၊ ကဲ့သို့။ တထာ၊ တူ။ ရာဇာ၊ သည်။ တဝ နိဿယော ဟောတိ။ သာခါ၊ သည်။ တဒါယတ္တာ ယထာ၊ ထိုသစ်ပင်၌ စပ်သကဲ့သို့။ တထာ၊ တူ။ အဟံ၊ ငါသည်လည်း။ တဒါယတ္တော၊ ထိုမင်း၌ စပ်၏။ ပေါသော၊ သည်။ ဆာယူပဂေါ ယထာ၊ ကဲ့သို့။ ဓံ တို့ အသိ၊ ဖြစ်သမူလော။

---

၁။ ရှု ၃၁၅။ မောဂ်၊ ၆၊၇၈။ နီတိ၊သုတ္တ။ ၁၀၇၀-တို့ကြည့်။

ဝန-ဓာတ်။ ဝန သမ္ဘတ္တိယံ၊ ဆည်းကပ်အပ်သည်၌။ ဝနန္တိ တံ သမ္ဘဇန္တီတိ ဝနံ။ တံ ဌာနံ၊ သို့။ ဝနန္တိ သမ္ဘဇန္တိ၊ ဆည်းကပ်ကုန်၏။ ဝနံ၊ ဆည်းကပ်အပ်သော အရပ်။ ဝနာနံ ဃဋ္ဋ ဝနဃဋ္ဋံ၊ တောအပေါင်း။ ဃဋ္ဋသဒ္ဒါ သမူဟာပရိယာယ်။ တောအပေါင်း ဟူသည်ကား တောကြီး ဟူလိုသည်-ဟု ဇာတ်ဋီကာ ၌ ဝနဃဋ္ဋန္တိ မဟာဝနံ-ဟု ဖွင့်၏။

ဒသ မိတ္တပူဇဂါထာ နာမ၊ ခင်ပွန်းတို့အား ပူဇော်အပ်သည်ကို ဆိုရာဖြစ်သော ဆယ်ပါးသော ဂါထာတို့ကို-ပေး။ ခင်ပွန်းဆယ်ပါး မဟုတ်။ ဂါထာ ဆယ်ပါး-ဟူလိုသည်။ သူတချို့ကား ခင်ပွန်းဆယ်ပါး-ဟုပေး၍ ဆယ်ပါးသရုပ်ကို-

“ ဗုဒ္ဓါ ပစ္စေကဗုဒ္ဓါ စ၊
အရဟာ အဂ္ဂသာဝကာ။
မာတာပိတု ဂုရုသတ္တာ၊
ဓမ္မဒေသကဒါယကာ”။-

ဟု ရေစကုန်၏။ ကျမ်းကြီးတို့၌ မလာ။ “သုံးစွဲပြီးသော သစ်ပင်ကိုမျှ မပြစ်မှားအပ်”ဟူသည်နှင့်လည်း မတန်။ “မိ၍ အသက်မွေးအပ်သော နင့်သခင် မင်းကြီးသားကား ငါတည်း။ ထိုသို့ နင့်အရှင်သားဖြစ်သော ငါကား မပြစ်မှားအပ်သော သူတည်း။ မပြစ်မှားအပ်သော သူကို ပြစ်မှားသော သူကား သူယုတ်တည်း”-ဟု ပြစ်မှားခြင်း အပြစ်ကို တခွန်းတည်းဖြင့် ထိတ်လန့်စေ၍ မပြစ်မှားသော အကျိုးကို ဆယ်ဂါထာဖြင့် ဟောပိမ့်သောငှာ ဤဆယ်ဂါထာကို ဆိုသည်။ ဤသို့ ဖြစ်တို့

ရကား ယခင်ရေးသော ဆယ်ပါးကိုသာ ယူချေသော် ဘုရားလောင်းတို့ လွတ်ရာခဲ့။

န ဒုဗ္ဘတိ–ဟု စာရှိ၏၊ န ဒူဘတိ–ဟု ဋီကာဝိသုဒ္ဓိမဂ်(၁။ ၄),ပါဠိဇာတ် တို့၌ ရှိ၏°။

ယံ ယံ ဇနပဒံ ယေ ယေ နိဂမေ ယာ ယာ ရာဇဓာနိယော ယာတိ၊ သဗ္ဗတ္ထ တတ္ထ တတ္ထ ပူဇိတော–ဟု သမ္ဗန်။

ဂါမ, နိဂမ, ဇနပဒ, နဂရတို့ အထူးကား ဈေးရှိ၍ မြို့ မပြုသည်, မြို့ပြု၍ ဈေး မရှိသည့်ရွာကား ဂါမမည်၏။ ဈေးလည်း မရှိ, မြို့လည်း မပြုသည့်ရွာကား နိဂမမည်၏။ ဈေး, မြို့ နှစ်ပါး ရှိသည့်ရွာကား နဂရမည်၏။ နဂရနှင့် ရာဇ–ဓာနီ–ဟူသည် အတူ။ "အပါကာရပရိက္ခေပါပဏော နိဂမော၊ သပါကာရပရိက္ခေပါပဏံ နဂရံ၊ တံတံဝိပရီတော ဂါမော"–ဟု ကင်္ခါဝိတရဏီဋီကာ (ဋီ၊ သစ်၊ ၂၅၅)။

ထီးတစင်းဆောင်းသော မင်း၏ နိုင်ငံတွင်းဝယ် တခရိုင်ကား ဇနပဒမည်၏။ "ဇနပဒေါတိ ဧကဿ ရညော ရဇ္ဇေ ဧကေကော ကောဋ္ဌာသော။ရဋ္ဌန္တိ သကလံ ရဇ္ဇံ"–ဟု အဋ္ဌကထာပါရာဇိကကဏ် ဝိဟာရသိက္ခာပုဒ်(ဝိ၊ ၄၊၂။ ၁၆၀)။

---

၁။ ဆဋ္ဌမူ ယင်းကျမ်းတို့၌ န ဒုဗ္ဘတိ-ဟုပင် ရှိသည်။မဇ္ဈိမပဏ္ဏာသ်-၂။ ၂၅-သုတ်၏ ဝုဘ္တိ၌ကား န ဒူဘတိ–ဟု ရှိ၍ ယင်း၏ ပဋိကာ၌လည်း ဒူဘ ဗိဃံသာယံ–ဟု ရှိသည်။

ပါဠိဇာတ်၌ ပသာဟန္တိ-မရှိ၊ ပသဟန္တိ-ရှိ၏။ နာတိမညန္တိ ခတ္တိယာ-မရှိ။နာတိမညတိ ခတ္တိယော-ရှိ၏။ သကံ ဃရံ တေိ-မရှိ၊ သဃရံ တေိ-ရှိ၏။

နှာ-၁၇

ယသာ ကိတ္တိဥ္စ-မလို၊ ယသော ကိတ္တိဥ္စ-လိုသည်။

ဝိရူဠှတိ-မရှိ၊ ဝိရူဟတိ-ရှိ၏။

ဖလမသ္မာတိ-မလို၊ ဖလမသ္နာတိ-လိုသည်။ အသ-ဓာတ်။ အသ ဘက္ခနေ၊ စားခြင်း။ နာ-ပစ္စည်း။ ယ,မ,ရ,န,လ-ဤ အက္ခရာတို့ နှောင်းသော် ရှေးသရ ကျေရာသတည်း။ မာတုယာ-ကို မတျာ-ဟူသည် ယ နှောင်း။ ပဒုမာ-ကို ပဒ္မ ါ-ဟူသည် မ နှောင်း။ကိရိယာ-ကို ကြိယာ-ဟူသည် ရ နှောင်း။ ရတနံ-ကို ရတ္နံ-ဟူသည် န နှောင်း။ ကိလေသာ ကို က္လေသာ-ဟူသည် လ နှောင်း။ ဩပုပ္ဖ ါ ပဒ္မ ါ တိဋ္ဌန္တိ၊ ကြိယစိတ္တာနိ ဝိသတိ၊ စက္ကရတ္နံ၊ က္လေသဝတ္ထုဝသာ ပန။ အစဉ်အတိုင်း ဥဒါဟရုဏ်[၁]။ ဤ အသ္နာတိ-၌လည်း န နှောင်းသော် သ-အစိတ် အ-ကျေ သည်။

ဒူရိတော-မလို၊ ဒရိတော-လိုသည်။ဒရ-ဓာတ်။ဒရ ဘယေ-ဖွင့်။ဒရိတဗ္ဗာ ဘာယိတဗ္ဗာတိ ဒရီ။ ဒရယန္တိ ဘာယန္တိ ဧတ္တာတိ ဝါ ဒရီ။ကြောက်အပ်သည်၊ ကြောက်ရာ။"ဗိလာသယာ ဒရီ

၁။ နီတိ၊ သုတ္တ။ ၆၉-ကြည့်။

သယာ"–ဟု ဗုဒ္ဓဝင်ပါဠိ (၃၁၄)။ "ပုနာပရံယဒါ ဟောမိ၊ နဒီကူလေ ဒရိသယော"–ဟု စရိယာပိဋကပါဠိ[၁]။ "သကုဇော မယှကော နာမ၊ ဂိရိသာနုဒရီစရော"–ဟု ငါးရာ (ဇာ၊ ၁။ ၁၅၀)။ အဘိဓာန်၌ "ဒရိတ္ထီ ကန္ဒရော ဒွိသု" (၆၀၉)–ဟု ဒရီ–သဒ္ဒါကို ဣတ္ထိလိင်ဟူ၏။ ဤကာရန္တ။ ငါးရာပါဠိတော်လည်း "ဒရိယာ သတ္တဝဿာနိ၊ သဋ္ဌိမတ္တာ ဝသာမသေ" (ဇာ၊ ၁။၇၅)–ဟု ဣတ္ထိလိင် အာဂုံ ရှိ၏။ ဒရီ–သဒ္ဒါ ဣတ္ထိလိင် ဤကာရန္တ။

ပဗ္ဗတာတော ဝါ–ကား ဂါထာ ဆန်း ဒီဃ။ ပဗ္ဗတတာ–ပုဒ်နေ။ "ပဋိနာ ဇမ္ဗုဒီပါတော" (ဒီပဝံ။ နှာ–၆၅။ဝိ၊ဌ။ ၁။ ၅၄)။ "သန္တဝါတော ဘယံ ဇာတံ" (သုတ္တနိ။ ၃၀၉)–ဟူ၏သို့ ဒရိယာ ပဗ္ဗတမှာ ဝါ –ဟု ဆိုသော် မကောင်းလောဟူမူကား ဤသို့ဆိုမှု ဤပရိသတ် သိလိမ့်မည်ဟု သဗ္ဗညုဝေနေယျဇ္ဈာသယအားဖြင့် သဗ္ဗညု ရှင်ပင်ဘုရား ဟောတော်မူသော တရားကို "ဤသို့ဆိုသောထက် ဤသို့ဆိုသော် ကောင်းသတကား"–ဟု စောဒနာဘွယ် မရှိ၊ဟောတိုင်းသာ မှတ်ရာ၏။ "ပဗ္ဗတာတော ဝါ" ဘုရား မဟောတကား၊ဘုရားလောင်းဟောသည်တကား–ဟူအံ့။ ဘုရားလောင်းကား အနက်ကိုသာ ဟောသည်။ ဘုရားကားဂါထာနှင့် အနက်စုံကို ဟောသည်။ "သုနခေါ ဂါထမာဟ"၊ "သိင်္ဂါလော ဂါထမာဟ"–စသည်တို့၌လည်း

---

၁။ ယဒါ အဟံ ကပိ အာသိံ၊နဒီကူလေ ဒရီသယော။ ဆဋ္ဌမူ ၄၀၃။

ဂါထာကို ခွဲမဆို၊ အနက်ကိုသာ ဆိုသည်။ ဘုရားသာ ဂါထာကိုဖြစ်စေ၍ အနက်ကို ပြသည်။ ဂါထာမဆို တတ်သသူဖြစ်လျက် ဂါထာဟော၏–ဟူသည့်အရာဤနည်းနှင့်နှင့်°။

နှာ–၁၈

ဉာတကေန မနေန ဝါ–မလို၊ဉာတကေဟိ–ဟု ပါဠိရှိ၏။

ပုဏ္ဏပတ္တံ မံ လာဘေဟိ–ဟု ပုဒ်နေ။ပုဏ္ဏပတ္တံ မ လာဘေဟိ–၌ကား မံ–ဝယ်နိဂ္ဂဟိတ်ကျေသည်။ ပုဏ္ဏပတ္တံ၊ နှစ်သက်သော အပေးကို။“ပုဏ္ဏပတ္တော တုဋ္ဌိဒါယော”။အဘိဓာန်(၃၅၅)။

ပိတာ မာတာ စ–ဟူသည် သမာသ် မဟုတ်၊ဝါကျ။ ဂါထာ၌ ဖြစ်သည့်ပုဒ်ကား ယထိစ္ဆိတပယောဂဖြစ်သောကြောင့် ပိတာကို ရှေး ဟောတော်မူလေသည်။စုဏ္ဏိယပုဒ် သမာသ်၌ သော်ကား မာတာပိတာ–ဟူ၍ ပိတာသဒ္ဒါ နောက်သာ ရှိရသည်။ မာတာပိတရော–ဟူမှလျှင် ဝါစာသိလိဋ္ဌရှိသည်၊ပိတာ မာတရော–ဟူသော် ဝါစာသိလိဋ္ဌ မဖြစ်၊ အတီတာနာဂတပစ္စုပ္ပန္န–ဟူမှ သိလိဋ္ဌရှိရသည်၊အတီတပစ္စုပ္ပန္နာနာဂတံ–ဟူသော် သိလိဋ္ဌမရှိ။ထိုသို့မူလည်း ဂါထာအရာ ယထိစ္ဆိတပယောဂဖြစ်၍ “သိယာတီတာ–ရမ္မဏာ၊ ပစ္စုပ္ပန္နာနာဂတာဝေါစရာ”– ဟု အဋ္ဌကထာ (အဘိဓမ္မာဝတာရ။ ၃၂၄–ဂါထာ)ပုဒ်ရှိလေသည်[၂]။

---

၁။ နီတိသုတ္တ။နှာ–၂၆၃–ကြည့်။
၂။ နီတိ၊ပဒ။၇၃–ကြည့်။

ဒဇ္ဇုံ-ကို ဒဒေယျုံ-ဖွင့်။ သုတ်ကြီးဖြင့် ယေျုံ-ဝိဘတ်ကို ဉုံ-ရေးသည်။ ဒါ-ဓာတ်ကို ဒဇ္ဇ-ရေးသည်°။

ရာဇပုတ္တ တယိ ဂတေ-ကား ဆန်းဒီဃ။ ပိယတော ဇာယတိ သောကော-သို႕ ၂။

ရညော ဥဒေနဿ သြရောဓော ရာဇာနံ ဥဒေနံ တေဒဝေါစ (ဝိ၊၄။၄၇၇)ဟု သုတ်ပါဠိရှိရကား သြရောဓ စ ကုမာရာ ၀ -ဝယ် သြရောဓ-သဒ္ဒါ ပုလ္လိင်။

"ထေရော တံ ကထံ အာဟရိတွာ ရာဇောရောဓာနံ အာစိက္ခိ။ တာ ကေပ္ပဟာရေနေဝ မဟာဝိရဝံ ဝိရဝိံသု"။ ဤသမ္မော (၃၉၀)ပါဠိ၌ တာ-ကို ရှု၍ သြရောဓကို ဣတ္ထိလိင် မဟူအပ်။ အနက်ကိုငဲ့၍ တာ-ဟု ဆိုသည်။ သြရောဓသဒ္ဒါကို မငဲ့။ ဤသို့ ဝိုဘူးသည်- ရှိရာအံ့လော-ဟူမူကား ငါးရာကောသိယဇာတ် ဇာ၊ဠ။၁။၄၇၈)၌ "သာဝတ္ထိယံ ကော် မာတုဂါမံ အာရဗ္ဘ ၀ထေသိ။ သာ ကိရေကဿ ဗုဒ္ဓဿ ဥပါသကဗြာဟ္မဏဿ ြာဟ္မဏီ"-ဟုရှိ၏။

ဤ၌ သာ-ဟူသည်လည်း အနက်ကို ငဲ့၍ ရှိသည်၊ မာတု-ါမ-သဒ္ဒါကို မငဲ့။ မာတုဂါမော, ဒါရော, သြရောဓော-ဤပုဒ် ိကား အနက် မိန်းမဒြပ်ဖြစ်လျက် သဒ္ဒါ ပုလ္လိင်ရှိသတည်း။

---

၁။ ရှု။ ၂၇၂၊၃၀၅။ မောဂ်၊၆။ ၄၇။ နီတိ၊သုတ္တ။ ၁၀၀၈ တို့ကြည့်။
၂။ အင္ဂုသာလိနီနိဿယ၊ပ၊၄၂၆-ကြည့်ပါ။

ဤဝယ်သာလျှင် အနက်ကို ငဲ့သည်မဟုတ်သေး။ "ဣမံ ဝိသာခေ မာတုဂါမော သုသံဝိဟိတကမ္မန္တာ ဟောတိ"။ (အံ၊၃။ ၉၇။) ဤပါဠိ၌ ပဌာနပုဒ် မာတုဂါမောနှင့် သမာနာဓိကရဏ်ဖြစ်သော သုသံဝိဟိတကမ္မန္တာ–ပုဒ်သည်လည်း အနက်ကိုငဲ့၍ ကမ္မန္တာ–ဟု ရှိ၏။ မာတုဂါမော–ကို ငဲ့၍ ကမ္မန္တော–ဟု မရှိ။ "တံ ခေါ ပန ဘိက္ခဝေ ဣတ္ထိရတနံ ရညော စက္ကဝတ္တိဿ ပုဗ္ဗုဋ္ဌာယိနီ ပစ္ဆာနိပါတိနီ"။ (မ၊၃။ ၂၁၃)။ ဤပါဠိ၌ ပဌာန–ပုဒ် ဣတ္ထိရတနံ–ဟု နပုံဖြစ်လျက် အနက်ကို ငဲ့၍ ပုဗ္ဗုဋ္ဌာယိနီ–ဟု ဣတ္ထိလိင်ရှိ၏။ "ပဉ္စ ပစ္စေကဗုဒ္ဓသတာနိ ဣမသ္မိံ ဣသိဂိလိသ္မိံ ပဗ္ဗတေ စိရနိဝါသိနော"။ (မ၊ ၃။ ၁၁၃)။ ဤပါဠိ၌ သတာနိ–ပဌာနပုဒ် နပုံလိင်ဖြစ်လျက် စိရနိဝါသိနော–ဟု ပုလ္လိင်ရှိ၏။ "အင်္ဂေဟိ ခေါ နကုလမာတေ ဓမ္မေဟိ သမန္နာဂတော မာတုဂါမော"။ (အံ၊ ၃။ ၉၅)။ ဤသို့စသည့် ပါဠိ၌ကား လိင်တူ ရှိ၏။ ဤသို့နှင့်နှင် ပိဋကတ်၌ သဒ္ဒါကိုငဲ့၍ လိင်တူသော်လည်း ရှိရာ၏။ အနက်ကိုငဲ့၍ လိင်မတူသည်သာသော်လည်း ရှိရာ၏။ ထို့ကြောင့် သမ္မောပါဠ်ကို ရှု၍ ဩရောဓ–သဒ္ဒါကို ဣတ္ထိလိင် မဟူအပ်၊ ပါဠိ ဩရောဓော–ရှိသည်နှင့် တန်စွာ "ဣတ္ထာဂါရန္တိ ဩရောဓော၊ ဥပ္ပရိတိပိ ဝုစ္စတိ"–ဟု သဒ္ဒနီတိ(မာ။၄၇)။ ဣတ္ထာဂါရံ, ဩရောဓော, သုဒ္ဓန္တော, အန္တေပုရံ ဤလေးပုဒ်ကား မင်းမောင်းမ နေရာအိမ်မည်၏။ "ဣတ္ထာဂါရန္တု ဩရောဓော၊ သုဒ္ဓန္တောန္တေ ပုရမ္ပိစ"–ဟု အဘိဓာန်(၂၁၅)။အဝရုန္ဓိယျန္တေ ရာဇိတ္ထိယော အနေနာတိ ဩရောဓော။ အနေန ဂေဟေန၊ဖြင့်။ ရာဇိတ္ထိယော၊တို့ကို။

ရှုန္ဒိယျခန္တ၊ ပိတ်ပင်အပ်ကုန်၏။ ဣတိ ဩရောခေ၊ ပိတ်ပင်
ခြင်း။ အဝရှေး ရုမ-ဓာတ်၊ ရုမ အာဝရဏေ-ဖွင့်။ "မဋ္ဌာ
သန္တိ"-ဟူ၏သို့ ဌာန အမည်ကို ဌာနီ၌ တင်၍ ဌာနီ
သော မင်းမောင်းမကိုလည်း ဩရောဓေ-ဟူလိုသည်။
ဓာန်ဋီကာ (၂၁၅-ဂါထာဖွင့်)။
ဤသို့ သဒ္ဒနီတိဆရာ (ပဒ။ ၁၂၇ စသည်)စသည် တို့သည်
အဋ္ဌကထာကျမ်းတို့ကိုမှီ၍ ဩရောဓ-သဒ္ဒါကား ပုလ္လိင်သာ၊
လိင်မရှိကောင်း-ဟူကုန်၏။ ဝိနည်းပါဠိ (ဝိ၊ ၂။ ၃၄၂)၌
ည်တရာ ရာဇောရောဓာ ဘိက္ခုနီသု ပဗ္ဗဇိတာ ဟောတိ"။
တို့၏ ကေနိပါတ်အဋ္ဌကထာ(အံ၊ဋ္ဌ။ ၁။ ၂၁)၌-"ဒဟာရံ
လာကေတွာ မတာယရာဇောရောဓာယ ဝတ္ထု ဝေဒိတဗ္ဗံ"။
ို ဝိနည်းပါဠိ,သုတ်အဋ္ဌကထာရှိသောကြောင့် ဩရောဓသဒ္ဒါ
်သာ ရှိကောင်းသည် မဟုတ်၊ အပ္ပကအားဖြင့် ဣတ္ထိလိင်
း ရှိပါကောင်း၏။အချင်းခပ်သိမ်း ဣတ္ထိလိင်မရှိ-မဟူအပ်။
ဝေသိယာနာ စ ပြာဟ္မဏာ-ဝယ် ဝေသိယာနာ သဒ္ဒါနေ။
ိ စ ဝေသိယာနောထ-ဟု အဘိဓာန်[၁]။
တ္တမနာ-ကို ပီတိသောမနဿာဒီဟိ ပရိပုဏ္ဏမာနသာ-
င့်။နှစ်လိုဝမ်းသာခြင်း-စသည်တို့ဖြင့် ပြည့်စုံသော နှလုံး
သည်။ ဟုတ္ဂ၊၍။ တေပိ-ကို ရှု၍ ယေ-ဟု အနိယတ်
။

---

[၁]။ အဘိဓာန်(၄၄၅)၌ ဝေဿာ စ ဝေသိယာနောထ-ဟု
ရှိသည်။

အနီကဋ္ဌာ၊ မင်းကြီးကိုယ်တော်စောင့်-ဟု ပေး။ "အနီက ဋ္ဌေ‌ာတိ ရာဇူနံ၊ မင်္ဂရက္ခဂဏော မတော"-ဟုအဘိဓာန်(၃၄၂)။

ရာဇူနံ၊ တို့၏။ အင်္ဂရက္ခဂဏော၊ ကိုယ်တော်စောင့်အပေါင်း ကို။ အနီကဋ္ဌောတိ၊ ဟု။ မတော၊ ၏။

ကာရကာ၊ ငါးပါးသော အမှုလုပ်မျိုး-ဟု ပေး။

"တစ္ဆကော တန္တဝါယော စ၊
ရဇကော စ နဟာပိတော။
ပဉ္စမော စမ္မကာရောတိ၊
ကာရဝေါ ပဉ္စိမေ သိယုံ"။-

ဟု အဘိဓာန် (၅၀၅)။ လက်သမား၊ ယက်ကန်းသည်၊ ကဝါသည်၊ ကသယ်သည်၊ သားရေနယ်သမား။ ဣမေ ပဉ္စ၊ တို့သည်။ ကာရဝေါ၊ အမှုလုပ်မည်ကုန်သည်။ သိယုံ၊ ကုန်၏။

ဋီကာ တေရသကဏ်(သာရတ္ထ၊ ၂။၃၂၉)၌ကား -တစ္ဆက ကို မရေး။ အယောကာရနှင့် ငါးပါးဟူ၏။

ဥဘယာနာနိ-ကား အက္ခရာပျက်။ ဥပယာနာနိ-လိုသည်။ ဥပယန္တိ ဧတေဟိ သန္တိကံ ဂစ္ဆန္တီတိ ဥပယာနာနိ။ ဧတေဟိ ပဏ္ဏာကာရေဟိ၊ တို့ဖြင့်။ ဥပယန္တိ သန္တိကံ ဂစ္ဆန္တိ၊ အနီးသို့ ကပ်ကုန်၏။ ဣတိ၊ ဥပယာနာနိ၊ အနီးသို့ ကပ်ကြောင်းဝတ္ထု ရ၏။ ဥပရှေ့ ယာ-ဓာတ်။ ယာ ဂတိပါပုဏေသု-ဟု ဖွင့်။ "သမန္တာ အနုပရိယေယျုံ၊ နိပ္ပေါထေန္တော စတုဒ္ဒိသာ"။

သံ၊ ၁။ ၁၀၂)၌ကား ယာ-ဓာတ်သည် ပါပုဏ္ဏအနက်ဟော။
ဤသို့**သဒ္ဒနီတိ**(ဓာ။ ၁၃၇)၌ ယာ-ဓာတ် ကြံ၍ ဥပယာနသဒ္ဒါ
ဟူ၏။ **စရိယာပိဋကပါဠိ**(၃၈၈)ဝယ်-

"တဒါပဟံ သတ္တရဇ္ဇေသု၊
ယံ မေ အာသိ ဥပါယနံ။
တေန ဒေမိ မဟာဒါနံ၊
အက္ခောဘံ သာဂရူပမံ"။-

ဟု ဥပါယနသဒ္ဒါ ရှိ၏။ **အဘိဓာန်လည်း** "တထောပါယန
ဥက္ကောစော၊ ပဏ္ဏာကာရော ပဟေဏကံ"(၃၅၆)ဟု ဥပါယန၊
ဥက္ကောစ၊ ပဏ္ဏာကာရ၊ ပဟေဏက။ ဤလေးပုဒ်ကို လက်
ဆောင်ဟောဟူ၏။ **ဒါဌာဓာတုဝံသ၌လည်း**-

"အန္ဓော ဘူမိပတိ ဓာတုဃရံ မဟန္တံ၊
ကတွာန တတ္ထ ဝိနိဓာယ မုနိန္ဒဓာတုံ။
သမ္ပူဇယိတ္ထ ဝိဝိဓေဟိ ဥပါယနေဟိ၊
ရတ္တိန္ဒိဝံ တိဒိဝမောက္ခသုခါဘိကာခ်ံ"။(၅၊ ၃၇)-

ဟု ဥပါယနသဒ္ဒါနှင့် ဆို၏။ ဤသို့ ပါဠိအဘိဓာန်, ဆရာပြု
ကျမ်းတို့၌ ဥပါယနသဒ္ဒါ ရှိရကား ဥပယာနာနိ-မလို၊
ဥပါယနာနိ မေ ဒဇ္ဇုံ- ဟုလိုသည်။ဥပရှေးရှိသော ဣ-ဓာတ်။
ဣ ဂတိယံ-ဟု ကြံ။ ဣ-ကို ဧ ဝုဒ္ဓိပြု၊ ဧ-ကို အယ-ရေး၊
ဥပအစိတ် ဒီဃပြု၊ ဥပါယန ပြီးစေ။ ဓာတ်သာ ထူးသတည်း။
ဝိဂ္ဂဟ်ကား ယခင် သဒ္ဒနီတိ ဆိုသည့် အတူပင်။

## နှာ−၁၉

မတျာ−ကို မာတု−တည်၊ နာသက်၊ ဥ−ကို ပ−မှည့်၊နာ−ကို ယာ−ရေး၊ယဒနုပပန္နာ−ဖြင့် ယာနှောင်းသောကြောင့် ဥ−ကို ချေ။ တျာပြီးသော် သံယုဂ်နှောင်း မာ−အစိတ် ရဿမှု မတျာ−ပြီးသတည်း။ သဒ္ဒနီတိ၌ကား "သရလောပေါ ယမနု ရာဒိသု ဝါ" (သုတ္တ။ ၆၉)သုတ် အသီးတည်လေ၏။ အောက်၌ ပယောဂ ဆိုခဲ့ပြီး။

## နှာ−၂၀

အသန္တိတာ−ဝယ် ယ−ကျေသည်။ "အာဝိကတာ ဟိဿ ဖါသု ဟောတိ" ကဲ့သို့ အသန္တိတာ အသန္တိတာယ− ဟူလိုသည်။ ထို့ကြောင့်မူလော "အသန္တိတာတိ အဟံ အဌကာနံ အဘာဝေန ပကွောတိ ပဂုံလော န ဘဝါမိ"−ဟု ဇာတ်ဋီကာ ဖွင့်၏။ အသောတတာ, အဇ္ဈတာ−ဝယ်လည်းကောင်း ယ−ကျေသည် နှင့်နှင်တည်း။

ပါပတ္တံ−ကား ပပုဗ္ဗ ပတ−ဓာတ်၊ပတ ဂတိယံ။ပရောက္ခာ အံ−ဝိဘတ်။ပ−အစိတ် ဒီဃ၊ "ပါပတံ"ဟု ရှိတန်လျက် တံ−ကို တ္တံ−ရေးသည်[၁]။ ထို့ကြောင့်−"အဟံ၊ သည်။ ပါပတ္တံ၊ ရောက် ချေပြီ"−ဟု ပေး။အထက်၌ ရထားထိန်း မိဖုရားကို ပြန်လေ ရာဝယ်−(ဇာ၊ ၄။ ၆ ။ ၂၄)ကား ပါပတ္ထ နိရယံ ဘုသံ−လိုသည်။ ပါပတ္တံ−မလို။ထို တောမိသည်။ပါပတ္ထ၊ ရောက်လေပြီးသတတ်။

၁။ နီတိ၊ ဓာ။ ၆၃−ကြည့်။

ဓာတ်ကား ယခင်နှင့် အတူ။ ဝိဘတ်ကား ယခင်ဝယ် အံ၊ယခု ဝယ် ပရောက္ခာ အ၊ "ပါဝဒ"ဟူသို့။ "အနုရိယမမှံ ကုသလာ တမာဟု၊ယော အာတုမာနံ သယဧမဝ ပါဝ"(သုတ္တနိ။ ၄၀၁။ နိတိ၊ဓာ၊ ၁၂၊၁၀၁-၂)။ဤ၌ "ပါဝ"-ဟူသကဲ့သို့ ပါပတာ-ဟု ရှိတန်လျက် တ-ကို တ္တ-ရေးသည်။ဤသို့ တံ-ကို တ္တံ,တ-ကို တ္တ-ရေးသည်၌ "အစိန္တေယျော ပါဒ္ဒနယော"-ဟု သဒ္ဒနီတိ (ဓာ။ ၆၃)ဆို၏။

နိရယမှိအပစ္စသိ-မလို၊အပစ္စိသံ-လိုသည်။အပစ္စိသံ အပစ္စိံ-ဟု ဖွင့်။ ပရောက္ခာ ဣံ-ကိုဣသံ-ရေးသည်။ ဂါထာဆန်းအား ဖြင့် သ-တခု ကျေသည်[၁]။

ဥစ္စင်္ဂေ-လိုသည်။ဥစ္စင်္ဂေ-မလို။ဥဒ္ဒေး သင်္ဂ-ဓာတ်။သင်္ဂေ ဖွင့်။ဏ-ပစ္စည်း။သ-ကို ဆ-ပြု၊ ဇ-ကို ဂ၊ဆ- ကို အသဒိသ ဒွေဘော်၊နိဂ္ဂဟိတ် လာသည်။ ဥဿင္ဂတိ တွေ့ ပဋ္ဌာဒိအလင်္ကာရ ဝတ္ထုတို ဥစ္စင်္ဂေါ၊ တွေ့ ကာယပဒေသော၊ ၌။ ပဋ္ဌာဒိအလင်္ကာရ ဝတ္ထု၊ ပုဆိုးစသော တန်ဆာ ဝတ္ထုသည်။ ဥဿင္ဂတိ၊ငြိတတ်၏။ ဣတိ ဥစ္စင်္ဂေါ၊ ငြိရာ။

ဥစ္စင်္ဂေ မံ နိသာဒေတွာ-လိုသည်၊ နိသီဒိတွာ-မလို။သဒ-ဓာတ်ကို သီဒ၊သီဒ-ဝယ် ဤ-ကို အ-ပြု၊အ-ကို အာဒီဃ၊ ကာရိုက် ဏေ-ပစ္စည်းသက်၊နိသာဒေတွာ-ပြီးသည်။နိသီဒေတွာ သော်လည်း ရှိရာ၏။ နိသီဒိတွာ ဟူသည် သုဒ္ဓကတ္တားပြု၍မရှိ

---

၁။ မောဂ္ဂလ္လာန်နိသျ၊ နှာ ၈၉၆-လည်းကြည့်ဦး။
၂။ နီတိ၊ သုတ္တ။ ၁၁၀၃-ကြည့်။

ကောင်း။ဤသို့ သဒ္ဒနီတိ(ဓာ။ ၉၅)ဆို၏။ဗုဒ္ဓေါ-ပုဒ်၌"ယောတု အတ္တနာစေတ္တ အန္တောနီတော"ဟု ဋီကာဆရာတို့ ဆိုသည်ကို မှီး၍ ယောတုအနက်အတွင်းငုပ်ဟူ၍ ကြံပါသော်လည်း နိသိဒ္ဓတ္တာ ရှိပါကောင်း၏။ထိုသို့ သဒ္ဒနီတိ၌ မကြံလေသည်ကား သီဒ-ဓာတ်သည် အကမ္မကစင်စစ်ဖြစ်၍မကြံသည်ဟူလို၏။ ထို့ကြောင့် ဥစ္စဂေ မံ နိသာဒေတွာ, နိသီဒေတွာ-ဟု နှစ်ပါး၌ တပါးပါး ရှိကောင်း၏။

"ဘိန္နပ္လဝေါ သာဂရဿေဝ မဇ္ဈေ"-(ဇာ၊ ၁။ ၁၂၁)၌ ပ္လဝတိ ဂစ္ဆတိ ဧတေနာတိ ပ္လဝေါ-ဟု ပ္လု-ဓာတ်။ ပ္လု ဂတိယံ-ဖွင့်၏။ ထိုသို့ ဖွင့်မှုလည်း သံပရိပ္လုတော-ဝယ် ပ္လု-ဓာတ်။ ပ္လု သီဒနေ-ဟု ဖွင့်။

## နှာ-၂၂

ရထံ နိယျာဒယိတွာန-ဝယ် နိ-ပုဗ္ဗ ယတ-ဓာတ်။ ယတ ပဋိယတနေ-ဖွင့်။ တ-ကို ဒ-ပြုန်။ ယ-အစိတ်ကို ဒီဃပြု၍ နိယျာဒယိတွာန-ပြီးသည်။

နတ္ထိ ဧတဿ ဣဏန္တိ အနိဏော။ အနိဏဿ နဏော။ အနဏဿ ဟိ ပဗ္ဗဇ္ဇာ။

ယဒေဝ တျာဟံ-ကို ယံ ဧဝ တေ အဟံ-ခွဲ။ ယံ-နိယတ် တံ-ထုတ်လေ။ နောက် တဒေဝ-ကို တံ+ဧဝ-ခွဲ။ တံ-အနိယတ် ယံ-ထုတ်လေ။ ဤဂါထာကား တဖက်ကာပြတည်း။ "ယံ ဧဝ ဝစနံ တေ တယာ ဝုတ္တံ၊ တံ ဝစနံ အဟံ အကာရံ။

ယံ ဝစနံ အဟံ ဘဏိဿာမိ၊ မေ မမ တံ ဧဝ ဝစနံ ကတ္တုံ”–ဟု သမ္ဗန်။ “အဟံ အဂံ၊ ငါ သွားပြီ”–ဟူသို့ အကရိုကား ပရောက္ခ–အံ။

“ကုသလံ ဝဇ္ဇာသိ ဉာတိနံ”–၌ ဝဒ–ဓာတ်ကို ဝဇ္ဇ– ရေးသည်။ ဃျောသိ–ဝိဘတ်ကို အာသိ–ရေးသည်[၁]။

## နှာ–၂၃

အယံ သော သာရထိ ဧတိ–ဝယ် ဧတိ–ကား ဣ–ဓာတ်။ ဂတိယံ–ဖွင့်။ ဂတိအနက်ဖွင့်သော ဣ–ဓာတ်သည် ဧဝုဒ္ဓိ ရောက်လေခဲ့က အာဂမနအနက်ကိုသာ ဟောသည် မြဲသော–ဟူ၏။ ဤသို့ဆိုသည်ကား ဣရိယာပုထ်နှင့် စပ်ရာဝယ်ကိုသာ ဆိုသည်။

“ဣရိယာပထတော ဟောသာ၊ နိစ္စမာဂမဝါစကာ။
အယံ သော သာရထိ ဧတိ၊ ဣစ္စာဒေတ္ထ နိဒဿနံ”။
သဒ္ဒနီတိ (ဓာ။ ၃)။

## နှာ–၂၄

အကွေယျံ–ကား အာ–ရှေး ခါ–ဓာတ်။ ခါ ကထနေ–ဖွင့်။ သံယုဂ်နှောင်း အာ–ကို ရဿပြု။

ရဇ္ဇဿ–ကား ဘီတောအယျဉ် ဆဋ္ဌီ။ ဝိဘတ္တိဝိပလ္လာသ ဖြစ် ရကား ရဇ္ဇတော ရာဇဘာဝတော ဟု အပါဒါန် ဖွင့်ရှိပေး။

---

၁။ နီတိ၊ ဓာ။ ၁၀၁။ နီတိ၊ သုတ္တ။ ၁၀၁၀–တို့ ကြည့်။

ပါပတ္တ နိရယံ ဘုသံ–ဝယ် ပါပတ္တ–ကား အောက်၌ ဆိုပြီးသော သဒ္ဒနီတိအလိုအားဖြင့် သော်လည်း ပြီးစေ။ ထိုမှ တပါးတုံ ပ-ပုဗ္ဗ အပ–ဓာတ်။ အပ ပါပုဏော-ဖွင့်။ ပရောက္ခာ အတ္တနေ ပုဒ် တ္တ–ဝိဘတ် သက်၍လည်း ပါပတ္တ ပြီးကောင်း၏။ ထိုသို့ အပ–ဓာတ် ပါပုဏနအနက် ဖြစ်သောကြောင့် မူလော ပါပတ္တံ–ကို "ပါပုဏိ"–ဟု ဇာတ်ဋီကာ ဖွင့်သတည်း။ သုတ္တနိပါတ် ဗြာဟ္မဏဓမ္မိယသုတ်၌–

"ဗြာဟ္မဏာ သေဟိ ဓမ္မေဟိ၊
ကိစ္စာကိစ္စေသု ဥဿုကာ။
ယာဝ လောကေ အဝတ္တိံသု၊
သုခမေတ္တ အယံ ပဇာ"[၁]။

ဤ၌ အယံ ပဇာ–ဟူသော နာမယောဂ, တ္တေ–ဟူသော ကိရိယာပုဒ်သည်ကား ဧ္လ–ဓာတ်၊ တ္တ–ဝိဘတ်။ ဤ၌လည်း သောကုမာရော-ဟု နာမ်ပုဒ်အယှဉ်ပါပတ္တ–ရှိသည်။ ပိတုစ္စ မာတုစ္စ–ကား ဂါထာဆန်းအားဖြင့် ဒွေဘော်ရှိသည်။

## နှာ–၂၅

"ဆစ္စာဘိဋ္ဌာနာနိ အဘဗ္ဗော[၂] ကာတုံ"–သို့ တဝ အတြ ဇံ-ဟုခွဲလျက် မရှိ၊ "ရာဇပုတ္တော တဝတြဇံ"–ဟု စပ်လျက်ရှိ၏။

---

၁။ ဆဋ္ဌမူ (၃၂၄)–၌ "သုခမေဓိတ္ထ,ယံ ပဇာ"– ဟုရှိသည်။ ယင်းအဖွင့် သုတ္တနိ၊ဋ္ဌ၊၂။၅၄–၌လည်း "သုခံ မေဓိတ္ထပါပုဏိ၊ သုခံ ဝါ မေဓိတ္ထ သုခံ ဝဍ္ဎိံ အဂမာသိ"-ဟု ဖွင့်သည်။
၂။ အဘဗ္ဗ။ (မြ)

နှာ-၂၆

ကစ္ဆံနာဂါနိ-၌ နာဂါနိ-ကား ပုလ္လိင်လျက် နပုံပြန်၍ ရှိလေသည်။ "ဧဝံ ဓမ္မာနိ သုတွာန၊ ဝိပ္ပသီဒန္တိ ပဏ္ဍိတာ" (ဓမ္မပဒ။ ၈၂ ဂါထာ)-ဝယ် "ဓမ္မာနိ"-သို့။ ထို့ကြောင့် နာဂါနိ နာဂေ-ဟု ပြန်၍ အနက်ပေး။

စာဟူသမျှကား "နဒန္တု ကေပေါက္ခရာ၊ ဝဂ္ဂု နဒန္တု ဒုန္ဒုဘိ"-ဟု ရှိ၏။ သဒ္ဒနီတိ(ဓာ။ ၉၆)၌ကား "ဝဒန္တု ကေပေါက္ခရာ၊ ဝဂ္ဂု နဒတု ဒုန္ဒုဘိ" ဟု ဆောင်၏။

သာရထိနော။ပ။ အာရောစေသုံ၌ သာရထိနောကား မဂ္ဂါ ဓိပတိနောသို့ ရဿနောင် ယော-ကို နော-ပြု။ ကစ္စည်းကား ဟတ္ထိနော စရန္တိသို့ ဒီဃနောင်သာ ယော-ကို နော-ရေး၍ ဒီဃကို ရဿတည်း။

နှာ-၂၇

တတော စ ရာဇာ တရမာနော-ဟု မလို၊ တတော သ ရာဇာ-လိုသည်။ ဇာတ်ဋီကာ၌ "သ ရာဇာတိ သော ရာဇာ"-ဟုဖွင့်၏။

ဣတ္ထာဂါရံ အဓ္ဓာဘာသိ-ဝယ် ဣတ္ထာဂါရံ-လည်း သြရော ဓာ-နှင့် အတူ ဌာနအမည်ကို ဌာနီ၌ တင်သည် ဌာနူပစာ လည်းကောင်း။

သုဝဏ္ဏောဟိ အလင်္ကတာကို အလင်္ကတာနိ–ဟု ပြင်၍ ပဋ္ဌ ကကုဓဘာဏ္ဍာနိ–ပဋ္ဌာနပုဒ်တည်း။ ဝါဠဗီဇနိ–ကိုလည်း ကောင်းပေး။ သုဝဏ္ဏောဟိ အလင်္ကတာနိ ဣမေ ပဋ္ဌ ကကုဓ ဘဏ္ဍာနိ၊ တို့ကို။

"ခဂ္ဂေါ စ ဆတ္တမုဏှီသံ။
ပါဒုကာ ဝါဠဗီဇနီ။
ဣမေ ကကုဓဘဏ္ဍာနိ၊
ဘဝန္တိ ပဋ္ဌ ရာဇုနံ"။–
ဟု အဘိဓာန်(၃၅၈) ၌လည်း ဆို၏။

ခဂ္ဂသဉ်ပရိဗျူဠ္ဌ–ဝယ် ခဂ္ဂ–မလို၊ ခတ္တ–လိုသည်။ "ရာဇ ညော ခတ္တိယော ခတ္တံ၊ မုဒ္ဓါဘိသိတ္တဗာဟုဇာ"။ အဘိဓာန် (၃၃၅)။ ခတ္တ–ကား ခတ္တိယနှင့်အတူ။

နှာ–၂၉

ဣမေဝ တေ နိသိန္နာဿ–ဝယ် ဣမေဝ တေ တဝ နိသိန္နဿ–ဟု ခွဲ။ အဿ–ကြိယာ။

နှာ–၃၀

"န စာဟံ ပဏ္ဏကံ ဘုဋ္ဌေ"–ဟု စာရှိ၏။ "န ဝါဟံ ပဏ္ဏံ ဘုဋ္ဌာမိ။ န ဝါယံ ကုမာရကော မတ္တမညာသိ။ န ဝါယံ ဘဒ္ဒိကာ သုရာ"။ ဤအရာတို့၌ ဝေ–ကို ဂေါ်သတ္တ–ဟု

သဒ္ဒနီတိ (သုတ္တ၊ နှာ-၃၇၈)ဆောင်၏။ ပါဠိဇာတ်ဝယ်လည်း ဘုဥ္ဇာမိ-ဟူ၏။ ထို့ကြောင့် "န ဝါပံ ပဏ္ဏံ ဘုဥ္ဇာမိ"—ဟု ရှိလိုသည်။

အစ္ဆေရကံ မံ ပဋိဘာတိ-ဝယ် အစ္ဆေရကံ၊ သည်။မံ မမ၊ အား။ ပဋိဘာတိ၊ထင်၏။ ပဋိဘာတိ-ပုဒ်အယှဉ် သမ္ပဒါန် အနက်၌ ဒုတိယာ။"အပိဿု မံ အဂ္ဂိဝေဿန တိဿော ဥပမာ ပဋိဘံသု" (မ၊ ၁။ ၃၀၇)။ ပဋိဘန္တု တံ စုန္ဒ ဗောဇ္ဈင်္ဂါ, (သံ၊ ၃။ ၇၃)။သာ ရတိ ပဋိဘာတိ မံ၊ (သံ၊ ၁။ ၂၀၅) ဤပုဒ်တို့ကို ရှု။

နှာ-၃၁

ဆင်သည်သူရဲအပေါင်း နည်းစုအဆုံးကား ဆင်သုံးစီး, လူသုံးကျိပ်ခြောက်ယောက်၊ဤမျှက စသည်လျှင် ဟတ္ထာနီက မည်သတည်း။မြင်းသုံးစီး,လူကိုးယောက်၊ဤမျှကစသည် အဿာနီက။ရထားသုံးဆူ,လူတကျိပ်နှစ်ယောက်၊ဤမျှကစသည် ရထာနီက။လက်နက်မကွာသော လူလေးယောက်မျှသည်ကား ပတ္တာနီက။အခြေလေးချောင်းစောင့် ရှစ်ယောက်,ဆင်စီးလေးယောက် ဖြစ်ရကား ဆင်တစီးသော် လူတကျိပ်နှစ်ယောက်။ထို့ကြောင့် ဟတ္ထာနီကဝယ် လူ သုံးကျိပ်ခြောက်ယောက်ဖြစ်သတည်း။မြင်းစီး တယောက်,နံတောင်းတဖက် တယောက်ဖြစ်ရကား မြင်းတစီး သော် လူသုံးယောက်။ထို့ကြောင့် အဿာနီကဝယ် လူကိုး— ယောက်။ရထားထိန်း တယောက်, စီးသောသူရဲတယောက်၊ နပန်းတိုင်စောင့် တဖက်တယောက်ဖြစ်ရကား ရထားတဆူသော်

လူလေးယောက်။ ထို့ကြောင့် ရထားနီကဝယ် လူ တကျိပ်နှစ်ယောက် ဖြစ်သတည်း။ ဝိနည်း၌ ဥယျောဓိကသိက္ခာပုဒ်အဖွင့်ဆို၏။ အဘိဓာန်ဝယ်လည်း ဤသို့လာ၏။ –

"ဟတ္ထိဒွါဒသပေါသော တိ-
ပုရိသော တုရင်္ဂေါ ရထော။
စတုပေါသောတိ ဧတေန၊
လက္ခဏေနာထ မန္တတော။
ဟတ္ထာနီကံ အဿာနီကံ၊
ရထာနီကံ တယော တယော။
ဂဇာဒယော သသတ္ထာ တု၊
ပတ္တာနီကံ စတုဗ္ဗနာ" (၃၈၂၊ ၃၈၃)။

ဟတ္ထိ၊ ကား။ ဒွါဒသပေါသော၊ လူတကျိပ်နှစ်ယောက်ရှိ၏။ တုရင်္ဂေါ၊ မြင်းကား။ တိပုရိသော၊ သုံးယောက်သော လူရှိ၏။ ရထော၊ ရထားကား။ စတုပေါသော၊ လူလေးယောက်ရှိ၏။ ဣတိ၊ ဝ့်။ ဧတေန လက္ခဏေန၊ ဤသို့သော အမှတ်ဖြင့်။ ဂဇာဒယော၊ ဆင်အစရှိကုန်သော။ တယော တယော၊ သုံးပါး သုံးပါးသော ဆင်, မြင်း, ရထားတို့သည်။ အန္တတော၊ နည်းစွအဆုံး။ ဟတ္ထာနီကံ၊ မည်၏။ အဿာနီကံ၊ မည်၏။ ရထာနီကံ၊ မည်၏။ သသတ္ထာ တု၊ လက်နက်နှင့် အကွရှိသော။ စတုဗ္ဗနာ၊ တို့ကား။ ပတ္တာနီကံ၊ မည်၏॰။

---

၁။ ပေ ၂-စောင်လုံး၌ ဟတ္ထာဏီက, အဿာဏီက, ရထာဏီက, ပတ္တာဏီက-ဟု ဏာ-နှင့်ချည်း ရှိသည်။

**နစ္စဂီတဿ၏**။ ဝိသေသေသုတို့၌။ ကုသလာ–ဟု အဇ္ဈာ ဟာရသမ္ဗန်မူ။ **နစ္စဂီတဿ နစ္စဂီတော၌**။ ကုသလာ-ဟု အစား သက်သော်လည်း ကြံ။ **အဘိဓမ္မဋီကာ**(မူလဋီ၊၁။၂၈)။

## နှာ-၃၂

ကိစ္စာလဒ္ဓံ–**မဟုတ်၊ကိစ္စာ** လဒ္ဓံ–လိုသည်။ကာတုံ ဣစ္ဆာ ကိစ္စာ။ **ကာတုံ၊ကောင်းမှုကို** ပြုခြင်းငှါ။ ဆင်းရဲငြိုငြင်ခြင်းမှ နှစ်လုံးသိ၍ သဒ္ဓါရာသတည်း။ "ဒုက္ခူပနိသာ သဒ္ဓါ"ဟု **အဘိဓာန်ဋီကာ** (၈၉–ဂါထာဖွင့်) ဆောင်၏။ သဒ္ဓါကား။ ဒုက္ခူပနိသာ၊ဆင်းရဲဟူသော အကြောင်းရှိ၏။ဒုက္ခံ ဥပနိသာ ကာရဏံ ဧတိဿာတိ ဒုက္ခူပနိသာ။ **အင်္ဂုတ္တိုရ်ဋီကာကြီး** (အံ၊ ဋီ၊၁။၇၉)ဆို၏။ကိစ္စာ –ဝယ်**ကား** တတိယာအနက်၌ ပဉ္စမီ။ ကိစ္စာ **ကိစ္စေန–ဟု ပြန်၍** ပေး။ကိစ္စာ လဒ္ဓံ–ကား သမာသ် မဟုတ်၊ဝါကျ။"ကိစ္စာ လဒ္ဓေါ ပိယော ပုတ္တော" (ဇာ၊ဋ္ဌ၊၆။ ၁၀၇)"ကိစ္စာ မုတ္တာ ဒုက္ခတော"(ဇာ၊ဋ္ဌ၊၆။၂၉၅)**စသည် လည်း** ဤ**အတူနှင်နှင်**။

ယဿ ရတျာ–၌ ရတျာ–ကို ရတ္တိယာ-**ဟု** တည်၍ ယ-နှောင်း **ဣကျေ**။ သံယုဂ်ရှိကို သံယုဂ်မဲ့ပြု၍ ရတျာ-**ကား** "ဗြာဟ္မဏျာ ပရိစာရိကေ" (ဇာ၊ ၂။ ၃၂၀) "ဥမ္မာဒန္တျာ ရမိတွာန"- (ဇာ၊ ၂။ ၄၁)နှင့် အတူ။

---

၁။ နှစ်လိုသိ၍။ (မြ)

အာယုံ အပ္ပတရံ သိယာ–၌ သိ–ကို အံ–ရေးသည်။ ဝေမာယု မနုဿာနံ–၌ သိ–ကျေ။

ရတ္ယာ အမော့ဃာ–မလို၊ ရတျော အမော့ဃာ–လိုသည်။ ရတျော–ကို ရတ္တိယော–ဖွင့်။ "ဒါသာ စ ဒါသျော အနုဇီဝိနော စ။ ပုတ္တာ စ ဒါရာ စ မယဇ္ဇ သဗ္ဗေ"– (ဇာ၊ ၁။ ၂၁၅)၌ ဒါသျော–ကိုဒါသိယော–ဖွင့်သို့။

နှာ–၃၃

ယံ ယံ ဒေဝေါ ပဝေယတိ–ကား ပုဒ်ပျက်တည်း။ ယံ ယံ ဒေဝူပဝီယတိ–ဟု သဒ္ဒါကျမ်း ( )၌ ဆောင်၏။

နှာ–၃၄

ဂေါမဏ္ဍလ ပရိဗ္ဗျူဠှော–ကား ပုဒ်ပျက်တည်း။ ဂါမဏ္ဍလ ပရိဗ္ဗျူဠှော–လိုသည်။ "ဂါမဏ္ဍလာ ဥပဂန္ဒွာ"–ဟု ပါဠိ(မ၊ ၁။ ၁၁၃)ရှိ၏။ "ဂေါမဏ္ဍလပရိဗ္ဗျူဠှန္တိ ဂေါယူထေဟိ ပရိကိဏ္ဏံ"–သုတ္တနိပါတ် (ဋ္ဌ။ ၂။ ၅၅) ဖွင့်တို့၍ ဂေါမဏ္ဍပရိဗ္ဗျူဠှော–ဟု ရှိမြဲရှိစေ။

ဓိယေထ[၁]–ကား ဇေ–ဓာတ်။ ဇေ ခယေ–ဖွင့်။ သုတ်ကြီးဖြင့် ဧ–ကို ဤယ–ရေး[၃]။ "ဓံ ဇာတာန မစ္စာနံ"၊ "ဓံ မစ္စာန ဇီဝိတံ" တို့၌ နိဂ္ဂဟိတ်ကျေသည်။

---

၁။ ဂါမဏ္ဍလာတိ ဂေါပါလကဒါရကာ။ မ၊ ဋ္ဌ။ ၁။ ၃၅၃ (ဋီ–မဖွင့်)။ ဂါမဏ္ဍလာတိ ဂါမဒါရကာ။ စရိယာ၊ ဋ္ဌ။ ၂၆၀။

၂။ ဆဋ္ဌမူ၌ ခိယေထ–ဟု ရှိသည်။

၃။ နီတိ၊ ဓာ။ ၄၂–ကြည့်။

"ခန္ဓာနံ စ ပဋိပါဋိ၊ ဓာတုအာယတနာန စ" (နီတိ၊ ပဒ။ ၉၀)။ "ဘောရိသန်ရထာန စ"¹။ "ဂစ္ဆ ဒေဝါန သန္တိကေ" (ဓမ္မပဒ၊ ၂၂၄-ဂါထာ) ဟူသို့။

သစ်ပင်တို့၌ မြေရေဩဇာ အငွေ့တို့သည် မိုးချုပ်လစ်ခဲ့က မြေကသည် အမြစ်, အမြစ်ကသည် ပင်မသို့, ပင်မကသည် အခက်သို့, အခက်ကသည် အရွက်အသီးသို့ တက်မြဲ။ မိုးသောက်၍ နေရောင်ခြည် ထိလတ်တုံသော်ကား အသီး, အရွက်ကသည် အခက်သို့။ ပ။ အမြစ်ကသည် မြေသို့ လျှောကျလေမြဲ။ တဖန် မိုးချုပ်၍ တက်ပြန်သော် မြေရေ အငွေ့သည် မှည့်ပြီးသော သစ်သီးတို့၌ မနှံ့နိုင်လေ။ အညှာ၌သာ ဆုံးလေသတတ်။ ထိုသို့ မြေရေအငွေ့သည် မနှံ့ခဲ့ရကား ညဉ့်အခါ၌မျှ မမြဲနိုင်၍သော်လည်း ကြွေ၏။ ညဉ့်အခါမျှ မြဲနိုင်သော်လည်း

---

၁။ ဗုဒ္ဓဝံ၊ ၃၀၆။ အဘိ၊ ဋ္ဌ၊ ၁။ ၃၄။ ဗုဒ္ဓဝံ၊ ဋ္ဌ။ ဂ၇။ ဇာ၊ ဋ္ဌ၊ ၁။ ၄။ အပ၊ ဋ္ဌ၊ ၁။ ၄။-တို့၌ "ဘောရိသန်ရထာနိ စ"- ဟု ရှိသည်။ ဗုဒ္ဓဝံ၊ ဋ္ဌ-၌လည်း "ဘောရိသန်ရထာနိ စာတိ ဘောရိသဒ္ဒေန စ သန်သဒ္ဒေန စ ရထသဒ္ဒေန စာတိ အတ္ထော။ လိင်္ဂဝိပရိယာသေန ဝုတ္တံ"-ဟု ဖွင့်သည်။ သို့သော် မူလဋီကာ (၁။ ၂၄) ၌ကား "ဘောရိသန်-ရထာနန္တိ သဒ္ဒေဟိ အဝိဝိတ္တန္တိ ဝါ ဃောသိတန္တိ ဝါ ယောဇေတဗ္ဗံ"ဟု ဖွင့်သည်။ နောက်ပေါ် မဓုဋီကာ- (၁။ ၆၇) ၌ "ဘောရိသန်ရထာနန္တာတိ ဧတေန နိဂ္ဂဟိတ-လောပံ ဒဿေတိ 'ဓာတုအာယတနာန စာ' တိအာဒီသု ဝိယ"-ဟု ဖွင့်သည်။

မိုးသောက်ခဲ့က အကျမှန်သတည်း။ ထို့ကြောင့် သုတ္တနိပါတ်ပါဠိတော် (၃၇၁)၌ "ပါတော ပတနတော ဘယံ"–ဟု မိုးသောက်ခါ၌ သစ်သီးကျကို ဟောလျှင်းလေသတည်း။ ဤတေမိယဇာတ်၌ကား "နိစ္စံ ပတနတော ဘယံ"–ဟူ၏။

နှာ–၃၅

အဇ္ဈေဝ ကိစ္စံ ကာတဗ္ဗံ–ဟု ရှိသည်ကား ပုဒ်ပျက်တည်း။ အဇ္ဇေဝ ကိစ္စံ အာတပ္ပံ–ဟူလိုသည်။ အာတပ္ပသဒ္ဒါ လုလ္လဟော။ အဋ္ဌကထာဝယ်လည်း ကုသလဝီရိယံ–ဟု ဖွင့်။ ဝိဂ္ဂိုဟ်အရကား တပေါစ ပြဟ္မစရိယာ–ဝယ် ဆိုပြီးသည်နှင့် အတူ။

"သက်ရောတိ[၁] မိတ္တသန္ထဝကာရလဒ္ဓ ဒါနဗလရာသီနံ နာမံ"–ဟု ဥပရိပဏ္ဏာသ အဋ္ဌကထာ (၁၇၁) ဆိုရကား သက်ရိ၊ အဆွေခင်ပွန်း ဖွဲ့အံ့သော အကြောင်းသည်။ သက်ရိ၊ တံစိုးပေးရခြင်းသည်။ သက်ရိ၊ စစ်ထိုးကြအံ့သော အကြောင်းသည်–ဟု ပေး။

"မိတ္တကာရေ လဒ္ဓဒါနေ၊
ဗလရာသိ ဝိပတ္တိသု။
ယုဒ္ဓေ စေဝ ပဋိညာယံ၊
သက်ရော သမ္ပကာသိတော"။–

ဟု အဘိဓာန်(၈၂၄)ဆိုရကား သက်ရိ၊ အဆုံးအဖြတ် ဝန်ခံခြင်းသည်–ဟူ၍လည်း ပေးကောင်း၏။

---

၁။ ဆဋ္ဌမူ၌ သင်္ဂရောတိ–ဟု ရှိသည်၊

စောရာ ဓနသ္သ ပတ္တေနို့–ဝယ် ဓနသ္သ–ကား ဆုံးခြိုက်ကို။ "န ရစ္ဆသ္သ သရိသ္သသိ"–(ဇာ၊ ၂။ ၃၁၇)ဟူသို့။

### နှာ–၃၇

တိရစ္ဆာနဂတာ ဟတ္ထိအဿာပိ–၌ တိရ–ဓာတ်၊ဆာန–ပစ္စည်း၊ အသဒိသဒွေဘော်ပြု။ "တိရတော ဆဆာနာ"–(၁၂၅၁)ဟု **သဒ္ဒနီတိသုတ်**။တိရစ္ဆာနဂတာ–၌ ဂတ–ပုဒ်ကား အနက်မဲ့၊ ဝါစာသိလိဋ္ဌအလို့ငှာ **အာဂုံတည်း**။

"ဝါစာသိလိဋ္ဌတာယေတိ၊
အန္တမ္ပိ စက္ခုရဒ္ဒယံ။
ဂတံ ဣတိ စ ဌာနမ္ပိ၊
အဝုတ္တေသု အယံ နယော"။ ။ (သန္ဓိဝိသောဓနီ)။

**တေမိယဇာတ်ပြီး၏။**



# ဇနကဇာတ်

## နှာ-၄၀

ဇနကဇာတ်၌-

ဒိဝါ ဒိဝဿေဝ နိက္ခမိ-၌ ဒိဝဿ ဒိဝါ ဧဝ-ဟုခဲ့။ "ဒိဝါ ဒိဝဿာတိ ဒိဝသဿ ဒိဝါ၊ မဇ္ဈန္တိက သမယေတိ အတ္ထော"။ အင်္ဂုတ္တိုရ်အဋ္ဌကထာ (အံ၊ ဋ္ဌ၊ ၃။ ၆၇)။ "ဒိဝ-သဒ္ဒေါ ဒိဝါ-သဒ္ဒေါ ဝိယ ဒိဝသပရိယာယော"။ အင်္ဂုတ္တိုရ်ဋီကာ (အံ၊ ဋီ၊ ၂။ ၁၇၂)။ "ဒိဝါ ဒိဝဿာတိ ဒိဝသဿ ဒိဝါ၊ မဇ္ဈန္တိကဝေလာယန္တိ အတ္ထော"။ သုတ်သီလက္ခန်ဋီကာ(၂၁၀)။ ဤသို့ ကျမ်းကြီးတို့၌ ဆိုသောကြောင့် သဒ္ဒနီတိ(သုတ္တ။ ၆၃၉)၌ ဒိဝါ ဒိဝဿ တွင် သတ္တမီ၌ ဆဋ္ဌီဟူသည်ကို ဆင်ခြင်။

## နှာ-၄၂

အဟံ ဝေါဟာရံ ကတွာ-၌ ဝေါဟာရ-ကို ကယော ဂဟဏ၊ ဝိက္ကယော ဒါနံ။ တဒုဘယံ သင်္ဂဟေတွာ ဝေါဟာရော-ဟူ၏။

## နှာ-၄၃

သတ္တ ဇဃ်သတာနိ-၌ ဇဃ်-ကား သတ္တဝါဟော။ "ဇဃ်-သတန္တိ ဗဟူ အနေကာ သတ္တာ"။ဋီကာအင်္ဂုတ္တိုရ်(၁။၂၂၉)။

"ဥသဘာနဒန္တရံ ဥသဘံ"-ဟု အဘိဓာန်ဋီကာ (၁၉၇-ဂါထာဖွင့်)ဆိုရကား ဥသဘမတ္တော ဌာနေ-၌ ဥသဘ တတွန်ကို ယူ။ဥသဘတတွန် အတိုင်းအရှည်ကား ခုနစ်တောင်တာနှင့်အပြန်နှစ်ဆယ်တည်း။ လေးတောင်တာနှင့် အပြန်နှစ်ဆယ်ကိုလည်း ဥသဘ-ဟူ၍ ဋီကာဝိသုဒ္ဓိမဂ်( · )ဆို၏။

## နှာ-၄၄

"ပါသာဒဿ အန္တော အန္တောပါသာဒံ"-ဟူသို "သမုဒ္ဒဿမဇ္ဈေ မဇ္ဈေသမုဒ္ဒံ။ တသ္မိံ မဇ္ဈေ သမုဒ္ဒသ္မိံ"-ဟုပြု။မဇ္ဈေ-ကား နိပါတ်။ သမုဒ္ဒသ္မိံ မဇ္ဈေ၊ အလယ်သမုဒ္ဒရာ၌။ ဝါကျ မပေးကောင်း။

"အာယူဟန္တောတိ ဥပစိနန္တော" (အံ၊ ဋီ။ ၁။ ၇၉)။ "အာယူဟနံ အဘိသင်္ခရဏံ" (အံ၊ဋီ၊ ၁။ ၁၃၀။အံ၊ ဋီ၊ ၂။ ၂၇၅)။ "အာယူဟနက္ခဏေ၊ သမီဟနက္ခဏေ"။ ( ) ဤသို့ အရာအလျောက် ဖွင့်သည် များ၏။ အာယုဟေ-ကို ဝိရိယံ ကရောတိ-ဟူသည်ကား ဖွင့်ဆက်တည်း။ အာယုဟေ-ကို အာယူဟတိ-ဖွင့်ပြီးမှ ဝိရိယံ ကရောတိ-ဖွင့်ရာသတည်း။အာယုဟေ-၌ သတ္တမီ-ကို ဝတ္တမာန်ပြန်သည်-ဟူ၏။ သုတ်ကြီးဖြင့် တိ-ကို ဧ-ရေးသည်လည်း-ဟူ၏။

"အတ္တော ဖလံ တဒမိနဝုတ္တိတာယ ဝသော တေသာတိ အတ္တဝသော၊ ကာရဏံ"(အံ၊ ဋ္ဌိ၊ ၃။ ၆၀)။ "အတ္တဝသောတိ ဝစ္ဆိ-ဝိသေသော"(အံ၊ ဋ္ဌိ၊ ၂။ ၆၆)။ ဋီကာ အင်္ဂုတ္တိုရ်။ ဤသို့ ဆိုသောကြောင့် ကံ အတ္တဝသံ၊ အဘယ်အကြောင်းကို။ တနည်းကား၊ ကံ အတ္တဝသံ၊ အဘယ်စီးပွားအထူးကို။

အာယုပေ-ကို ဝီရိယံကရောမိ-ဟူသည်ကား အတ္တနော ပုဒ်ကို ပရဿပုဒ်ပြန်သည်။

## နှာ-၄၅

ကိလမထုဒ္ဒယံ-ကို ကိလမထ+ဥဒ္ဒယံ-ခွဲ။ "ကိလမထော ကိလမနံ"-ဟု အဘိဓာန် (၇၆၁)။

## နှာ-၄၆

ကသံ ပုရိသကာရိယံ-၌ ကသံ-ကား ဘဝိဿန္တိ သံ-နှောင်း ကရ-ကို က-ရေး။ "က ကရဿ သံမှိ" (သုတ္တ။ ၁၀၃၇) သဒ္ဒနီတိ။ "အဟမပိ ပူဇံ ကသံ"-ဟု ပေတဝတ္ထု၊ ပါဠိ (၁၅၃)။ ကမ္မနှာ နှာဝသိဒတိ-၌ ကမ္မနှာ+န+အဝသိဒတိ-ဟု ခွဲ။

## နှာ-၄၉

အဝကုစ္ဆော ဟုတ္ထာ-၌ အဝ-ရှေး ကုစ္ဆ-ဓာတ်။ ကုစ္ဆ အဝမုခီကရဏေ-ဟု ဘော်။ "အဝကုစ္ဆော နိပစ္ဆဟံ" (အပ၊ ၂။ ၁၉၀)-နှင့် အတူ။

နှာ-၅၂

"ပါနီယံ ဥဒကံ တော ယံ၊
ဇလံ ပါတော ဝ အမ္ဗု စ။
ဒကံ ကံ သလိလံ ဝါရိ၊
အာပေါ အမ္ဘော ပယံပိ စ"။

"နီရဉ္စ ကေပုကံ ပါနိ၊
အမတံ လေမေဝ စ။
အာပေါနာမာနိ တောနိ၊
အာဂတာနိ တတော တတော"။

သဒ္ဒနီတိ(ဓာ။ ၁၂၇)။

"ကထံ သမုဒ္ဒမတရိ၊
ကထံ အတရိ ကေပုကံ။
ကထံ သတ္တ သမုဒ္ဒါနိ၊
ကထံ သိမ္ဗလိမာရုဟိ"။-

ငါးရာပါဠိ(ဇာ၊ ၁။ ၁၀၆)။ဤသို့ ဘုရားပါဠိ, သဒ္ဒါကျမ်းတို့၌ လည်း ကေပုကသဒ္ဒါ ရှေးဟော ထင်၏။

နှာ-၄၈။ ၅၀

သဟာဿထာမော၊ဗိုလ်ခြေ တထောင်တင်သော လေး။ "တံ မန္ဒံ ပုရိသသဟဿံ အာရောပေတိ"။ တိက္ကနိပါတ်အင်္ဂုတ္တိုရ် အဋ္ဌကထာ၊ ဇ-အင်္ဂါ(အံ၊ဋ္ဌ၊၂။ ၁၂၇)။ "သဟဿထာမန္တိ ပုရိသ

၁။ သာဝေါ (မြ) ဘာဝေါ (က)။

သဟာယဗလံ ပုရိသ သဟာယေန ဝဟိတဗ္ဗဘာရသဟံ။ တိက္ကနိပါတ် ဋီကာ အင်္ဂုတ္တိုရ်၊ ဋ္ဌေ-အင်္ဂါ(အံ၊ဋ္ဌီ၊၂။၁၁၉)။ဋီကာအလိုသော်ကား သဟာယထာမော၊သူတထောင် ရွက်သော ဝန်ကို ချီသော လေး-ဟု ပေးစေလိုသတည်း ။"ဒ္ဓမနုနာမ ဒွိသဟာယထာမံ ဝုစ္စတိ။ဒွိသဟာယထာမန္တိ စ ယဿ အာရောပိတဿ ဇိယာဗန္ဓော လောဟသီသာဒိနံ ဘာရော ဒဏ္ဍော ဂဟေတွာ ယာဝ ကဏ္ဍပ္ပမာဏာ ဥက္ခိတ္တဿ ပထဝိတော မုစ္စတိ"။ အနုဋီကာ (၁။၆၉)။အနက်ကား အာရောပိတဿ၊ တင်ပြီးထသော။ယဿ မနုနော၊ အကြင်လေး၏။ဇိယာဗန္ဓော၊ညို့အလယ်၌ ဖွဲ့သော။ လောဟ သီသာဒိနံ ဘာရော၊ကြေးခံ့လောက်အစရှိသော ဝန် သည်။ဒဏ္ဍော၊လေးရိုး၌။ဂဟေတွာ၊ကိုင်၍။ယာဝ ကဏ္ဍပ္ပမာဏာ၊ မြားနှင့်အမျှ။ မြားမြုပ်အောင်-လည်းဟူ။ ဥက္ခိတ္တဿ၊ချီစဉ်။ ပထဝိတော၊မြေမှ။ မုစ္စတိ၊လွတ်၏။ တံမနုံ၊ထိုလေးကို။ဒွိသဟာယထာမန္တိ စ၊ ဒွိသဟာယထာမဟူ၍။ ဝုစ္စတိ၊ဆိုအပ်၏။

ဒဏ္ဍေ ဂဟေတွာ ယာဝ ကဏ္ဍပ္ပမာဏာ ဥက္ခိတ္တဿ-ကား အာရောပိတဿ ယဿ-နှင့် တုလျတ်၊ဇိယာဗန္ဓော လောဟသီသာဒိနံ ဘာရော-ကား မုစ္စတိ- နှင့် စပ်။ ဒဏ္ဍေတိ မနုံ ဒဏ္ဍေ။ယာဝ ကဏ္ဍပ္ပမာဏာတိ ဒီဃတော ယတ္တကံ ကဏ္ဍဿ ပမာဏံ၊တတ္တကေ သမနုကဏ္ဍေ (မနုဒဏ္ဍေ။ဆဋ္ဌမူ)ဥက္ခိတ္တမတ္တေ အာရောပိတေသုယေဝ ဇိယာဒဏ္ဍေသု သော စေ ဘာရော ပထဝိတော မုစ္စတိ၊ဒွိသဟာယပလံ(ထာမန္တိ။ဆဋ္ဌမူ) လေဟာဒိ ဘာရံ ဝဟိတုံ သမတ္ထံ ဒွိသဟာယထာမံ။နဝနိပါတ် အင်္ဂုတ္တိုရ်

ဋီကာ (အံ၊ဋီ၊၃။၃၀၁)။"တုလာ ပလသတဥ္စာထ၊ ဘာရော ဝီသတိ တာ တုလာ"။အဘိဓာန်(၄၈၁)။ပိုလ်ဘာရသော် တုလာ မည်၏၊ တုလာနှစ်ဆယ်သော် ဘာရမည်၏–ဟူသောကြောင့် တာဘာရမည်၏–ဟူသည်ကား ပိုလ်နှစ်သောင်း ဖြစ်သတည်း။ ထိုကိုရည်၍ "ဒွိသဟဿပလံ လောဟာဒိဘာရံ" –ဟု ယခင် ဋီကာဆိုသတည်း။

အဓိပ္ပါယ်ကား–တင်ပြီးသော လေး၏ ညှို့အလယ်၌ နှစ်ထောင်သော ပိုလ်လေးဘာရကို ချည်၍ လေးရိုးကို ခါလေသော် လေးညှို့အလယ်နှင့် လေးရိုးအလယ် အကြားသည် မြားနှင့် ခွင်တည်ံ ကျယ်အံ့၊ဘာရလည်း မြေမှ ကြွအံ့။ထိုလေးလျှင် ဒွိသဟဿထာမ–မည်၏–ဟူလိုသည်။ အကယ်၍ လေးကျန်းအံ့၊ မြားနှင့် အရှည်ခွင်မကျယ်ခင် ဘာရ မြေမှကြွရာခဲ့။ အကယ်၍ လေးညှံ့အံ့၊ မြားထက်မက ခွင်ကျယ်မှ ဘာရ မြေမှ ကြွရာခဲ့။ ဤသို့ မြေဝယ်ထားသော လင်းလေးကို ဆိုမှုလျှင် စာနှင့် ထောက်သော် ညီရာသတည်း။ ထူးလေး–ဟူအံ့၊ ယာဝကဏ္ဍပ္ပမာဏာ–နှင့် မတန်၊ ပထဝိတော မုစ္စတိ– နှင့်လည်း မတန်ခဲ့။ ဤ ဇနကဇာတ်၌ သဟဿထာမော–ကိုကား ယခင် ရှေးဦး အင်္ဂုတ္တိုရ် တိကနိပါတ် အဋ္ဌကထာ, ဋီကာဆိုတိုင်း ပေး လေ။ အနုဋီကာဆိုသော ဒွင္ဍမန္ဒ–နှင့် သဟဿထာမဓနု–ကား မတူကြ။ ငါတို့ဘုရားလောင်း သိဒ္ဓတ္ထကုမာရ သာကီဝင်မင်း သားတို့အား လေးအတတ်ကို ပြသည်လည်း သဟဿထာမဓနု တည်း။

---

၁။ အရှည်ခွင်လည် (မြ)။

နှာ-၅၃

အဝိတက္ကိတာ မစ္စု မုပဗ္ဗဇန္တိ-၌ ယော-နှောင်း ဥ-ကို အာ-ရေး ယော-ကိုလည်း ချေ။ သတ္တာဒတိင္ဇန္တိ-နှင့် အတူဟု သဒ္ဒနီတိ(ပဒ။ ၁၀၂။ သုတ္တ။ ၄၁၁)ဆို၏။

နှာ-၅၅

သဗ္ဗဘူမော ဒိသမ္ပတိ-၌ ဒိသာနံ ပတိ-ဟု ပြု။ ဂေါ-နှောင်း သာ နံ-ကို အံ-မရေး။ ပတိ-သဒ္ဒါ နှောင်းလတ်က တပါး သော သဒ္ဒါနှောင်းလည်း နံ-ကို အံ-ရေးသည် ရှိရာ၏။

"အနန္တပါယိ သကုဏော၊
အတိတ္တောတိ[၁] ဒိသာသုတော။
သမုဒ္ဒံ ပါတုမိစ္ဆာမိ၊
သာဂရံ သရိတံ ပတိ"။(ဇာ၊ ၁။ ၉၀)။-

ငါးရာပါဠိ-၌ သရိတာနံ ပတိ၊ သရိတံ ပတိ-ဟုသည်လည်း ဒိသမ္ပတိ-နှင့်အတူ။ ပတိ-သဒ္ဒါနှောင်းသော် ဗဟုဝုစ် နံ-ကိုသာ အံ-မရေး၊ ဧကဝုစ် သ-ကိုလည်း အံ-ရေးပါ၏။ "သုဇမ္ပတိ, သဟံပတိ"-ပုဒ်တို့ကဲ့သို့တည်း။ သဟံပတိ-၌ သဘာယံ ပတိ သဟံပတိ-ဟု ပြု၍ သဘာ-သဒ္ဒါကို သဟ-ရေးသည် ဟူ၏[၂]။

---

၁။ ဓာတိတ္တော-ဟု ပေ၂-စောင်လုံး၌ ရှိသည်။
၂။ သဟာကပတီတိ ဝတ္တဗ္ဗေ အနုသာရာဂမံ ကတွာ ရစ္ဆေ သေန "သဟမ္ပတီ"တိဝုတ္တံ။ ဗုဒ္ဓဝံ၊ ဋ္ဌ။ ၁၄။ သဟ ကာဿ ကာဿ ပတိမှိ နိဂ္ဂဟီတဂ္ဂံ။ ဖြဟ္မာ သဟံပတိ၊ နီတိ၊ သုတ္တ။ ၁၅၂။

န ဂိတေ ကုရုတေ မနော–၌ ကရ–ဓာတ်နောင် ဩ–ပစ္စည်းကို ဉ–ပြု၊ က-အစိတ် အ–ကိုလည်း ဉ–ပြု။ မနော–ကား အံ–ကို ဩ–ရေး၍ ကံပုဒ်တည်း။

နှာ-၅၆

“ယထာ ဝါဒီ တထာကာရီ၊
အဟု ဗုဒ္ဓဿ သာဝကော။
အစ္ဆိဒ္ဒါ မစ္စုနော ဇာလံ၊
တတံ မာယာဝိနော ဒင်္ဠံ”။

ပါဠိခွံ (သုတ္တနိ။ ၃၃၂)။ “မစ္စုနောတိ မာရဿ။ တတန္တိ တေဘူမကဝဋ္ဋေ ပတ္ထတံ ဝိတ္ထတံ။ ဇာလံ တဏှာဇာလံ။ မာယာဝိနော မာယာဿ”။ ကျူ° သုတ္တနိပါတ်နှင့်နှင့်၂။ “တတံ မာယာဝိနောတိ အတိမာယာဝိနော”-ဟု အဋ္ဌကထာဖွင့်၏။ ထေရာ ကျမ်း၌သော် တမူကား “တတံမာယာဝိနောတိ ဗဟုမာယဿ”–ဟူ၏၃။

တံ ကုဒ္ဒါလ ဘဝိဿတိ–၌ ကုဒ္ဒါလ+အဿု-ဟု ခွဲ။အဿု-သဒ္ဒါ နိပါတ်ဖြစ်သောကြောင့် သဒ္ဒဘော် ရှိရာသတည်း။ သံယောဂအက္ခရာ နှောင်းလျက်ပင်လျှင် ကုဒ္ဒါ–ဝယ် ဒ–အစိတ်

၁။ ပေချပ်အမှတ် ဗျည်းများ ဖြစ်ဟန်တူသည်။
၂။ မစ္စုနော ဇာလံ တတန္တိ တေဘူမကဝဋ္ဋေ ဝိတ္ထတံ မာရဿ တဏှာဇာလံ။ မာယာဝိနောတိ ဗဟုမာယဿ။ သုတ္တနိ၊ ဋ္ဌ။ ၂။၈၄။
၃။ ထေရ၊ ဋ္ဌ၊ ၂။ ၅၃၇ (ဆဋ္ဌမူ)၌ သုတ္တနိ၊ ဋ္ဌနှင့် အတူပင် ဖွင့်သည်ကို တွေ့ရသည်။

အာ–ကျေ၍ အဿု–ဝယ် အ–သည် ဒီဃရောက်သည်။အယျ၊ အည၊ အဂ္ဃ၊ အဿု၊ အဿ၊ အတြ၊ ဤခြောက်ပုဒ်တို့နှင့် န မာ ဒါ ဝါ သ္မာ တြ ဏှာ တွာ၊ ဤရှစ်လုံးသော အက္ခရာတို့ကိုလည်းသန္ဓေစပ်မှုကားဤရှစ်လုံးသော အက္ခရာတို့၏ အစိတ်သရလည်း ကျေမြဲ၊ အယျ အည–အစရှိသည့် နောက်ပုဒ်တို့၏ အ–လည်း သံယောဂနှောင်းလျက်ပင် ဒီဃရောက်မြဲ။နာယျော သော ဘိက္ခု။ နာညမညဿ ဒုက္ခမိစ္ဆေယျ။ ကလံ နာဂ္ဃတိ သောဠသိံ။ နာဿုဓ ကောစိ ဘာဂဝန္တံ ဥပသင်္ကမိတုံ။ နာဿ စောရာ ပသဟန္တိ။ဤကား အယျ–စသည် ငါးပုဒ်နှင့် န–အက္ခရာ သန္ဓေ။ မာယျော ဧဝရူပမကာသိ။ မာဿု ကုဇ္ဈိ ဘူမိပတိ။ မာဿု တိဏ္ဏော အမညထ။ဤကား အယျ အဿု– ပုဒ်နှင့် မာ–အက္ခရာ သန္ဓေ။တဒါဿု ကဏှံ ယုဉ္ဇန္တိ။ ကဒါဿု မံ အဿရထာ။ တံ ကုဒါဿု ဘဝိဿတိ။ ဤကား အဿု–ပုဒ်နှင့် ဒါ–အက္ခရာ သန္ဓေ။ သတ္တာဟာရကံ ဝါဿ ပရိယေသေယျ။ သညာ ဝါဿ ဝိမုယှတိ။ ဤကား အဿ– ပုဒ်နှင့် ဝါအက္ခရာ သန္ဓေ။ တသ္မာဿ ဟောတိ သံဝဏ္ဏနာ။ တတြာဿ ကရဏီယံ နတ္ထိ။ တဏှာဿ ဝိပ္ပဟီနာ။ ကတွာတြ စတုမာပတိ။ဤကား အဿ အတြ–ပုဒ်တို့နှင့် သ္မာ တြ ဏှာ တွာ–အက္ခရာတို့ကို သန္ဓေစပ်သတည်း။ "နမာဒါဝါသ္မာတြ–ဏှာတွာဒီနံ သရလောပေ အယျညဂ္ဃဿုဿာန မကာရော ဒီဃံ"ဟူ၍ သဒ္ဒနီတိသုတ် (၄၁)။ ထို၌ အာဒိပုဒ်ဖြင့်ကား စက္ခုမာဿ ယထာ အန္ဓော။ ပညဝါဿ ယထာ မူဂေါ။ ဤပုဒ်တို့ကိုယူ။

နှာ-၆၇

ဗာဟာ ပဂ္ဂယှ-၌ ဃ-နောင် ယော-ကျေသတည်း။

သတပလံ ကံသံ°-၌ ပိုလ်, တပိုလ်-ဟူသော်ကား အကျပ် လေးဆယ်တည်း။ ပိုလ်တဆယ်သော်ကား အကျပ် လေးရာ တည်း။ ပိုလ်တရာသော်ကား အကျပ်လေးထောင်တည်း။ ပိုလ် တရာခုတ်သော ရွှေလင်ပန်းကား ရွှေလေးထောင်တည်း။

"စတ္တာရော ဝီဟယော ဂုဉ္ဇာ၊
ဒွေ ဂုဉ္ဇာ မာသကော ဘဝေ။
ဒွေ အက္ခာ မာသကာ ပဉ္စ-
က္ခာနံ ဓရဏမဋ္ဌကံ။
သုဝဏ္ဏော ပဉ္စဓရဏံ၊
နိက္ခံ တု နိဋ္ဌိ ပဉ္စ တေ။
ပါဒေါ ဘာဂေ စတုတ္ထေ ထ၊
ဓရဏာနိ ပလံ ဒသ"။

"တုလာ ပလသတဉ္စာထ၊
ဘာရော ဝီသတိ တာ တုလာ"။
**အဘိဓာန်ဂါထာ** (၄၇၈-၈၁) ။

လေးစပါးကား တချင်ရွေး။နှစ်ချင်ရွေးကား တပဲ။နှစ်ပဲ ကား တမူး၊ငါးမူးကို ရှစ်ခါပြန်မူကား ဓရဏမည်၏-ဟူရကား ဓရဏ-ဟူသော် လေးကျပ်တည်း၊ငါးဓရဏ-ကား သုဝဏ္ဏမည်

၁။ ဤပုဒ် နှာ-၆၁-၌လည်း ပါသည်။

၏–ဟူရကား အကျပ်နှစ်ဆယ်ကို သုဝဏ္ဏ–ဟူသတည်း၊ ငါး သုဝဏ္ဏမူကား နိက္ခမည်၏–ဟူရကား တနိက္ခသော် အကျပ် တရာတည်း၊တကျပ်ကို လေးဖို့စု၍ တဖို့ကိုလျှင် ပါဒ–ဟူသတည်း။ ရေဏုတဆယ်ကား ပိုလ်မည်၏။ပိုလ်တရာကား တုလာ–မည်၏။ တုလာနှစ်ဆယ်ကား ဘာရ–မည်၏။ပိုလ်တရာသော် အကျပ် လေးထောင် တုလာ–မည်၏။ တုလာတဆယ်မူကား အကျပ် လေးသောင်း၊တုလာနှစ်ဆယ်ကား အကျပ်ရှစ်သောင်း၊အကျပ် ရှစ်သောင်းကိုလျှင် တဘာရ–ဟူသတည်း။တပိုလ်ကား အကျပ် လေးဆယ်။ ပိုလ်ဓာဆယ်ကား အကျပ်လေးရာ၊ ပိုလ်တရာကား အကျပ်လေးထောင်။ပိုလ်တထောင်ကား အကျပ်လေးသောင်း။ ပိုလ်နှစ်ထောင်ကား အကျပ်ရှစ်သောင်း။အကျပ်ရှစ်သောင်းကား ဘာရ–မည်၏။ရှေး၌ ဆိုခဲ့ပြီးသော "ဇိယာပဒ္ဓော လောဟ သီသာဒီနံ ဘာရော"–ဟူသည်လည်း ဤ အကျပ်ရှစ်သောင်းရှိ သော ဘာရ–ကို ဆိုသတည်း။

## နှာ–၇၆

သတ္တိ ပုတ္တာ ဝိဒေဟာနံ–၌ ပုတ္တာကား တံပုတ္တ–ဗဟုဝုစ်။ပြည်သူများသောအားဖြင့် ပုတ္တတယောက်၌ ဗဟုဝုစ်တင်၍ ဆိုသည်–ဟူ၏။သဒ္ဒနီတိ(ပဒ။ ၂၆)။

## နှာ–၇၉

ကုမာရိယေ ဥပသေနိယ–၌ ကုမာရိယ–သဒ္ဒါ၊ကုမာရီ စာရ ဒဿနာ–၌ ကား ကုမာရီ–သဒ္ဒါ ဤနှစ်ပါး အနက်တူ။ဒဟရီ သဒ္ဒါ၊ ဒဟရိယ–သဒ္ဒါ ကဲ့သို့။

"ကသ္မာ တေ ဧကော ဘုဉ္ဇော ဇနတိ၊ဧကော ဘော န ဇနတိ ဘုဉ္ဇော"-၌ ဇနတိ-သည်း ရှိ၏။သဏှတိ-ဟူ၍လည်း ပါဠိဇာတ်၌ ရှိ၏။ဇနတိရှိသော်ကား ဇန သဒ္ဒ-ဟု ခတ်ဖော်။ သဏှတိ-ရှိသော်လည်း သဏှ သဒ္ဒ-ဟူ၍လည်းကောင်းဖော်။ ဝေဿန္တရာ၌ "သဏှတေဝ ဗြဟာရည်"-(ဇာ၊၂။၃၂၆)-ဟူ၏။

## နှာ-၈၄

သဒ္ဒတ္ထဘေဒစိန္တာ၌ "ဇာတကဥ္စကထာယန္တု၊ ဣတောပေက္ခာယတီတတာ"(၃၅၅)ဟု ဆိုသောနည်းကို မှီ၍-ဥပ္ပလဝဏ္ဏာ၊ ဥပ္ပလဝဏ် ရဟန္တာမသည်ကား။တဒါ၊ထိုမဟာဇနကမင်း ဖြစ်သောအခါ၌။ သမုဒ္ဒရက္ခိကာ၊သမုဒ္ဒရာစောင့်သော။ ဒေဝဓိတာ၊ နတ်သမီးသည်။ အဟောသိ၊ဖြစ်လေပြီ။ သာရိပုတ္တော၊ သာရိပုတ္တရာသည်ကား။နာရဒေါ၊နာရဒရသေ့သည်။အဟောသိ ပြီ။ မောဂ္ဂလ္လာနော၊ ကား။ မိဂါဇိနော၊ မိဂါဇိန ရသေ့သည်။ အဟောသိ၊ ပြီ။ ဤသို့နှင့်နှင့် ဇာတ်အဆုံးဟူသမျှ၌ ပစ္စုပ္ပန်ဖြစ်သောပုဂ္ဂိုလ်အမည်ကိုရှေးဦးစွာ ဆိုဦး၍ အတိတ်ဖြစ်သော ပုဂ္ဂိုလ်အမည်ကို နောက် ဆိုရာသတည်း။

ဇနကဇာတ်ပြီး၏။

---

# သုဝဏ္ဏသာမဇာတ်

နှာ-၈၅

သုဝဏ္ဏသာမဇာတ်၌—

တာတ ကုလင်္ကုရ-လိုသည်၊ ကုလဝင်္ကုရ—မလို။

"ဇရာဇိဏ္ဏာတိ ဇရာဝသေန ဇိဏ္ဏာ၊ န ဗျာဓိအာဒိနံ ဝသေန၊ ဇိဏ္ဏသဒ္ဒိသတ္တာဇိဏ္ဏာ"-ဟု ဋီကာအင်္ဂုတ္တိုရ်ကြီး (အံ၊ ဋ္ဌ၊ ၂။ ၁၂၇) ဖွင့်ရကား ဇရာ-ဇိဏ္ဏာ—ကား သမာသ်။ "ဇိဏ္ဏာတိ ဝါ ပေါရာဏာ"—ဟု ဖွင့်တုံရကား ဝါကျလည်း ကြံကောင်း၏။ "ဝုဍ္ဍါတိ အင်္ဂပစ္စင်္ဂါနံ ဝုဍ္ဍိမရိယာဒံ ပတ္တာ။ မဟတ္တံ လန္ဓိ ဂတာ။ န္တိတိ မဟလ္လကာ။ မဟလ္လကာတိ ဝိဘဝမဟန္တတာယ သမန္နာဂတာ"-လည်း ဟူ၏။ ဋီကာအင်္ဂုတ္တိုရ်(အံ၊ ဋ္ဌ၊ ၂။ ၂၄၅-၆) နှင့်နှင့်။

နှာ-၈၇

စိရဒိဋ္ဌပုဗ္ဗာ—၌ ကိဋ္ဌာပိ-ဟု ပါဌသေသ။ ကိဋ္ဌာပိ စိရဒိဋ္ဌပုဗ္ဗါ။ ပန တထာပိ၊ ထိုသို့ မြင်ခြင်းဖြစ်သော်လည်း။

ပါရာဇိကပ္ပတ္တော ဝိယ-ဟူသည်ကား ဒုဿီလဖြစ်၍ ဆိုသည် မဟုတ်၊ အားထုတ်ခြင်း လျော့သည်ကိုမျှ ဆိုသည်။ လောင်း တမ်းကြသသူတို့ကား ရှုံးက နှလုံးချ၍ နှလုံးမူ၍ အံလောင်း ရှုံးသော သူကဲ့သို့—ဟူသတည်း။

နှာ-၉၁

ကိုယ်ဝန်တည်ရာ ဝတ္ထု၌ တခါ တခါ ပြည့်သောသွေးသည် တကြိမ်တကြိမ် အောက်ဒွါရသို့ စီးလတ်သတည်း။ ထိုသို့စီးလတ်သောခါလျှင် ကိုယ်ဝန်တည်ရာဝတ္ထု သန့်ရှင်းသဖြင့် အလပ်ဖြစ်သတည်း။ ထိုသို့ ဝတ္ထုသန့်ရှင်းစင်မှုလည်း ကိုယ်ဝန်တည်ရာသတည်း။ **မူလပဏ္ဏာသအဋ္ဌကထာ** (မ၊ ဋ္ဌ။ ၂။ ၂၁၀)ဆို၏။ ဤသို့ဖြစ်၍ နာဘိပရာမသနအားဖြင့် ဥတုလာစဉ် ကိုယ်ဝန်တည်စိမ့်သောငှါ ဥတုနီကာလေ-စသည်ကို ဆိုသတည်း။ မမှိဝဲလျက် ကိုယ်ဝန်စွဲရာသည်အပြားကိုကား ထိုထိုသုတ် အဋ္ဌကထာတို့၌ဆို၏။မိုးသံကြားက ကိုယ်ဝန်တည်သည်ကိုကား **အပဒါန်ပါဠိ** (၁။ ၄၆)၌ ဤသို့လာ၏-

"ယထာ ဗလာကယောနိမှိ၊
န ဝိဇ္ဇတိ ပုမော သဒါ။
မေဃေသု ဂဇ္ဇမာနေသု၊
ဂဗ္ဘံ ဂဏှန္တိ တာ သဒါ။
စိရမ္ပိ ဂဗ္ဘံ မာရေန္တိ၊
ယာဝ မေဃော န ဝဿတိ။
ဘာရတော ပရိမုစ္စန္တိ၊
ယဒါ မေဃော ပဝဿတိ"။

ဤ၌ ပုမော-ကား ကစ္စည်း မပြီး၊ သဒ္ဒနီတိ်ပြီး၏။ **စရိယာပိဋကအ** (၄၁၂) ၌လည်း-"သောဋ္ဌသိတ္တိ သဟာဿာနိ၊ န ဝိဇ္ဇတိ ပုမော တဒါ"-ဟု ရှိ၏။ ယောနိယံ-လိုလျက်

ယောနိမို-ဟု ဂါထာ ဆန်းအားဖြင့် ရှိလေသည်။ "ကုသာဝတိမ္ဟိ နဂရေ" ။ "ဒွိဓာ သန္ဓိမှိ ဝတ္တတိ" ။ ဤနှင့်အတူ ဇုတ္တိလိင် ဤကာရန်နှောင် သို့-ကို မ်-ရေးသည်။ ဤမှတပါး ရခဲ၏။ "ပုမန္တသာသိမ္ဟိ" - သုတ် လွတ်၍ ပုမော-ပြီး သည် လည်း ဤအာဂုံမှတပါး ရှိခဲ၏[၁]။

နှာ-၉၄

ပမတ္တံ-ဟူသည်ကား မေတ္တာစိတ်သက်ကြိုက် မြားမမှန်ရာ သည် ဖြစ်၍ မြားမှန်သည်ကို အစွဲမူသဖြင့် မေတ္တာစီးဖြန်းခြင်း ဓမ္မလျော့မိသည် မည်၏-ဟူလိုသတည်း။

ပမတ္တံ ဥဒကဟာရိယံ-မလို၊ ဥဒဟာရိယံ-ဟူ၍လိုသည်။ ဥဒကသဒ္ဒါ၌ က-ကျေသည်၊ ဤ က-ကျေသည်ကား သမာသ် သာ။ "နိလောဒံ ဝနမဇ္ဈတော, (ဇာ၊ ၂။ ၂၂၂)။ ဥဒဓိ" ဤသို့စသည်တည်း။ ဝါကျမူ ဥဒကသဒ္ဒါသာ၊ က-ကျေသည် မရှိရာ။ "အမ္ဗပက္ကံ ဒကံ သီတံ" (ဇာ၊ ၁။ ၁၀၁)။ "ဒဇ္ဇာပါ ဒကရက္ခိနော" (ဇာ၊ ၁။ ၃၇၅။ ဇာ၊ ဠ၊ ၆။ ၃၂၅၊ ၃၂၆၊ ၃၂၇၊ ၃၂၉)။ "ကေ ဥဒကေ ဝဋ္ဋတိဘိ ကေဝဋ္ဋော။ ကေနု တရန္တိ အတိက္ကမန္တိ ဧတ္တာတိ ကန္တာရံ"။ ဤသို့ ဒက-သဒ္ဒါ၊ က-သဒ္ဒါ ရှိသကဲ့သို့လည်း ဥဒ-သဒ္ဒါ အသီးမရှိ[၂]။

ဝိဒ္ဓါကား ဝိဓ-ဓာတ် တွာ-ကို ဒ္ဓါရေးသည်။ဓာတွန်ကျေ[၃]။

၁။ နီတိ၊ ပဒ။ ၂၁၆၊ ၂၇၁-တို့ကြည့်။
၂။ ဝုတ်။ ပဒ။ ၃၁၃-ကြည့်။
၃။ နီတိ သုတ္တ။ ၁၂၀၆-ကြည့်။

## နှာ-၉၇

မိဂမေဿ စရာမဟံ-ကို မိဂမေဿံ-ဟု ပြန်၍ သေံ
သန္တော-ဖွင့်လိုသည်-ဟူ၏ရှင့်။ သုတ္တနိပါတ် ဿော-ဟု ရှိ၏။
'သဒ္ဓါ ပကတမေသာနံ၊ ဒါတဝေ တဒမညိသုံ" (သုတ္တနိ။
၃၂၃)။ "ဧသန္တိတိ ဿော၊ တေသံ ဿောနံ" (သုတ္တနိ။ဋ္ဌ။
၂။၇၀)"။ပ။ အဟာဥ္ဟ မိဂမေဿနော" (ဇာ၊ ၂။ ၂၂၃)
ကို ရှု၍ မိဂမေဿ, မိဂမေဿနော နှစ်ပါးရှိကောင်း၏။

ဒဠ္ဟံ ထိရံ မနု တေဿာတိ ဒဠ္ဟမန္နော။ဒဠ္ဟမန္နော-ကို ဒဠ္ဟမမ္မော-
ဟူလေသည်ဟု **ဋီကာအင်္ဂုတ္တိုရ်** (အံ၊ဋီ၊၂။ ၃၀၂)။ ဒဠ္ဟမနု-
မည်သည်ကို ဇနကဇာတ်ဝယ် ဆိုခဲ့ပြီ။

## နှာ-၉၆

ဋီကာအင်္ဂုတ္တိုရ်(အံ၊ဋီ၊ ၂။ ၃၉)၌ "မိဂမစ္ဆာဒီနံ နိသာ-
နတော နေသာဒါ"-ဟူရကား မိဂမစ္ဆေ နိသာဒေန္တီတိ
နေသာဒါ။ နိသာဒေန္တိ၊ ခုတ်စဉ်းတတ်ကုန်၏။ နေသာဒါနံ
ပုတ္တော နေသာဒပုတ္တော-ဟု [redacted]။ဒုကူလနှင့် ပါရိကလည်း
နေသာဒကုလ၌ ဖြစ်၍ နေသာဒမည်၏။ ပဗ္ဗဝေါဟာရအားဖြင့်
ရသေ့ဖြစ်ပြီးလည်း နေသာဒ တွင်၏။ "နိရဝသေသံ ဖလံ
သန္တော အဒေန္တိ ဘက္ခန္တီတိ နေသာဒါ"-ဟု ရသေ့ရအောင်
ပုံကောင်း၏ရှင့်။ နေသာဒ- သဒ္ဒါ ရသေ့ဟောမရှိ။

ပဿ မိမ္ဟာမိ လောဟိဘံ-လိုသည်။ မိမာမိ-မလို။ မိမ္မ
ဋ္ဌဘာနေ-ဟု သဒ္ဒနီတိ (ဓာ။၂၀၀)။

အာတုရော တျာနုပုစ္ဆာမိ-၌ တုံ+အနုပုစ္ဆာမိ-ခွဲ။ တုမ္-သဒ္ဒါပြီး တံ-ကို တုံ-ရေးသည်။ "တံသဒ္ဒါ တုမ္ဒဏ္ဍ တုံ"-(သုတ္တ။ ၄၃၇)ဟု **သဒ္ဒနီတိသုတ်** အသီးတည်၏။ ငါးရာပါဠိ၌ -"ကထံ နု ဝိဿသေ တျုမ္ဟိ"-(ဇာ၊ ၁။ ၃၉၁)ဝယ်လည်း သဗ္ဗနာမ် တ-ကို တျ-ရေးသည်။ "ခိဋ္ဍာ ပဏိဟိတာတျာသု၊ ရတိ တျာသု ပတိဋ္ဌိတာ" (ဇာ၊ ၂။ ၉၃)၌ တာ-ကို တျာ-ရေးသည်လည်း **သဒ္ဒနီတိ** ဝယ်သာ ပြီးသည်။ "တာသု တမ္ဟိ နံ တျတ္တံ"- (သုတ္တ။ ၄၃၆)ဟု လက္ခဏာအသီးတည်၏။ **တေန** ကောဓော မမာဝိသိ-၌ မံ+အာဝိသိ-ခွဲ။ အာ-ပုဗ္ဗ ဝိသ ပဝေသနေ-ဟု ဓာတ်ကိုင်သော် ကောဓော၊သည်။ မံ၊ ကို။ ဝါ။ သို့။ အာဝိသိ၊ ဝင်၏-ဟု ပေးမိဖနန်း။ ဟဒယဝတ္ထုကို မှီသော ဒေါသစိတ်ကို ဗဟိနိက္ခမနအားဖြင့်ကား ဆိုကောင်း၏။ အန္တောပဝေသနအားဖြင့် မဆိုကောင်းရကား အာ-သဒ္ဒါသည် ဘုသ-အနက်။ ဘုသ-ဟူသော်ကား အဇ္ဈောတ္ထရဏ။ ထို့ကြောင့် **အာဝိသိ-ကို အဇ္ဈောတ္ထရိ-ဖွင့်လေသည်။ သုတ္တနိပါတ်**(၄၂၄)၌ "အညမညေဟိ ဗျာရုဒ္ဓေ၊ ဒိသွာ မံ ဘယမာဝိသိ"-ဟု ပါဠိ။

## နှာ-၉၇

ပဗ္ဗတာနိ **ဝနာနိ စ**-၌ **ပဗ္ဗတာနိ**-ကား နပုံသကလိင် ပြန်၍ ရှိလေသည်။ "**သိဝိပုတ္တာနိ** စာဝှယ"၊ "ဝေ ဓမ္မာနိ သုတွာန" ဟူသို့ **ပဗ္ဗတေ**-ဟု ပုလ္လိင်ဖွင့်၍ ပေး။

ဥသုံ တေ တံ အဝဿဇ-လိုသည်၊ အဝဿရိ-မလို။

နှာ-၉၈

သာဟာသ ဇီဝိတံ-၌ သာဟာသ-ကို ဆ+အဟာသ-ခွဲ။ ဆ-ကို သ-ရေး။ အဟ-သဒ္ဒါ ဒိဝသ-ဟော။ "ဒိဝသော တု အဟံ ဒိနံ"-ဟုအဘိဓာန်(၆၇)။ သာဟံ ဇီဝိတံ-ဟု အစ္စန္တသံယောဂ ဒုတိယာ ရှိတန်လျက် ဆဋ္ဌီဝိဘတ်အစား သက်ဘိရကား သာဟာသ-ဟုရှိသည်။ ထို့ကြောင့် ဆဒိဝသမတ္တံ-ဟု ဖွင့်သတည်း။

နှာ-၉၉

ပုမ္မနာ-လိုသည်၊ ပမ္မနာ-မလို။ ပုမ-သဒ္ဒါ နာ-နှောင်း မ-အစိတ်ကို ဉ-ရေးသည်။

စိရရတ္တာယ ရုစ္ဆတိ-လိုသည်၊ ရုစ္စတိ-မလို။ ရုဒ-ဓာတ်၊ ဓာတ္ဝန် ဒ-ကို စ-ရေး။ သဘိ-ဝိဘတ်ဝယ် သ-ကို ဆ-ရေးသည်ဟု သဒ္ဒနီတိ(သုတ္တ။ ၁၀၄၅)။

ယဋ္ဌ အဓွေ-ဝယ် ယံ-ကား ကာရဏတ္ထေ ပဌမာ-တည်း။ "ယံ တံ ဂေါတမ ပုစ္ဆာမိ"-သို့။ ယံ၊ အကြင်ကြောင့်-ဟု ပေး။

နှာ-၁၀၀

"အဟန္တေ တတ္တ ဘရိဿာမိ၊ ယထာ တေ ဘရိတေ တုဝံ"-ဟု ရှိသည်ကား ပုဒ်ပျက်တည်း၊ "အဟန္တေ တထာ ဘရိဿံ၊ ယထာ တေ အဘရိ တုဝံ"-ဟု လိုသည်။

နှာ-၁၀၃

အဒ္ဒူသကာ ပိတာပုတ္တာ-ကား "တျဇ္ဇပုတ္တေ န ပဿာမိ"-ကဲ့သို့ ယောကျ်ားဟောသော၊ ကေသေသ ကြွင်း၏။

### နှာ-၁၀၅

အောက်၌-"ဥဒကာဿ အလာဘေန၊ မညေ အန္ဓာ မရိဿ ရေ"-(၉၇)ဟူသည်နှင့် "ကူဒမှိ ပါနိယံ သီတံ။ ပ။ သစေ တံ့ အဘိကခ်သိ"-ဟု လာသည်နှင့် မညီတကား-ဟူအံ့။ မျက်မမြင်သောအားဖြင့် ရေရှိနိုး၍ ဆိုသည်။ တနည်းကား ရေရှိမှုလည်း ပေးပိမ့်သောသူ မရှိခဲ့ရကား "ဥဒကာဿ အလာ ဘေန"-ဟု အောက်၌ ဆိုသတည်း။

ကော နု တေ ဖလမာဟရိ-မလို၊ ကော နု ဝေါ-လိုသည်။

### နှာ-၁၀၆

အသိသူနူပမာ ကာမာ။ သူနဖလကတော-ဤသို့ စသည်၌ သူန-သဒ္ဒါ စဉ်းတီးဟော။သူနေ ပဝတ္တံ သောနံ-ဟု တဒ္ဓိတ် ဆင့်မှ သားလှီးခုံ ရအံ့သည်၊ထို့ကြောင့် သောနဂ္ဂဝေလ္လိတာ-ရှိတန်လျက် ဂါထာဆန်းအားဖြင့် သူနဂ္ဂ-ရှိသည်-ဟူလိုး၏။

အဟံ တံ အဝဓိံ သာမံ-ဟု အဋ္ဌကထာ၌ ဤ-ဝိဘတ်၊အဝဓိ သာမံ မဟုတ်။

### နှာ-၁၀၇

"ပါရိကေ ကာသိရာဇာယံ၊သော သာမံ မိဂသမ္မတေ"-၌ သော-ဟု မရှိလို၊"တဿ မာ ပါပမိစ္ဆိမှာ"-၌ တဿ-ကို ရှု၍ ယော-ဟု လိုသည်။

ကိစ္စာ လဒ္ဓေါ-၌ ကိစ္စာ-ကား သဟတ္ထာ-ဟူသို့ ဆို။ ကရိုဏ်းအနက်၌ ပဥ္စမီ ကိစ္စေန-ဟု ဖွင့်၍ ပေး။

## နှာ-၁၀၈

**နေတံ အမှေသု ကပ္ပတိ**-၌ **ကပ္ပတိ**ကို ကပု သာမတ္ထိယေ-ဟု သဒ္ဒနီတိ(ဓာ။ ၁၂၀)ဟူ၏။ ထို၌ သာမတ္ထိယ-ဟူသော် သမ္ဗန္ဓ အနက်ကို လိုသည်။ "သက္ကေ သမတ္ထော သမ္ဗန္ဓေ"-ဟု**အဘိဓာန်** (၁၀၆၉)သမတ္ထဟော နှစ်ပါး။ဇာတ် **ကမ္မကရဏံ**၊ ကျွဲလုပ်ကျွေး မှုကို ပြုခြင်းသည်။**အမှေသု**၊တို့၌။န ကပ္ပတိ န သမတ္ထေတိ န သမ္ဗဇ္ဈတိ၊မစေ့စပ်။ကျွဲသို့ ဖွင့်လိုသည်။ န သမ္ဗဇ္ဈတိ-ဟူသော်တုံ မအပ်သောကြောင့် မစေ့စပ်သည် မဟုတ်၊ မတင့်တယ်သော ကြောင့်-ဟု အဋ္ဌကထာ "န သောဘတိ"-ဟု အဓိပ္ပါယ်ဖွင့် လေသည်။

ဓမ္မံ **နေသာဒ** ဘဏာထ-ကား နေသာဒါ-ဟူလိုလျက် ရဿ မှုသတည်း။

## နှာ-၁၀၉

သံသုမ္ဘမာနှာ-**ကား** သံ-ပုဗ္ဗ သုဘ ပဟာရဏေ-ဖွင့်။ "ယော နော ဂါဝေါဝ သုမ္ဘတိ"-(ဇာ၊၂။၃၇၂)လည်း ကျွဲ**အဘူ**။

"**ကာလော သမယာမစ္စုသု**"-ဟု **အဘိဓာန်**(၁၀၈၂)လာ ရကား "ကာလမာဂမယာမသေ"-၌ ကာလသဒ္ဒါ မစ္စုဟော။ ထို့ကြောင့် **ကာလကြိယံ**-ဟု ဖွင့်သည်။ကိရိယ-ကျေ-ဟု သိစေ သည်မဟုတ်။

"န ဆမာယံ နိသီဒိတွာ အာသနေ နိသိန္နဿ အဂိလာနဿ ဓမ္မံ ဒေသိဿာမီတိ သိက္ခာ ကရဏီယာ"။ (ဝိ၊၂။၂၆၇) "ဆမာယမ္ဗွေ နိသိဒ္ဓိဿံ"-(ဇာ၊၂။၂၂၉)တို့ကိုရှုသော် "ပတိ

တော ဆမာ”-၌ ဆမာ-သဒ္ဒါကား သတ္တမီ၌ ပဥ္စမာအစား သက်။ဆမာယံ-ဟု ဖွင့်၍ ပေး။ဆမ ဂတိယံ-ဖွင့်။ဣတ္ထိလိင် အာ-ပစ္စည်း။ဆမန္တိ ဂစ္ဆန္တိ ဧတ္ထာတိ ဆမာ²။ဆမာယ ခေါ တော၂ ဘူဝါစကဿ-လည်း-ဟူ၏။မြေဟော ခမာ-ကို ဆမာ-ရေးသည်-ဟူလိုသည်။

“ပံသုနာ ပတိကုဏ္ဍိတော”-(ဌ၊ ၆။ ၁၀၉)၌ ပတိ-ရှေး ကုဋ္ဌိ သံကုလေသေ-ဖွင့်။ကုဏ္ဍကိပ္ပိလိကံ-ဝယ်ကား ကုဋ္ဌိ ဟိံသာယံ-ဖွင့်လိုသည်။

## နှာ-၁၁၀

“ယဒိ တတ္ထ။ ပ။ ဝိဇ္ဇတိ”-(ဌ၊ ၆။ ၁၁၀)၌ ဝါဋ္ဋေသု-ကား နိမိတ္တ သတ္တမီ။ ကောစိ-ကို ကိဉ္စိ-ဟော ကြံ။ တတ္ထ ဝနေ သဟဿာနိ။ သတာနိ နဟုတာနိ စ ယဒိ ဝိဇ္ဇန္တိ။ ဧဝံ ဝိဇ္ဇမာနေသုပိ ဝါဋ္ဋေသု။ ထို့ကြောင့် ဟောစိ ကိဉ္စိ ဘယံ အမှာကံ နေဝ ဝိဇ္ဇတိ။ ဝါဋ္ဋေသု-ကို နိဒ္ဒါရဏ သမုဒါယ ကြံတုံ၍ ကောစိ-ကို ကွစိ-ဟော ကြံ။ဧဝံ ဝိဇ္ဇမာနေသု ဝါဋ္ဋေသု၊ တို့တွင်။ ကောစိကွစိ၊ ကြောင့်။ ဤသို့ ကွစိ-ကို နိမိတ်ပေး။ သဒ္ဒနီတိ (ပဒ။ ၄၀၆)သမ္မန်၏။

“ဒိသွာန ပတိတံ သာမံ”-(ဌ၊ ၆။ ၁၁၀)၌ ဒိသွာန-ဟူသည်ကား မံသစက္ခုဖြင့် မြင်ခြင်းကို မလို၊ ပညာစက္ခုဖြင့် မြင်ခြင်းကို ရည်သတည်း။

၁။ နီတိ၊ ဓာ၊ ၁၃၂။ဓာန်၊ ဋီ။ ၁၈၁-ဂါထာဖွင့်တို့လည်းကြည့်။
၂။ ခမာယ ခေါ ဆော?။

နှာ-၁၁၂

"မယှံ စ ပိတုယာ စ တေ"- ၌ ဆဋ္ဌီ သ-ကို ယာ-ရေးသည်-ဟု သဒ္ဒနီတိ[၁] ဆိုခဲ့ရကား စာဟောင်း ပိတုယာ စ-ရှိပေသည် ဖြစ်တန်သတည်း။ "ပိတု မာတုစ ဟံ စတ္တော"-(ဇာ၊ ၂။ ၁၅၁)ကို ထောက်၍ "မယှဥ္စေဝ ပိတုစ္စ တေ"-နောက်ပြီး ပြင်လေသည်-ဟုလို၏။

နှာ-၁၁၃

အန္တရပုဗ္ဗော ဓာ ဝိဇ္ဇမာနဿ အဒဿနေ။ သာ ဒေဝတာ အန္တရဟိတာ။ သာမာ၊ သုဝဏ္ဏသျှံမှ။ အညော၊ တပါးသော။ မေ မယာ၊ ပိယတရော၊ ချစ်မြတ်စွာသော။ ကောစိ၊ သည်။ န ဝိဇ္ဇတိ၊ မရှိ။ န-စာခု နိပါတ်မျှသာ၊ အနက်မရှိ[၂]။ သူတချို့ကား စိုးရိမ်သောအရာ အာမေဍိတ်ဖြစ်ကောင်းသည်-ဟု န ဝိဇ္ဇတိ န ဝိဇ္ဇတိ-ဟု နှစ်ကြိမ်လိုသည်-ဟူ၏။ သူတချို့တို့-မဟာဟံသဇာတ်၌-

"ယံ န ကဉ္စနဒေ္ဒပိဉ္ဆ၊
အန္နေန တမသာ ကတံ။
တာဒိသေ သံစဇံ ပါဏံ၊
ကမတ္ထမဘိဇောတယေ"။ (ဇာ၊ ၂။ ၇၃)

---

၁။ နီတိ၊ ပဒ။ ၂၆၃-၌ "မယှဥ္စ မာတုယာ စ တေ"-ဟု ကိုးသည်။

၂။ ဆဋ္ဌမူ၌ "အညော သာမေန ဝိဇ္ဇတိ"-ဟု ရှိသည်။

ကဋ္ဌနဒ္ဒေပိဋ္ဌ၊ ရွှေအဆင်းနှင့်တူသော အတောင်နှစ်ဖက်ရှိသော ဝမ်းပဲမင်း။ ယံ၊ အကြင်အမှုသည်။ အဒ္ဒေန၊ သည်၊ တမသာ၊ မှားသဖြင့်။ ကတံ န ကတံ ဝိယ၊ ပြုသကဲ့သို့ ဟောတိ၊ ၏။ တာဒိသော၊ ထိုအမှု၌။ ပါဏံ၊ ကို။ သံစဇံ၊ သဥ္စဇန္တော၊ သည်။ ကံအတ္တံ၊ ကို။ အဘိဘောတယော၊ ထွန်းနိုင်အံ့နည်း ကဋ္ဌနဝဏ္ဏာ ဒေ့ ပိဋ္ဌာ ယဿ သောယံ ကဋ္ဌနဒ္ဒေပိဋ္ဌော-ကဋ္ဌနဒ္ဒိပိဋ္ဌ-ဟု ရှိတန်လျက် သုတ်ကြီးဖြင့် ဣ-ကို ဧ-ရေးသည်။ အဒ္ဒေဇ္ဈဝစနာ, တေစတ္တာလီသ- ၌လည်း ဤအတူ။ သဒ္ဒနီတိကား "ဒ္ဒိတိနမိဿေ"- (၇၅၀) လက္ခဏာ အားတည်၏။ ဤသို့ န-ကို ဝိယအနက် အဋ္ဌကထာ ကြံရကား "သာမောန သာမောဝိယ" ကဲ့သို့ "မေ ပိယတရော အညော ကောစိ န ဝိဇ္ဇတိ" - ဟု ကြံလိုသည်- ဟူ၏။ ဤသို့ ပေး၍ အနက် အထူး ဖြစ်ကောင်းလျက်ပင် သိခဲသောအရာကို အဋ္ဌကထာဆရာ မချန်ရာ၊ န-သည် ပဒပူရဏမျှဖြစ်၍ န-ကား နိပါတ်တည်း-ဟု မပြသည်။ ဂေါပါလဝိမာနဝတ္ထု၌ ခိပိ အနန္တကံ-ကို အနန္တကံ၊ ပုဆိုးကြမ်းကို။ ခိပိ၊ ပစ်၏။ ဤသို့ပေး၍ အ-ကို နိပါတ်မျှ-ဟူ၏။ (ဝိမာန၊ ဋ္ဌ။ ၂၉၂)။ အ-ကို ပဒပူရဏဟူရကား န-ကိုလည်း ပဒပူရဏ-ဟူပါကောင်း၏။

နှာ-၁၁၄

"ကော နု တွံ သာမ ဇီဝသိ"၌ ကော-သဒ္ဒါ ကထံ-ဟော နိပါတ်။ (ဋ္ဌ။ ၆။ ၁၁၅။ နီတိ၊ ပဒ။ ၃၇၀)။

နှာ-၁၁၆

"မာ ဓမ္မံ ရာဇ ပါမဒေါ"၌ ဂါထာဆန်းအားဖြင့် မ-အစိတ် ရဿ, ပ-အစိတ် ဒီဃ ဖြစ်လေသည်။ "ဘိန္နေ ဂင်္ဂါယ သောတယာ။ သုခဒုက္ခ-မုပေက္ခယာ" (သစ္စသံခိပ်။ ၄၃) ဟူသို့။ ပါမဒေါ၌ ဩကား ဟိယျတ္တနီ မဇ္ဈိမပုရိသ်ဖြစ်ရကား တုံ့ မာ ပါမဒေါ မာ ပမာဒေါ-ဟု ကတ္တားနှင့် သမ္ဗန်။

သုဝဏ္ဏသာမဇာတ်ပြီး၏။



# နိမိဇာတ်

နှာ–၁၁၉

နိမိဇာတ်၌ သိတပါတုကမ္မံ–လိုသည်၊ သီ–ဟု မလို။ "ဟသနံ ဟသိတံ ဟာသော၊ မန္ဒော သော မိဟိတံ သိတံ"–ဟု **အဘိဓာန်** (၁၇၅)။ ပြုံးတော်မူက စွယ်တော် လေးချောင်းမှ ထန်းလုံးရှိလောက်သော ရောင်ခြည်ထွက်၍ သုံးကြိမ် ဥက္ကောင်း တော်ကို လက်ျာရစ်၍ စွယ်တော်ဖျားအနီးဝယ် ကွယ်လေမြဲ တည်း။ "အယံ ကိရ တာသံ ရသ္မိဝဋ္ဋိနံ[1] ဓမ္မတာ၊ ယဒိဒံ တိက္ခတ္တုံ သိရဝရံ ပဒက္ခိဏံ ကတွာ ဒါဌဂ္ဂေသုယေဝ အန္တရ ဓာနံ"။ **ဋီကာ မဇ္ဈိမပဏ္ဏာသ** (မ၊ ဋီ၊ ၃။ ၁၃၆)။

ဝယံ ဟရန္တီတိ ဝယောဟာရာ။ ဝယဟာရာ–ဟု ရှိတန်လျက် မနောဂိုဏ်းအရာ၌ ဝယ-အစိတ် အ–ကို ဩ-ရေးလေသည်။ မနောဟာရာ, သိရောရုဟာ–စသည်လည်း ဤအတူ။ "ပရောသတံ စေပိ သမာဂတာနံ"–(ဇာ၊ ၁။ ၂၄)စသည်ကဲ့သို့ ဩ–အာဂုံ မဟုတ်။

---

၁။ ဆဋ္ဌမူ၌ ရသ္မိဝဋ္ဋိနံ–ဟု ရှိသည်။

"တ္တေ မနောဝဏ္ဏာဒီနံ၊
အန္တသော တ္တံ ပဋ္ဌိစ္စိဒံ။
မဇ္ဈောကာရတိဝစနံ၊
ဝုတ္တံ န တ္ထာဂမာဒိကံ"။ သဒ္ဒနီတိ (ပဒ။ ၁၆၀)။

အခွန်တသိန်းထွက်သည့်ရွာကိုမူ ဂါမဝရ– ဟူသတည်း–ဟု သုတ်အဋ္ဌကထာတို့၌ (မ၊ ဋ္ဌ၊ ၃။ ၁၂၄)ဆို၏။ ဤ၌ ဂါမဝရံ ဒတွာ–ဟူသော်လည်း တသိန်းထက်ကို လိုသည်။ စရိယာပိဋက(အဋ္ဌကထာ)၌"သတသဟဿုဋ္ဌာနကံ ဂါမဝရံ ကပ္ပကဿ ဒတွာ"(ရှင်း၊ ဋ္ဌ။ ၅၃)ဟူလျှင်းလေ၏။

မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ(၂၁၄)၌"ဒေဝေါတိ မစ္စု။တဿ ဒူတာတိ ဒေဝဒူတာ"– ဟူ၏။ ဋီကာ(မ၊ ဋီ၊ ၃။၁၄၇)–၌ ကား"ဒေဝေါတိ မစ္စု အဘိဘဝနဋ္ဌေန။ ယထာ ဟိ ဒေဝေါ ပကတိသတ္တေ အဘိဘဝတိ၊ ဧဝံ မစ္စု သဗ္ဗသတ္တေ အဘိဘဝတိ။ တသ္မာ ဒေဝေါဝိယာတိ ဒေဝေါ"။ နှိပ်စက်ခြင်း တူရကား သေမင်းကို နတ်ကဲ့သို့ ဟူသည်။ "အဟံ အသုကံ မဒ္ဒိတုံ အာဂမိဿာမိ၊ တုမှေ တဿ ကေသေ ဂဟေတွာ မာ ဝိဿဇ္ဇေဟီတိ မစ္စုဒေဝဿ အာဏာကရာ ဒူတာ ဝိယာတိ ဒူတာ"။ ထိုဋီကာလည်းကောင်းတည်း။ အဋ္ဌကထာ, ဋီကာနှစ်ပါး။ ဒေဝေါ ဝိယာတိ ဒေဝေါ။ မစ္စု–ရစေ။ ဒူတာ ဝိယာတိ ဒူတာ။ ဥတ္တမင်္ဂရုဟာ-ရစေ။ ဥတ္တမင်္ဂရုဟာ–နှင့် ကေသာ အနက်တူ။ ဒေဝဿ ဒူတာ ဒေဝ– ဒူတာ။ နတ်ကဲ့သို့သော သေမင်း၏ တမန်သည်ကဲ့ သို့သော ဆံ။ တနည်းကား ဒေဝသဒိသာ ဒူတာ

ဒေဝဒူတာ၊ ကေသ–ရဇေ။နတ်ကြားလာသည်မှန်သကဲ့သို့ဆံဖြူက မမြင့် သေရအံ့သည်ကား မှန်သတည်း။ ထို့ကြောင့် ဆံဖြူကို နတ်နှင့်တူသော တမန်သည်-ဟူသတည်း။

တနည်းတုံ ဒေဝါနံ ဒူတာ ဒေဝဒူတာ။ဒေဝါနံ-ကို ဝိသုဒ္ဓိ ဒေဝါနံ–ဖွင့်။ဝိသုဒ္ဓိဒေဝါနံ-ဟူသော် ခီဏာသဝဗြဟ္မာကို ယူ။ "ဝိသုဒ္ဓိဒေဝါနန္တိ ခီဏာသဝဗြဟ္မာနံ။တေ ဟိ စရိမဘဝေ ဗောဓိသတ္တာနံ ဇိဏ္ဏာဒိကေ ဒဿေန္တိ"။ယခင်ဋီကာလည်းကောင်း ဆို၏။ဘုရားလောင်း တောထွက်ခါ ဗြဟ္မာတို့ပြသည့် နိမိတ် လေးပါးကို တမန်သည်-ဟူသတည်း။ဤဆံဖြူသည်လည်း ဇိဏ္ဏ အဖြစ်ဖြင့် တစိတ် တူပါသတည်း။ အဘိဓာန်–(၈၄၂)၌ "ဒေဝေါ ဝိသုဒ္ဓိဒေဝါဒေါ၊မေဃမစ္စုနဘေသု စ"။-ဟူရကား ရှေးနည်းတွင် ဒေဝ-သဒ္ဒါ မစ္စု-ဟော၊အလယ်နည်း၌ ဥပပတ္တိ နတ်–ဟော၊ နောက်နည်းတွင် ဝိသုဒ္ဓိနတ်–ဟော။ အနက်ကား ဒေဝဒူတာ၊သေမင်း၏ တမန်သည်။ နတ်နှင့်တူသော တမန် သည်။,နတ်တို့ တမန်သည်။ဤသုံးနက်ပေး။မဃဒေဝသုတ် အဋ္ဌ ကထာအလို။

ဤနိမိ-ဇာတ်၌ကား မုဆိတ်ဆံရိတ်အဖြစ်ကို မဆို။ မဃ ဒေဝသုတ် ပါဠိတော်–(မ၊ ၂။ ၂၆၄)၌ကား –"ကေသမဿုံ ဩဟာရိတွာ"–ဟုရှိ၏။အဋ္ဌကထာ(၂၁၅)-၌လည်း "တာပသ ပဗ္ဗဇ္ဇံ ပဗ္ဗဇန္တောပိ ဟိ ပဌမံ ကေသမဿုံ ဩဟာရိတွာ ပဗ္ဗဇန္တိ။ တတော ပဋ္ဌာယ ဝဍ္ဎိတေ ကေသေ ဗန္ဓိတွာ ဇဋာကလာပဓရော ဟုတွာ ဝိစရန္တိ။ဗောဓိသတ္တောပိ တာပသပဗ္ဗဇ္ဇံ ပဗ္ဗဇိ"။ဤသို့

ဟူ၏။ "ဂန္ဓော ဣသိနံ စိရဒိက္ခိတာနံ"-(ဇာ၊ ၂။ ၆)စသော
သရဘင်္ဂဇာတ်ဂါထာ၌ဒိက္ခိတာနံ-ကို ဒိက္ခ-ခတ်၊ဒိက္ခ မုဏ္ဍိယေ-
ဟု ဖွင့်။သမဏပဗ္ဗဇ္ဇ-သာ ဒိက္ခိတမည်ရာ၏။ တာပသပဗ္ဗဇ္ဇ
အဘယ်သို့ ဒိက္ခိတ-မည်အံ့နည်း-ဟူမူကား ဤ တာပသပဗ္ဗဇ္ဇ
ပဗ္ဗဇ္ဇာပိ-စသည်နှင့် ဖြေ။စက္ကဝတ္တိသုတ် အဋ္ဌကထာ စကားကို
ဤအတူ သဒ္ဒနီတိ(ခ၊ ၂၅)လည်း ဆောင်၏။ဥယျာဉ်၌သာ
ရသေ့ပြု၍ ဆွမ်းပို့ခဲ့၍ စားခဲ့ရကား ရသေ့အပြား ရှစ်ပါးတွင်
ဘုရားလောင်း မဃဒေဝရသေ့ကား သမ္ပတ္တကာလိက-မည်၏။
ရသေ့အပြား ရှစ်ပါးကို သုတ္တနိပါတ်(သုတ္တနိ၊ဋ္ဌ၊ ၁။ ၃၁၀)
အကျယ်ဆို၏။

(၁) ဝိနည်းမဟာဝါ၌ ဆိုသော ကေဏိယ-ရသေ့ကဲ့သို့
သားမယားနှင့်အတူ ဥယျာဉ်လယ်တာကုန်စည်သွယ်
လျက် အသက်မွေးသော ရသေ့ကား သပုတ္တဘရိယ-
မည်သောရသေ့တည်း။

(၂) ရွာပါးနေ၍ ငွေရွှေမခံ အပဝတ္တု ဆံရေပုဆိုး
သာ ခံသည်ကား ဥဉ္ဆာစရိယ-မည်သော ရသေ့
တည်း။

(၃) အခါတန်၍ ဆွမ်းသာခံသည်ကား သမ္ပတ္တကာလိက-
ရသေ့တည်း။

(၄) မီးဖြင့်မချက်သော သစ်သီး သစ်ရွက်ကို ရှာ၍ စား
သည်ကား အနဂ္ဂိပက္ကိက-မည်သောရသေ့တည်း။

(၅) သစ်သီး မသိုမှီးသော်လည်း တူးရွင်း,တံချူ,ခြင်းမျှ မဆောင်မူ၍ သစ်ခွံခွါရုံမျှသာ ကျောက်ခဲလက်၌ ဆောင်သော ရသေ့ကား အသ္မမုဋ္ဌိက–မည်သော ရသေ့တည်း။

(၆) ကျောက်ခဲမျှကို လက်မဆောင်မူ၍ သွားဖြင့် ကိုက်နိုင်သရွေ့သာ စား၍ ကျင့်သည့်ရသေ့ကား ဒန္တလူယက–မည်သော ရသေ့တည်း။

(၇) မဟာကဏှ–ရသေ့ကဲ့သို့ သစ်တပင်တည်း ကြာ တအိုင်တည်းကိုသာ အမှတ်မူ၍ တပါးမသွား၊ထိုတွင် ဖြစ်သရွေ့ အသီး,အပွင့်,အရွက်,အပွေးမျှသာ စား ရသည်ရသေ့ကား ပဝတ္တဖလိက–မည်သော ရသေ့ တည်း။

(၈) မဆွတ် မချူလျှင်းပဲ ကြွေသရွေ့သာ စားသည့်ရသေ့ ကား ဝဏ္ဍမုတ္တက–မည်သော ရသေ့တည်း။

ဤရသေ့ရှစ်ပါးကား ရှေးရှေးထက် နှောင်းနှောင်းလျှင် မြတ်သတည်း။ ဘုရားလောင်း မဃဒေဝရသေ့ သေ၍ ဖုတ် ထည့်သနေ့၌လည်းကောင်း မင်းမူသော သားတော် ရသေ့ပြု၍ အိမ်ရှေ့မင်းဖြစ်သော မြေးတော် နန်းတက်၏။ မြစ်တော်ကား အိမ်ရှေ့အရာခံ၏။ ထိုအိမ်ရှေ့ခံသသူသားကို အမည်မှည့်၏။ဖုတ် ထည့်နှင့်သော် ငါးပါးမင်္ဂလာမည်၏ ဟူ၏။ မဃဒေဝသုတ် အဋ္ဌကထာ(၂၁၅)။ ကာမာဝစရနတ်ကို ပြိတ္တာ–ဟု သိကြား

ဟူသည်ကား ကမ္ဘာတသိန်း ပါရမီဖြည့်ပြီးသော အနုရုဒ္ဓါ အလောင်းဖြစ်ရကား နိဗ္ဗာန်ကို ထောက်၍ နတ်ပြည်ကို ပေတလောကကဲ့သို့ ထင်ဘိသတတ်။ မဇ္ဈိမပဏ္ဏာသဋီကာ(၁၄၉)။

နာ-၁၂၄

ရှင်ဥဂ္ဂတွာ ဝနာ နဂါ-ဟုလို၊ နာဂါ-မလို။ နဂ သဒ္ဒါသာ တောင်ဟောရှိသည်၊ နာဂ-သဒ္ဒါ တောင်ကို မဟော။

"ပဗ္ဗတော ဂိရိ သေလောဒ္ဒိ၊
နဂါစလသိလုစ္စယာ။
သိခရီ ဘူဓရောထဗ္ဘ၊
ပါသာဏောသ္မာပလော သိလာ"။
(အဘိဓာန်။ ၆၀၅။)

အသ္မ၊ ဥပလ၊ သိလ၊ ဤသုံးပါးကား ကျောက်ဟော။ ပဗ္ဗတော။ပ။ ထဗ္ဘပါသာဏော၊ ဤဆယ်ပါးကား တောင်ဟော°။ "သေလရုက္ခေသုဂေါ နဂေါ"-ဟူတုံရကား အဂ,နဂ-နှစ်ပါးကား တောင်နှင့် သစ်ပင်ကိုဟော၏။ (ဓာန်။၁၁၁၇။)

---

၁။ အဘိဓာန်ဋီကာ၌ "နဝ ပဗ္ဗတသ နာမာနိ"-ဟု ဆို၍ ပဗ္ဗတ,ဂိရိ, သေလ, အဒ္ဒိ,နဂ, အစလ, သိလုစ္စယ, သိခရီ, ဘူဓရ-တို့ကို ဖွင့်ပြီးနောက် "ပဉ္စကံ သိလာယံ" -ဟု ဆို၍ အဒ္ဒ, ပါသာဏ, အသ္မ, ဥပလ, သိလာ-တို့ကို ဖွင့်သည်။ အဘိဓာန်နိဿယများကို ကြည့်ပါ။

"နာဂေါ တုရဂ ဟတ္ထီသု၊ နာဂရုက္ခေ တထုတ္တမေ" အဘိဓာန်။ (၁၄၉)။ ဟူတုံရကား မြွေ, ဆင်, ကန့်ကော်ပင်, မြတ်သည်အနက်၊ ဤလေးပါးကိုသာ နာဂ-သဒ္ဒါ ဟော၏။ တောင်-ကို မဟော။ အဘိဓာန်။ အထက် (၄၊၆။၁၅၆)-၌လည်း-

"ယာယမာနေ့ာ မဟာရာဇာ၊ အဒ္ဒါ သီဒန္တရေ နဂေ"-ဟူလိုသည်။

"ဧတေ သီဒန္တရေ နဂါ၊ အနုပုဗ္ဗသမုဂ္ဂတာ"။-ဟူလိုသည်။

န ဂစ္ဆတီတိ အဂေါ။ နဂေါ-လည်း ဤအတူ။

"တိပဥ္စယောဇနက္ခန္ဓိ၊ ပရိက္ခေပါ နဂဝှယာ"- (ဝိ၊၄၊၁။ ၉၂။အဘိ၊၄၊ ၁။ ၃၃၇။ ဝိသုဒ္ဓိ၊ ၁။၂၀၈)၌ နဂ-သဒ္ဒါ သစ်ပင်ဟော။

နှာ-၁၂၅

"ဝဏ္ဏော သဏ္ဌာနရူပေသု၊
ဇာတိစ္ဆဝီသု ကာရဏေ။
ပမာဏေ စ ပသံသာယံ၊
အက္ခရေ စ ယသေ ဂုဏေ"။-

ဟု အဘိဓာန် (၇၇၉) ဝဏ္ဏ-ဟော ဆိုရာ၌ "သဗ္ဗေ ဝဏ္ဏာ အဓမ္မဋ္ဌာ"-၌ ဝဏ္ဏ-သဒ္ဒါ ကား ဇာတိ-ဟော။ ဇာတိ-ဟူသော်တုံ "စတ္တာရော ဝဏ္ဏာ အဋ္ဌာရသ သေနိယော"-ဟူသို့ အမျိုးလေးပါးကိုယူ။

နှာ-၁၂၇

"အထောပိ တရုဏော သတ္တော၊ စောရေ စ မာဏဝေ ါ
တဝေ"။- ဟု အဘိဓာန်(၈၄၂)ဟူရကား မာဏဝ-ဟော
သုံးပါးဝယ်သော် "ကမ္မဗန္ဓူ ဟိ မာဏဝါ" (ဇာ၊၂။၁၈၆။)
၌ မာဏဝ-သဒ္ဒါ သတ္တဝါဟော။ ကမ္မဗန္ဓူ ဟိ မာတိယာ။
ထေရာကျမ်း (၂၉၅)၌ ကစ္စာယန ထေရဂါထာ ရှိတုံ၏။
မာတိယာတိ မစ္စာ- (ဋ္ဌ၊ ၁။ ၁၄၉)ဖွင့်။ မစ္စာ-နှင့် သတ္တဝါ
အတူ။

နှာ-၁၂၈

"ဣမံ ဘောန္တော နိသာမေထ"-၌ ဘောန္တော-ကား
တဝန္တုတွင် ဝ-ကို ဩ-ရေး။ ယော-ကိုလည်း ဩ-ရေး။
"ယထာ အယံ နိမိရာဇာ"-၌ ယထာ-ကား အတိဝိယ-
အနက်။ "ယထာ ပဏ္ဍိတော အတိဝိယ ပဏ္ဍိတော"-ဟု သဒ္ဒ
နီတိ (သုတ္တ။ နှာ-၃၈၆)။
"ယောဇေတွာတိ ကောသို့ယောဝ ယုဂေ သဟဿံ အဿာ
ဇာနီယေ ယောဇေတွာ"-ဟု မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ(၂၁၇)
ဆိုရကား "ရထံ ယောဇေတွာ ပါယာသိ"-၌ မြင်းတထောင်ကို
တသည်ကား ထမ်းပိုးအများ မဟုတ်။

နှာ-၁၂၉

ပါတော အသိတဗ္ဗံ ပါတရာသံ-နှင့် အတူ သာယံ အသိ
တဗ္ဗံ သာယမာသံ၊ ဘောဇနံ-ရမေ။ ဘုတ္တံ သာယမာသံ

ဧတေသန္တိ ဘုတ္တာသာယမာသာ။ ဝေဇယန္တာရထားကား အလျား ယူဇနာ တရာငါးဆယ် ဖြစ်ခဲ့ရကား မျက်စိအဆုံးကြည့်၍ ရထားမှန်း မသိသည် ဖြစ်ရာခဲ့သတည်း။ ထို့ကြောင့်ရကား စီးမြဲရထားမျှသာ ဖန်ဆင်းသည်– ဟူလို၏။ ဤသို့ မှုလည်း "အိမ်တခါးဝ၌ ရထား နောက်အဘို့ထား၏"။ –ဟူသည်နှင့် တန်အံ့သတည်း။ "ဒွေ မဂ္ဂေ ဒဿေတွာတိ ပတောဒလဋ္ဌိယာ အာကာသံ ဝိလိခန္တော ဝိယ အတ္တနော အာနုဘာဝေန နိရယဂါမီ ဒေဝလောကဂါမီ စာတိ ဒွေ မဂ္ဂေ ဒဿေတွာ"–ဟု မဃဒေဝသုတ်ဋီကာ(မ၊ ဋီ၊ ၃။ ၁၄၉)ဆိုရကား မြင်းတို့သည် နတ်သားချည်းဖြစ်၍ နှလုံးအတိုင်း မနှင်ပဲလျှင် ကောင်းစွာ သွားသော်လည်း ရထားထိန်းဖွယ်ရာ ပြီးစေလို၍ မာတလိလည်း ရထားလှင်ကန်စွဲပါ၏။ဘုရားသခင်လျှင် တရားဟောတို့ ဖွယ်ရာ အလျောက် တရားဟောခါ မျက်နှာတော်ကို မကာသော်လည်း ယပ်စွဲပါသကဲ့သို့ ဟူလို၏။

အဗ္ဘုတော ဝတ လောကသ္မိံ–၌ သံယုဂ်ရှိရကား ရဿသာ ရှိလို၏။ ဉီဒီဃနှင့် အဗ္ဘူတော–ဟု မရှိရာ။ သဒ္ဒနီတိ (ပဒ။ ၃၄၀)၌ "ဟောတု နော အဗ္ဘုတံ တတ္ထ။ အဗ္ဘုတံ လောမဟံသနံ" – ဟု ဒွေဘော် ရောက်ခဲ့က ရဿသာ၊ အဘူတံ အတစ္ဆံ– ဟု ဒွေဘော် မရောက်မှလျှင် ဉီဒီဃ ရှိရာသည်– ဟူ၏။ "သုမေမ္မာ နတ်သဘင်ဇာတ်း ပြဟမ္မာပြည်,နတ်ပြည် ဟူသမျှ၌ ရှိသတတ်" ဟု သုတ္တန်အဋ္ဌကထာတို့တွင် ဆို၏။ သုမေမ္မာယံ သမစ္ဆရေ–၌ သုမေမ္မာသဘင်ကား တာဝတိံသာဝယ် ဆိုသည်။

အဝံသိရာ လောဟကုမ္ဘိ-၌ အဝနတံ သိရော ယဿ တေတိ အဝနတသိရာ-ဟူလိုလျက် နတ-ကျေ၍ နိဂ္ဂဟိတ်-အာဂုံဖြင့် အဝံသိရာ-ရှိသည်။ သောဘဏံ မနော အဿာတိ သုမနော-ဟူရာ၌ သောဘဏ-နှင့် မနော-ကဲ့သို့ အဝနတ-နှင့် သိရော-သည် မနောဂိုဏ်းအရာ နပုံလိင်နှင့်[1]၊ သမာနာဓိကရိုဏ်း ဖြစ်သတည်း။

နှာ-၁၃၆

ဥဏှောဒကသ္မိံ ပကိလောတယိတွာ[2]-၌ ပတိလောတရိတွာ-မလို၊ ပကိလောတယိတွာ-လိုသည်။ ပ-ပုဗ္ဗ ကိလောတ-ဓာတ်။ ကိလောတ အဒ္ဒဘာဝေ-ဟု **သဒ္ဒနီတိ** (ဓာ။ ၆၇)ဟူ၏။ ပကိလောတယိတွာ တေမေတွာ-ဖွင့်။ အဒ္ဒဘာဝေ-ကို တိန္တဘာဝေ-ဖွင့်။

နှာ-၁၃၇

“အာပေါ ပယော ဇလံ ဝါရိ၊
ပါနီယံ သလိလံ ဒကံ။
အဏ္ဏော နီရံ ဝနံ ဝါလံ၊
တောယမမ္ဗုဒကဉ္စ ကံ”။ **အဘိဓာန်**(၆၆၁)။

ရေဟော ပါနီယံ-ဟူ၏။ ပီတဗ္ဗ တောသံ ဘုသံ ဟောတိ ပါနိ-၌ကား ပါနိ-ဟု ရှိ၏။ ထို့ကြောင့် ပါနီယံ ပါနိ နှစ်ပါး ရှိရာ၏။ **သဒ္ဒနီတိ**-( သုတ္တ။နှာ- ၄၀၇) ၌လည်း ရေဟော ပါနိ-ဟူ၏။

---

၁။ နပုံလိင်နှင့်။ (မြ)
၂။ ဆဋ္ဌမူ၌ ပကိလေဒယိတွာ-ဟု ရှိသည်။

နှာ-၁၃၉

ဥရတ္တ ာတိ တရုဏာမေတ္တာကာ ငုစ္စန္တိ''-ဟု ဋီကာအင်္ဂုတ္တိုရ်ကြီး (အံ၊ဋီ၊၃။ ၁၇၂) ဟူရကား ဥရတ္တံ ဟန္တွာ ဇီဝန္တိတိ ဩရတ္တိ-ကာ။ ဆိတ်ငယ်သတ်- ဟူလိုသည်။ "ဥရတ္တရူပေန ဝကာသာ ပုဗ္ဗေ"-ဟု ငါးရာမဟာပေ့ဝိဇာတ် (ဇာ၊ ၂။ ၅၀)-၌လည်း ဆိတ်ကို ဥရတ္တ-ဟူ၏။ ပုဗ္ဗေ၊ ၌။ ဝကာ၊ သစ်တို့သည်။ ဥရတ္တ ရူပေန၊ ဆိတ်ရုပ်ဖြင့်-ဟု ပေး။

နှာ-၁၄၁

ဝိတတံ ယထာ သင်္ကုသတေန စမ္မံ-၌ စမ္မမည်သည်ကိုကား တံသင်းတရာ မစေ့ပဲ ကြက်မူကား လျော့ရာ၏။ တရာစေ့မှ လျှင် တင်းတင်းရှိရာသည်-ဟူ၏။ "ဦနသတသင်္ကုဝိတတံ ဟိ နိပ္ပဋ္ဌိတံ န ဟောတိ၊ သင်္ကုသတေန ဝိတတံ ဘေရိတလံ ဝိယ နိပ္ပဋ္ဌိတံ ဟောတိ"။ ဥပရိပဏ္ဏာသ အဋ္ဌကထာ (၁၀၉)။

ယေမေ ဇနာ ဝင်္ကဃသ္တာ သယန္တိ-လိုသည်။ ဝင်္ကဃာတာ-ဟု မလို။ "ဝင်္ကဃသ္တောဝ အမ္ဗုဇော"-(ဒီ၊ ၂။ ၂၁၃)ဟူသို့။

ကယော ဂဟာဏံ ဝိက္ကယော ဒါနံ၊ တဒုဘယံ သင်္ဂဟိတွာ ဝေါဟာရော-ဟူရကား "အဌေန အဂ္ဃံ ကယံ ဟာပယန္တိ"-၌ ကယံ-ဟူသော်လည်း သူငှားယူသည်-ဆိုလိုသည်။

နှာ-၁၃၁-၁၄၆

"တတော မာတလိ အတ္တနော အာနုဘာဝေန ရဇာနံ ပဥ္စဒသ မဟာနိရယေ ဒဿေတိ" -ဟု မဃဒေဝသုတ်အဋ္ဌ

**ကထာ** (မ၊ ဋ္ဌ၊ ၃။ ၂၁၈)၌ ဆိုသည်ကား ဤနေမိဇာတ်၌ **ဝေတရဏီငရဲ-စသော** တဆယ့်ငါးပါးသော ဥဿဒငရဲကိုလျှင် မဟာနိရယ-ဟူသတည်း။ **ဒေဝဒူတသုတ် အဋ္ဌကထာ** (မ၊ ဋ္ဌ၊ ၄။ ၁၆၆။ အံ၊ ဋ္ဌ၊ ၂။ ၁၂၂)တို့တွင် "မဟာနိရယေတိ အဝီစိမဟာနိရယမှိ"-ဟူသကဲ့သို့ကား ငရဲကြီး မဟုတ်။ ငရဲငယ်ကိုမျှ မဟာနိရယ-ဟူသတည်း။ ပါဠိ၌ကား "အပိစာယံ တပေါဒါ ဒွိန္နံ မဟာနိရယာနံ အန္တရိကာယ အာဂစ္ဆတိ။ တေနာယံ တပေါဒါ ကုဌိတာ သန္ဒတိ"။ (ဝိ၊ ၁။ ၁၄၉) ဤ၌ မဟာနိရယ-ဟူသည်ကား လောဟကုမ္ဘီကိုသာ ဆိုသတည်း။ **ရာဇဂြိုဟ်ပြည်၌** ဝေဘာရတောင်အောက် ယူဇနာငါးရာ နဂါးပြည် ရှိသတတ်၊ နဂါးပြည်ရေကန်မှ ထွက်လာသည့် တပေါဒါမြစ်ငယ်သည် လောဟကုမ္ဘီငရဲအိုး နှစ်လုံးအကြား စီးလတ်ဘိရကား ပူသတတ်။ "ရာဇဂဟံ ကိရ ပရိဝါရေတွာ မဟာပေတလောကော အတ္ထိ။ တတ္ထ ဒွိန္နံ မဟာလောဟကုမ္ဘိနိရယာနံ အန္တရေန အယံ တပေါဒါ အာဂစ္ဆတိ။ တသ္မာ ကုဌိတာ သန္ဒတိ"။ **ဥပရိပဏ္ဏာသ အဋ္ဌကထာ**(၁၇၂)။

ဤသို့ လောဟကုမ္ဘီကိုမျှလျက် မဟာနိရယ-ဟု ပါဠိအဋ္ဌကထာရှိရကား "ပဉ္စဒသ မဟာနိရယေ"-ဟူသည်ကား ဥဿဒငရဲကိုသာ ဆိုသတည်း။ သမီပူပစာအားဖြင့် မဟာနိရယ၏ အနီးဖြစ်၍ ဥဿဒငရဲကို မဟာနိရယဟူသည်။ **အဝီစိအနီးဖြစ်သည်** ဥဿဒငရဲများတို့သည်လျှင် **အဝီစိလည်းကောင်း** မည်ပါ၍ အဝီစိငရဲ ယူဇနာတသောင်း-ဟူသကဲ့သို့တည်း။ အဝီစိ

ကား အလျား,အနံအားဖြင့် တံတိုင်း အတွင်း ယူဇနာ တရာ သာတည်း။ တံတိုင်း, နံရံအထုကား ကိုးယူဇနာ၊ တံတိုင်းပြင်ပ မီးလျှံထွက်လေသော အဆုံးသည် ထက်ဝန်းကျင် ယူဇနာတရာနှင့်နှင့်တည်း။ နှစ်ဖက်မီးလျှံ အချင်းကား ယူဇနာ သုံးရာ တဆယ့်ရှစ်ယူဇနာ၊ အဝန်း ကိုးရာငါးဆယ့်လေး ယူဇနာ ဤမျှသော အရပ်သာလျှင် အဝီစိမည်သတည်း။ ထက်ဝန်းကျင်မှ ဥဿဒငရဲများလည်း နီးပါး၍ ယူဇနာ တသောင်လုံးလည်း အဝီစိ မည်ပါသတည်း။ ဥပရိပဏ္ဏာသ ဒေဝဒူတသုတ်အဋ္ဌကထာ(၁၆၆-၇)။

“တာဝတိံ သာသုရာပုရံ၊
အဝီစိနိရယော တထာ။
ဇမ္ဗုဒီပေါ စ တောနိ၊
သမာနေဝ ပမာဏတော”–

ဟူ၍လည်းကောင်း,

“အဝီစိ ဇမ္ဗုဒီပေါ စ၊
တာဝတိံ သာသုရာလယော။
သဉ္ဇိ ဒသသဟဿာနိ၊
ယောဇနာ စတုရော ဣမေ”–

ဟူ၍လည်းကောင်း ထိုသို့သော လောကဝိဒူကျမ်း အဖွင့်ဆိုရာ၌ အဝီစိသဉ္ဇိကို မှုချ, ဥပစာအားဖြင့် ဤအဋ္ဌကထာကို မှီ၍ သိရာ၏။ “အတ္ထိ နိရယေ နိရယပါလာတိ အာမန္တာ”။ ကထာဝတ္ထုပါဠိ(၄၃၀)။ “တမေနံ ဘိက္ခဝေ နိရယပါလာ

နာနာဗဟာဟာသု ဂဟေတွာ ယမသ္သ ရညော ဒဿေန္တိ”။ ဒေဝဒူတသုတ်ပါဠိ (မ၊ ၃။ ၂၁၇။ အံ၊ ၁။ ၁၃၇) “ယထာ ဟိ မနုဿလောကေ ကမ္မကာရဏကာရကာ အတ္ထိ၊ ဧဝံ ဧဝ နိရယေ နိရယပါလာ အတ္ထိ။ ယမဿ ရညောတိ ယမ ရာဇာ နာမ ဝေမာနိကပေတရာဇာ ။ကေသ္မိ ကာလေ ဒိဗ္ဗဝိ မာနေ ဒိဗ္ဗကပ္ပရုက္ခဒိဗ္ဗဥယျာနဒိဗ္ဗနာဋကဒိဗ္ဗသမ္ပတ္တိ အနုဘဝတိ။ ကေသ္မိ ကာလေ ကမ္မဝိပါကံ၊ မေ္မိကော ဓမ္မရာဇာ။န စေသ ကော ဝ ဟောတိ။စတူသု ပန ဒွါရေသု စတ္တာရော ဇနာ ဟောန္တိ”။ထိုသုတ်အဋ္ဌကထာ (မ၊ ဋ္ဌ၊ ၄။ ၁၆၄။ အံ၊ ဋ္ဌ၊ ၂။ ၁၁၈)။

“ဝေမာနိကပေတာ ဟိ ကဏှသုက္ကဝသေန မိဿကကမ္မံ ကတွာ ဝိနိပါတဒေဝတာ ဝိယ သုက္ကေန ကမ္မုနာ ပဋိသန္ဓိံ ဂဏှန္တိ၊ကဒါစိ ပုညဖလံ ကဒါစိ ပနာပုညဖလံ ပစ္စနုဘဝန္တိ၊ ယေသံ ပန အဋ္ဋိယမဂ္ဂေ ဥပ္ပတ္တိ၊တေသံ မဂ္ဂါဓိဂမတော ပဋ္ဌာယ ပုညဖလမေဝ ဥပ္ပဇ္ဇတိ”။ထိုသုတ်ဋီကာ(မ၊ဋီ၊၃။၃၆၂။ အံ၊ဋီ၊၂။၁၁၄)။ ငရဲထိန်းတို့ကား ငရဲသူ မဟုတ်။ရက္ခိုက် ဘီလူးမျိုး–ဟူ၏။ ငရဲသူ မဟုတ်ပဲ ငရဲမီးပူကို ခံချိတုံ့အံ့လော–ဟူအံ၊ ငရဲမီးပူ မနှိပ်စက်နိုင်သည်ဖြစ်၍ ငရဲသူကို ညှဉ်းဆဲရအံ့ သော ကံကြမ္မာဖြင့် ငရဲထိန်း–ဟု ဖြစ်သတည်း။ “ကမ္မဝိပါကော အစိန္တေယျော”–ဟူဒေဝဒူတဋီကာ(မ၊ဋီ၊၃။၃၆၀–စသည်၊ အံ၊ ဋီ၊၂။၁၁၂–စသည်)လည်းကောင်း ဆို၏။ငရဲထိန်းတို့မကောင်း မှု ဖြစ်,မဖြစ်ကိုတမူကား မဆို။ ငါတို့အလိုကား မကောင်းမှုကား ဖြစ်၏။ငရဲသူသတ္တဝါတို့သည် ဂုဏ်မရှိသော သတ္တဝါဖြစ်၍သာ

လျှင် မဟာသာဝဇ္ဇ မဖြစ်သည်–ဟူလို၏။ ဒုဋ္ဌဂါမဏိမင်းအား ရဟန္တာ ရှစ်ယောက် ဟောသောအခါ–

“သဂ္ဂမဂ္ဂန္တရာယော ဝါ၊
နတ္ထိ တေ တေန ကမ္မုနာ။
ဒိယဍ္ဎမနုဇာ ဧတ္ထ၊
ဃာတိတာ မနုဇာဓိပ။
သရဏေသု ဌိတော ဧကော၊
ပဉ္စသီလေပိ စာပရော။
မိစ္ဆာဒိဋ္ဌီ စ ဒုဿီလာ၊
သေသာ ပသုသမာ မတာ”။–

(၂၅–ပရိစ္ဆေဒ၊ ၁၀၉၊ ၁၁၀ ဂါထာများ)။ ဤ မဟာဝံစကားကို ထောက်။ “ဒေဝဒူတသရာပနဝသေန သတ္တေ ယထူပစိတေ ပုညကမ္မေ ယမေတိ နိယမေတီတိ ယမော” ဋီကာ အင်္ဂုတ္တိုရ်ကြီး(အံ၊ဋီ၊ ၂။၁၁၄)။ မကောင်းမှု နည်းသူကား သေခါ ဆောက်တည်ချတ်၍ ငရဲရပ်သို့ ရောက်လေပြီး ငရဲမခံမီ ကောင်းမှုကို အောက်မေ့၍ လွတ်၏။ ယမမင်းသည် တမန်ငါးပါးကို မေးသဖြင့်သော်လည်း အောက်မေ့မိ၍ လွတ်၏။

တမန်ငါးပါးကား သူငယ်, သူအို, သူနာ, သူသေ, ပုတ်ခတ်ရှနရ်၍ အနာရသောသူ–ဤ ငါးပါးတည်း။ တမန်ငါးပါးကို မေး၍ မအောက်မေ့သော်ကား မိမိလျှင် အောက်မေ့ အောက်မေ့– ဆိုပေသတည်း။ အမတ်တယောက်သည် ဘုရားစေတီ ပန်းပူဇော်ဘူးသတတ်၊ ယမမင်းအားလည်း အလှူအဖို့ ဝေပါ

သတတ်၊ ထိုသူကို ယမမင်းသို့ ဆောင်လေသော်တည်း မိမိကောင်းမှုကို မအောက်မေ့လိုခဲ့ရကား နှင်ပန်းပူဇော်သောအခါ ငါ့ကို ဝေပါသည် မဟုတ်တုံလော-ဟူမှ အောက်မေ့မိ၍ လွှတ်သတတ်။ ဤသို့ ဖြစ်ရကား ကောင်းမှုပြုသောအခါ ယမမင်းကိုလည်း ဝေပါအပ်၏။ အချင်းခပ်သိမ်း နှိုးဆော်၍ မအောက်မေ့သော်ကား "ဆင်းရဲခံရသသူ ဖြစ်ယောင်ကား"-ဟု တုဏှိဘော နေကာသာ သို့ဖြစ်လေစေ-ဟု မဆို။ ဤသို့ ယမမင်းထံ ဆောင်၍ မေးမြန်းသော သူကား မကောင်းမှုနည်း သသူသာ၊ များသောသူကား ငရဲခံလျှင်းလေ၏၊ မေးဘွယ်မရှိ။ ဥစ္စာလက်းတည်း မိသည် ခိုးသူကိုကား အပြစ်ရှိသ၍ ပြုကာသာ၊ အရေးစစ်ဘွယ် မရှိသကဲ့သို့-ဟူ၏။ ဒေဝဒူတသုတ်အဋ္ဌကထာ (မ၊ ဋ္ဌ၊ ၄။ ၁၆၆။ အံ၊ ဋ္ဌ၊ ၂။ ၁၂၀)။ ယမမင်းအား မကောင်းမှုဖြစ်ပါတန်၏တကား-ဟူအံ့၊ မေး၍ မဆိုလျှင် တုဏှိဘော နေဘိရကား မကောင်းမှု ရှိပါ၏-မဟူပေအပ်။ ငရဲထိန်းတို့သာ မကောင်းမှုဖြစ်သည်-ဟု ငါတို့အလို။

နှာ-၁၄၆

ငရဲကို ပြပြီးမှ "ဒေဝလောကာဘိမုခံ ရထံ ပေသေသိ"-ဟူရကား ငရဲရပ်ညွှန်သောခါ ရထား ခပ်နှိုပ်သွားသည် ဟူလို၏။ ထို့ကြောင့် မူလော မဃဒေဝသုတ်ဋီကာ-(မ၊ ဋီ၊ ၃။၁၅၀)၌ "ရထံ နိဝတ္တိတွာတိ နိရယာဘိမုခံ ထောကံ နိန္နံ ရထံ တတော နိဝတ္တိတွာ"-ဟူသတည်း[၁]။

၁။ ရထံနိဝတ္တေဘွာတိ နိရယာဘိမုခတော နိဝတ္တေတွာ-ဟု ဆဋ္ဌမူ၌-ဤမျှသာ ရှိသည်။

"သာ ပတ္တကာလံ အတိထိံ ဝိဒိတွာ"–ဟု စာဟူသမျှ ရှိ၏။ မဃဒေဝသုတ်အဋ္ဌကထာ– (မ၊ ဠ၊ ၃။ ၂၁၉)၌ ဤ နေမိဇာတ် ဂါထာကို"၊ "သာ ပတ္တကာလေ"–ဟု ဆောင်၍ ထို သုတ်ဋီကာ–(မ၊ ဋီ၊ ၃။ ၁၅၀)၌လည်း "ပတ္တကာလေတိ ဉပကဋ္ဌာယ ဝေလာယ"–ဟု ဖွင့်၏။ ထို့ကြောင့် ပတ္တကာ-လေ–ဟူလိုသည်။ "အတိထိန္တိ ပစ္စေကဗုဒ္ဓံ။ ခီဏာသဝတ္ထေရန္တိပိ ဝဒန္တိ"။ မဃဒေဝသုတ်ဋီကာ (မ၊ဋီ၊၃။၁၅၀)။

## နှာ–၁၄၈

ယာ စ ပက္ခဿ အဋ္ဌမီ– ဟူလိုသည်၊ ယာဝ–ဟု စာဟူသမျှ ရှိ၏၊ မရှိသင့်။ စာတုဒ္ဒသိံ, ပဉ္စဒသိံကား ဒုတိယန္တ။ ယာ စ ပက္ခဿ အဋ္ဌမီ–ကား ပဌမန္တ။ ပက္ခဿ၏။ ယာ အဋ္ဌမီ အတ္ထိ။ တဥ္စ အဋ္ဌမိံ–ဟု ဒုတိယန္တဆောင်၍ သမ္ဗန်။ သဒ္ဒနီတိ (သုတ္တ။ ၈၀၇)။ "ပါဋိပဒဒိဝသတော ပဋ္ဌာယ ယာဝ အပရာ ပုဏ္ဏမီ တာဝ ဧကော မာသော"–ဟု ဝိနည်းဋီကာ–(သာရတ္ထ၊ ၁။ ၁၈၃)၌ ဆိုရကား နယုန်လဆုတ် တရက်ကသည် ဝါဆိုလပြည့်နေ့သည် တလ၊ ဤနည်းအားဖြင့် တန်ဆောင်မုန်းလပြည့်ရုံသော် ငါးလ၊ ဤငါးလကိုလျှင် ပါဋိဟာရိယပက္ခ–မည်သော ဟူ၏။ ဝါဆိုလ, တန်ဆောင်မုန်းလ, တပေါင်းလ ဤသုံးလကိုသော်လည်း ပါဋိဟာရိယပက္ခ ဟူသတတ်။ ပုရိမပက္ခ, ပစ္ဆိမပက္ခ–ဟု တလတွင် နှစ်ပါး၊ လကွယ်ပက္ခ, လဆန်းပက္ခကို

၁။ ပုဏ္ဏမိတော ဟု ပုံနှိပ်မူတို့၌ ရှိ၏။

ဆိုလိုသည်။ လကွယ်ပက္ခတွင် လဆုတ်တရက်နေ့၊ လဆုတ်သတင်းဖိတ်နေ့၊ လဆုတ်သတင်းထွက်နေ့၊ လကွယ်သတင်းဖိတ်နေ့၊ ဤလေးရက်ကား ပုရိမပက္ခ–ဝယ် ပါဋိဟာရိယ–မည်၏။ လဆန်းတရက်နေ့ လဆန်းသတင်းဖိတ်နေ့၊ လဆန်းသတင်းထွက်နေ့၊ လပြည့်ပဝါဖိတ်၊ ဤလေးရက်ကား ပစ္ဆိမပက္ခ–၌ ပါဋိဟာရိယ-မည်၏။ ဤသို့ ပက္ခတိုင်း လေးရက်ကိုလျှင် ပါဋိဟာရိယ မည်၏ဟူ၏၊ နှစ်သက်ရာယူ–ဟု သုတ္တနိပါတ်တွင် ဓမ္မိကသုတ်အဋ္ဌကထာ(သုတ္တနိ၊ ဋ္ဌ၊ ၂။ ၁၀၈)၌ ဗုဒ္ဓဃောသဆရာ ဆို၏။ ပါဠိကား ဤသို့–"ဝဿူပနာယိကာယ ပုရိမဘာဂေ အာသဠှိမာသေ၊ ဝဿနော ဝဿာ တယော မာသာ ကတ္တိကမာသော တိ ဣမေ ပဉ္စ မာသာ ပါဋိဟာရိယပက္ခောတိ ဝုစ္စန္တိ။ အာသဠှိ ကတ္တိကဖဂ္ဂုဏမာသာ တယော ဝါ တိ အပရေ။ ပက္ခုပေါသထဒိဝသာနံ ပုရိမပစ္ဆိမဒိဝသဝသေန ပက္ခေ ပက္ခေ တေရသမီ ပါဋိပဒသတ္တမိသခါတာ စတ္တာရော ဒိဝသာတိ အပရေ။ ယံ ရုစ္စတိ တံ ဂဟေတဗ္ဗံ"။ ဤသို့ကား အထွေထွေဆို၏ရှင့်။ ကျမ်းဆရာတို့ကား နောက်နည်းကို ဆိုဖန်များ၏။

ဤသို့လည်း အဋ္ဌကထာဆရာ (အံ၊ ဋ္ဌ၊ ၂။ ၁၂၂။) ဆိုသေးတုံ၏–"ပဋိဇာဂရဥပေါသထကမ္မံ နာမ ကာတဗ္ဗန္တိ၊ တံ ကရောန္တာ ကေသိ အဒ္ဓမာသေ စတုန္နံ ဥပေါသထဒိဝသာနံ ပစ္စုဂ္ဂမနာ–နုဂ္ဂမနဝသေန ကာတဗ္ဗန္တိ။ ပဉ္စမီ ဥပေါသထံ ပစ္စုဂ္ဂစ္ဆန္တာ စတုတ္ထိယံ ဥပေါသထိကာ ဟောန္တိ။ အနုဂစ္ဆန္တာ ဆဋ္ဌမိယံ။ အဋ္ဌမီ ဥပေါသထံ ပစ္စုဂ္ဂစ္ဆန္တာ သတ္တမိယံ ဥပေါသထိကာ ဟောန္တိ။

အနုဂစ္ဆန္တာ နဝမိယံ။ စာတုဒ္ဒသုပေါသထံ ပစ္စုဂ္ဂစ္ဆန္တာ တေရသိယံ ဥပေါသထိကာ ဟောန္တိ။ ပန္နရသုပေါသထံ အနုဂစ္ဆန္တာ ပါဋိပဒေ ဥပေါသထိကာ ဟောန္တိ”။ ဤသို့ ဆိုသည်စကားကား ယခင်နောက်နည်းနှင့်အတူ။ **အင်္ဂုတ္တိုရ် တိကနိပါတ် အဋ္ဌကထာ**–(အံ၊ဋ္ဌ၊ ၂။ ၁၂၃)၌ကား တထွေ ဆိုသေးတုံ၏။ “ပါဋိဟာရိယပက္ခော **နာမ** အန္တောဝဿေ တေမာသံ နိဗဒ္ဓုပေါသထော၊ တံ **အသက္ကောန္တဿ** ဒွိန္နံ ပဝါရဏာနံ **အန္တရေ** ဧကမာသံ နိဗဒ္ဓုပေါသထော။ တမ္ပိ **အသက္ကောန္တဿ** ပဌမပဝါရဏတော ပဋ္ဌာယ **ဧကောအဍ္ဍမာသော** ပါဋိဟာရိယပက္ခောယေဝ နာမ”။ ဤအလိုသော်ကား ဝါသုံးလ မပြတ်သုံးသည်၊ ဥပုသ်, သီတင်းကျွတ်လဆုတ် တရက်ကသည် တန်ဆောင်မုန်းလပြည့်ရှိ သုံးသော ဥပုသ်, သီတင်းကျွတ်လဆုတ် တရက်ကသည် လသေရှိလခွဲသုံးသော ဥပုသ်။ ဤသုံးပါးတွင် တပါးပါးလျှင် ပါဋိဟာရိယပက္ခမည်၏။ **ဥပါသကာလင်္ကာရကျမ်း**၌[၁] ဤနောက်နည်းကို ကြိုက်လေ၏။

**အဋ္ဌင်္ဂ** သုသမာဟိတံ-လိုသည်၊အဋ္ဌင်္ဂါသုသမာဟိတံ-မလို။

**ဥတ္တရဝိမာနဝတ္ထုပါဠိ**–(၁၇)၌“ဥပေါသထံ ဥပဝသိဿံ”–ဟု ရှိ၏၊ **အဋ္ဌကထာ**(၆၅)လည်း “ဥပဝသိဿန္တိ ဥပဝသိ”–ဟု ဖွင့်၏။ ထိုသို့ဖွင့်သည်ကား ဘဝိဿန္တိ အတ္တနောပုဒ် ဿံ–ကို

---

၁။ ယင်းကျမ်း သီလနိဒ္ဒေသမှာ ကြည့်ပါ။ ဤကျမ်းကို မြန်မာအက္ခရာဖြင့် ပုံနှိပ်ကျမ်းအဖြစ် မတွေ့ဘူးသေး။ သီဟိုဠ်၌ကား သာသနာ ၂၄၆၉–ခုနှစ်က ပုံနှိပ်ထုတ်ဝေသည်။

ပရောက္ခာ အတ္တနောပဒ် ဣ-ဝိဘတ်ဖြင့် ဖွင့်၏။အတီတ်အနက်၌ အနာဂတ် ဝိဘတ် ဖြစ်သတည်း-ဟု သိစေသည်။ထိုကိုထောက်၍ ဤ၌ "ဥပဝသိ"-ဟု မပြင်အပ်။ထို၌ကား အမှယောဂ၊ဤ၌ကား နာမယောဂ အဇ္ဇတနီ ဤ-ဝိဘတ်တည်း။ထို့ကြောင့် ရကား "ဥပေါသထံ ဥပဝသိ"-ဟူ၍သာ ရှိစေရာ၏။

## နှာ-၁၄၉

"အသံသဋ္ဌ ဂဟဋ္ဌေဟိ၊အနာဂါရေဟိ စူဘယံ"-၌"ဥဘယန္တိ ဂိဟီဟိ စ အနာဂါရေဟိ စာတိ ဥဘယေဟိ"-ဟု သုတ္တနိပါတ်-(ဋ္ဌ၊၂၊၁၈၉)ဖွင့်၏။"ကရဏေ ဣဒံ ပစ္စတ္တဝစနံ"- ဟု ထေရ ၌လည်း ဥပသေန ထေရဂါထာ(ထေရ၊ဋ္ဌ၊၂။၂၀၅)တွင် ဆို၏။ "ဥဘယန္တိ ဥဘယေဟိ။ဝိဘတ္တိဝစနဝိပလ္လာသောယံ"ဟုသဒ္ဒနီတိ-(သုတ္တ။ ၆၆၀) လည်း ဆို၏။ ဤကိုထောက်၍ "ဥပေတံ အန္နပါနေဟိ၊နစ္စဂီတေဟိ စူဘယံ"၌ ဥဘယံ-ကား ကရိုဏ်း အနက်၌ ပဌမာဟူ။ဥဘယေဟိ-ဖွင့် ပေး။

## နှာ-၁၅၅

အကံသု သတ္တုဝစနံ-၌ ကရ-ဓာတ်နောင် ဉုံ-ဝိဘတ်ကို အံသု-ရေးသည်။ ဧတေန မဂ္ဂေန အတံသု ပုဗ္ဗေ- ၌ကား တရ-ဓာတ်နောင် ဉုံ-ကို အံသု-ရေးသည်[၁]။

---

၁။ နီတိ၊သုတ္တ။ ၁၀၃၆-ကြည့်။

နှာ-၁၅၆

ဝိသုဒ္ဓိမဂ်(၁။ ၂၀၀)ဝိနည်းလောကဝိဒူအဋ္ဌကထာ(ဝိ၊ ဋ္ဌ၊ ၁။ ၉၁)တို့၌

"ယုဂန္ဓရော ဤသန္ဓရော°၊
ကရဝိကော သုဒဿနော။
နေမိန္ဓရော ဝိနတကော၊
အဿကဏ္ဏော ဂိရိဗြဟာ"။-

ဤသို့ရေသည်ကား ယခုအခါ၌ တွင်သော တောင်စဉ်အမည်။

"သုဒဿနော ကရဝိကော၊
ဤသန္ဓရော° ယုဂန္ဓရော။
နေမိန္ဓရော ဝိနတကော၊
အဿကဏ္ဏော ဂိရိဗြဟာ"။-

ဤသို့ မာတလိ နတ်သားရေသည်ကား နိမိဇာတ်ဖြစ်သောခါ တွင်သောအမည်။

"ကဿပဿ စ သတ္တုဿ၊
ဂေါတမဿ စ သတ္တုနော။
ဧတ္ထန္တရေ ယံ ဝသုဓာ၊
ဝဍ္ဎိတာ သတ္တဂါဝုတာ"-ဟု-သီဟဠဝတ္ထု။

"ကေယောဇနတိဂါဝုတပမာဏံ နဘံ ပူရေတွာ"-ဟူ၍လည်း မုဒ္ဒဿသပြုသော ဇာတတ္တကီ ဇာတ်နိဒါန်း-၌

၁။ ဤသိန္ဓရော။(ပ)။

ကဿပဘုရား လက်ယက်ကသည် ငါတို့ဘုရားတိုင်အောင်သော အခါသည် မြေကြီး နှစ်ယူဇနာတွင် တဂါဝုတ် ယုတ်ကာမျှ ပွားသည်။ ထက်တိုက် ကြာမြင့်စွာသတည်း။ ဤသို့ အခါ ရှည်လျားသဖြင့် နိမိဇာတ် ဖြစ်သောအခါ တွင်သောတောင် စဉ် အမည်သည် ယခုအခါ အမည်လွဲခဲ့သတည်း။ ထိုသို့ အမည် ပြန်ယူသော်မှလျှင် နိမိဇာတ်အဋ္ဌကထာ၌ အဿကဏ်ကသည် အဆင့်ဆင့်မြင့်၏ ဟူသည်နှင့် တန်သတည်း။ ဇိနာလင်္ကာရ ဋီကာ (၆၆-၇)နှင့် စန္ဒသူရိယဂတိဒီပနီ-၌ကား အမည်ပြန် မဟုတ် သုဒဿနတောင်ထိပ်၌ ရထားရောက်စဉ် သုဒဿနတော သည် တက်ရေ ရေ၍ နေမိန္ဓရကသည် တောင်သုံးလုံးကို သက် ရေ ရေသည်။ နိမိဇာတ်အဋ္ဌကထာ (၁၅၆-၇)၌ အစဉ် အတိုင်း မြင့်၏-ဟူသည်ကား ပမာဒလေခအားဖြင့် ဆိုသတည်း- ဟူ၏။ ဤသို့ ဟူသော်လည်း ရှေးနည်းကိုလျှင် ဆရာတို့ ကြိုက်၏။

## နှာ-၁၅၇

"သုဒဿနဿ ဂိရိနော"-၌ သုဒဿနဿ၊ သုဒဿနမည် သော။ ဂိရိနော၊ နတ်မြို့၏၊ နတ်ပြည်၏-ဟု ပေး။ ဂိရိ-ပုဒ် ကား နဂရပရိယာယ်တည်း။ သုဒဿန-လည်း သက္ကပုရပရိ ယာယ်တည်း။

"တယော ဂိရိ အန္တရံ ကာမယာမိ၊ ပဉ္စာလာ ကုရုယော ကေကကေ စ"။ ငါးရာပါဠိ (ဇာ၊ ၁၊ ၆၂)။ ယထာ စ "သုဒဿနဿ ဂိရိနော၊ ဒွါရံ ဟေတံ ပကာသတိ" တိ ဧွ

သုဒဿနံ **ဒေဝနဂရံ** ယုဇ္ဈိတွာ ဒုဂ္ဂဏှတာယ ဒုပ္ပဓံသနတာယ **စ** “**သုဒဿနဂိရိ**”-တိ ဝုတ္တံ။ ဧဝမ်ဓါပိ တိဏ္ဏံ နဂရာနံ “တယော ဂိရီ”တိ **အမိပ္ပေတာနိ**။ **ကာမနီတဇာတ်အဋ္ဌကထာ** (ဇာ၊ ဋ္ဌ၊ ၂။ ၁၉၆)။ “**သုဒဿနံ** သက္ကပုရေ၊ တိဿု တံ ဒုဒ္ဒ**သေတရေ**”။ သက္ကပု**ရေ**၊ သိကြားပြည်၌**ကား**။ သုဒဿနံ၊ သုဒဿနပုဒ်တည်း။ တံ၊ **ထိုသုဒဿနပုဒ်ကား**။ ဒုဒ္ဒသေတရေ၊ မြင်လွယ်သည်၌။ တိဿု၊ လင်္ဂသုံးပါးလုံးတို့၌ ဖြစ်သတည်း။ **အဘိဓာန်**(၉၉၈)။

## နှာ-၁၆၀

“ယံ ပရတော ဒါနပစ္စယာ”-၌ **တောပစ္စည်းသည်** ဆဋ္ဌီ အနက်၌ သက်သတည်း။ ပရတောဃောသ-ကို **ပ**ရေသံ ဓမ္မ ဒေသနာ-ဟူသည့်သို့။ ပရေသံ၊ တို့၏။ ဒါနပစ္စယာ၊ ကြောင့်-ဟူ၍ **ပေး**လိုသည်။

## နိမိဇာတ်ပြီး၏။



# မဟောသဓာဇာတ်

## နှာ-၁၆၃

မဟောသဓာဇာတ်၌ နိဗ္ဗေဓိကပညော-ကား နိဗ္ဗိဇ္ဈနံ ပဋိဝိဇ္ဈနံ နိဗ္ဗေဓော။ နိဗ္ဗေဓော ဧတိဿာ အတ္ထီတိ နိဗ္ဗေဓိကာ၊ ပညာ။ နိဗ္ဗိဇ္ဈတီတိ ဝါ နိဗ္ဗေဓိကာ၊ပညာ။ နိဗ္ဗေဓိကာ စ သာ ပညာ စာတိ နိဗ္ဗေဓိက ပညာ။ အဿတ္ထိဆင့်၍ ပုဂ္ဂိုလ် ရစေသည်။ နိဗ္ဗေဓိကာ ပညာ ယဿ သော နိဗ္ဗေဓိကပညော-ဟူ၍သော် လည်း ပြု။

နိဗ္ဗိဒ္ဓသေဝနေ နိဟတတဝိသေဝနေ။ ကေနိပါတ် ဋီကာအင်္ဂုတ္တိုရ် (အံ၊ ဋီ၊ ၁။)

## နှာ-၁၆၄

သေဋ္ဌံ-ဓနသာရံ ဌာနန္တရံ ဝါ အဿ အတ္ထီတိ သေဋ္ဌီ။ ဒီဃကို ရဿပြု၍ သေဋ္ဌိသာ ရှိသတည်း°။

## နှာ-၁၆၇

တဋ္ဋာဥယျာနဂဒြဘော မဏိ-၌ တဋ္ဋာ-သဒ္ဒါကား ဝိဇ္ဇမ္ဘန္တ အမတန္တငွေနှင့် (ဗုဒ္ဓဝံ။ ၃၀၇) အတူဖြစ်သောကြောင့် တဋ္ဋာ သဒ္ဒါ ,တဋ္ဋာကသဒ္ဒါ နှစ်ပါး ရှိရာ၏။

---

၁။ နီတိ၊ ပဒ။ ၂၅၇-ကြည့်။

နှာ–၁၈၀
နိသီဒါပေတိ ဝဏ္ဏတိ–ကား ဝစ ဓာတ် ဿတိ–ဝိဘတ်။ ဿ–ကို ခ–ရေး၊ စ–ကို က–ရေး။

နှာ–၁၈၂
"ဟံစိ ပုဂ္ဂလော ဥပလဗ္ဘတိ"–ကဲ့သို့ "ဟံစိ တုဝံ ဧဝ မညသိ သေယျော"–၌ ဟံသိ–မလို၊ ဟံစိ–လို၏။ အဋ္ဌကထာ၌လည်း ယဒိ–ဟူ၏။ ဟံစိ–နှင့် ယဒိ–ကား အနက်တူတည်း။

နှာ–၁၈၅
"ရာဇဒွါရေ နာမ ကာကဏိကမတ္တံ န ဝဋ္ဋတိ။ အစ္စုမာသဂ္ဂ နိက္ခံ မံသံ ဒေဟိ ကာကဏိကာ ဒွေတိ ဒွေ ကာကဏိ ကာယော ဒေထ၊ မာသကံဒေထ"။ ဤသို့သုတ္တနိပါတ် (သုတ္တနိ၊ ဋ္ဌ၊၁။၁၆၈–၉)စကားနှင့် ညီသတည်း။ ဝိဒေဟရာဇ်ပြည်တွင်ထိုအခါလေးချင်ရွေးကို မာသဟူသည် ဖြစ်အံ့သတည်း။ "ဒွေ ဂုဉ္ဇာ မာသကော ဘဝေ"–ဟူသော အဘိဓာန် (၄၇၉)နှင့် သော်ကား မညီ။ အဘိဓာန်သော်ကား အရပ်ခပ်သိမ်း သုံးစွဲသည်ကို ဆိုသတည်း။ တစုံတရာ ကျမ်းငယ်တို့၌ "တိဂုဉ္ဇာ[၁] မာသကော ဘဝေ"–ဟူသည်လည်း ရှိ၏။ သုတ္တနိပါတ် ( )နှင့် အညီ လေးချင် ရွေးကို တပဲဟူ၍ ဝိဒေဟရာဇ်ပြည်သူတို့ သုံးစွဲသတည်း။

"နာယံ ပုရေ ဥဏ္ဏမတိ"–ဟူ၍ ပါဠိဇာတ်ရှိ၏။ "ဥဏ္ဏမန္တိ နမန္တိ စ"–(ဒီ၊ ဋ္ဌ၊ ၃။ ၂၂၇။ အံ၊ ဋ္ဌ။ ၃။ ၂၂၉။ ဝိသုဒ္ဓိ၊ ၁။ ၃၀၀)ဟူသည်နှင့်သော်လည်း ညီနိုး၏။

---

၁။ ဆဂုဉ္ဇာ။ (မြ)

## နှာ-၁၈၈

ပုရိသော ဒုဗ္ဗဂေါ-၌ ဘဂ-ပုဒ်ကား ဘဂဝါနှင့် အတူ ဂ-ယော် လိုသတည်း။ သလက္ခဏောတိ သုဘဂေါ-ရှိရကား ဒုဗ္ဗဂေါ, သုဘဂေါနှစ်ပါး။

သိရိတိ သောဘာယ စေဝ ပညာပုညာနဉ္စ အဓိဝစနံ-ဟူရကား သိရိ စ ကာလကဏ္ဏိ စ-၌ သိရိကား သုံးပါး။

## နှာ-၁၉၀

သခိံ သတ္တပဒံပိ-၌ "မိတ္တော ဟဝေ သတ္တပဒေန ဟောတိ"-(ဇာ၊ ၁။ ၂၀)ကို ရှု၍ သတ္တပဒံပိ၊ ခုနှစ်ဘဝါးလှမ်း၍ ဖြစ်သော။ သခိ၊ ခင်ပွန်းအဖြစ်သည်-ဟူ၍ ပေး။ "သုဓောန သချမဿ"-(ဇာ၊ ၄၊ ၆။ ၁၉၃)၌ သချကား သခိဿ ဘာဝေါ သချံ။ ပဏော ဧသော ပရိတ္တမေတ္တ သောချံ-ဟူသော သုတ္တနိပါတ်ပါဠိ (၂၈၈)၌ "သုခိနော ဘာဝေါ သောချံ"-ဟူသို့။

## နှာ-၁၉၃

"မဟောဒရေပိ သော နာ ဂေါ၊
တဒါ ရာဇာ မဟိဒ္ဓိကော။
သမုဒ္ဒေ နာဂဘဝနေ၊
ဒသဗ္ဗုသတယောဇနေ"။ (မဟာဝံသ၊ ၁။၄၈)

---

၁။ ဆဋ္ဌမူ၌ သချံ-ဟု ရှိသည်။

"ဘောဂါ ဒသစုဝိဓဒေါသဝိဒူသကာပိ၊
ပညာဝိသေသသဟိတေဟိ ဇနေဟိ ပတ္တာ။
ဟောန္တေဝ ပဥ္စဂုဏယောဂသဟိတသာရာ၊
ဣစ္စသ္သ သာရဂဟဏေ မတိမာ ဃဋေ္ဌယျ"။–
(ငှင်း၊ ၂၆။ ၂၆။)

ဤသို့သော ဂါထာတို့၌ ပဥ္စ–ဟု ဆိုလိုသော အရာတွင် ဒသစု–ဟု ဆိုသကဲ့သို့ စတုပါဒေါ–ဟု ဆိုလိုရာ၌ အဋ္ဌစုပါဒေါ–ဟူသတည်း။ဒသန္နံ အစုံဒသစုံ–ဟူသော်လည်း ပဥ္စရ၏။ အဋ္ဌန္နံ အစုံ အဋ္ဌစုံ–ဟူသော်လည်း စတုရ၏။ အဋ္ဌစုပါဒေါ စတုပ္ပဒသာ–ဟူသည်ကား စတုပ္ပဒေါ စတုပ္ပဒသာ–ဟူသည် မည်သတည်း။ အဋ္ဌစုပါဒေါ အဋ္ဌနခေါ အယံ မေဏ္ဍော အဒိဿမာနော ဟုတ္ဝာ စတုပ္ပဒဿ အမုဿ သုနခဿ မံသံ အာဟရတိ၊ အယံ သုနခေါ ဣမဿ ဌေကဿ ဆာဒိယံ အာဟရတိ–ဟူ၍ သမ္ဗန်လေ။ပဌမ, ဒုတိယ, စတုတ္ထ–ပုဒ်တို့ကို သမ္ဗန်ပြီးမှ တတိယ–ပုဒ်ကို အဆုံး သမ္ဗန်ရာသတည်း။

## နှာ–၁၉၄

ဘုဘုက္ကဿာတိ^၁ ဘူဘူတိ သဒ္ဒကရဿ–ဟုဖွင့်သည်အလိုကား "ဗုက္ကယတိ သာ စောရေ"–ဟူရာ၌ ဗုက္က–ဓာတ်လျှင် သဒ္ဒကရဏ–ကို ဟောသည်။ သဒ္ဒနီတိ–(ဓာ။ ၁၁)၌လည်း ဗုက္ကဘဿနေ။ ဘဿနံ သုနခဘဿနံ–ဟူ၏။ ဘုဘုက္ကတဿ–ကား ပုဒ်ပျက်။

၁။ ဗုဘုက္ကဿာတိ။ (ဆဋ္ဌမူ)။ဗုဗုက္ကဿာတိ။ (မြ)

အသာတရိရထဥ္စ ကေမေကံ–၌ အသာတရိ-ပုဒ်ကား ဝစိ ဒုစ္စရိတံ–သို့ အ–ကို ဤ–ရေးလေသတည်း။

## နှာ–၂၀၀

ဘဏာတိ သန္ဓာနဂတော ယသသိ–၌ ဘဏာတိ–ကား ဆန်းဒီဃ။ ယသသိ–ကား သိ–ပစ္စည်းကို ဒွေဘော်ပြု။

## နှာ–၂၀၂

ပဥ္စ ပဏ္ဍိတာ မယာ ဘဒန္တေ–၌ ဘဒ္ဒံ အန္တော အဿာတိ ဘဒန္တော–ဟု ပြု၍ ဒ–တခု ကျေ။ ရဇ္ဇံ ကာရေဟိ ဘဒ္ဒန္တေ- (ဇာ၊ဋ္ဌ၊၆။၁၈) ဝယ်သော်ကား ဒ-မကျေ။ ဘန္တေ–ကား ဘဒ္ဒန္တ–အပြီး ဟူ၏။

## နှာ–၂၁၄

အတ္တံ န လဘာတေ မဂေါ–၌ မဂ အန္ဓေသနေ–ဟု ဓာတ် ဘော်။ မဂီယတိ အန္ဓေသိယတီတိ မဂေါ။ "ယထာပိ ဒီပိကော နာမ၊ နိလီယိတွာ ဂဏှာတိ မဂေ" (မိလိန္ဒ။၃၅၂။ဝိ၊ဋ္ဌ၊၂။ ၁၂။ ဒီ၊ဋ္ဌ၊၂။၃၅၄။ မ၊ဋ္ဌ၊၁။၂၅၃။ဝိသုဒ္ဓိ၊၁။၂၆၂။)နှင့် အတူ။

သဒ္ဒါဆရာတို့ကား ဝိသာဏာတော ဂဝံ ဒေါဟံ–၌ ဂဝံ–ကို နံပြီး–ဟူကုန်၏။ အဋ္ဌကထာ၌သော် ဂါဝိံ ဒုဟန္တော–ဖွင့်ဘိ ရကား ဂဝံကား အံ-ပြီးလျှင် ဖြစ်တန်သတည်း။ ဒုဟ –ဓာတ် ဒွိကံ အရာကို ဆောင်လတ်သော အခါ ဒုဟမာနော ဂဝံ

ခိရံ-ဟူ၏။ "ဂဝံ သဟဿံ ဥသဘဉ္စ နာဂံ"-(ဇာ၊ ၁၊ ၂၀၅။ ဇာ၊ ၄၊ ၃။ ၁၅၈) ၌သော် တမူကားဂဝံ နံ-ပြီး၏။

နှာ-၂၁၇

ပဟူ သမာနေ့ာ-ကို ပဟူ ဟောန္တော-ဖွင့်။

နှာ-၂၁၈

"ဒိနော နိဒ္ဒနဒုဂ္ဂတာ"-(၇၃၉)ဟု အဘိဓာန်ဟူရကား "ဥဒ္ဒရေ ဒိနမတ္တာနံ"-၌ ဒိနံ-ကား ဒုဂ္ဂတပရိယာယ်တည်း။ "အာဘုသော ဒိနံ ဒုက္ခံ ဝါတိ ဂစ္ဆတိ စေတေနာတိ အာဒိန ဝေါ"-(နီတိ၊ ဓာ။ ၂၂၆)ဟူရာ၌ကား ဒုက္ခကို ဒိန-ဟူ၏။

နှာ-၂၂၈

ပဏှော ဝဏ္ဏော မဟောသဓော-၌ ပဏှော-ကား "ပုဗ္ဗဏှ။ သာယနှေ"သို့၊ ပ-အနက်ကား "အတိပ္ပဂေါခေါ"သို့။

နှာ-၂၃၀

အဘိဒေါသဂတော ဣဒါနိ ဟေသိ-၌ အဘိဒေါသကား သာယော-နှင့် အနက်တူ။ ။"အဘိဒေါသော ပဒေါသော တု ၁၊ သာယော သဉ္ဈာ ဒိနစ္စယော"။ အဘိဓာန်(၆၈)။

ယဒိ တံ မန္တယိတံ ဇနိန္ဒ ဒေါသံ-တွင် ဒေါသံ-လည်း အဘိဒေါသံ-ဟူအပ်လျက် အဘိ-ကျေ။

---

၁။ ထ-ဟု အဘိဓာန်၌ ရှိသည်။

နှာ-၂၃၃

ယာဝန္တော ပုရိသဿတ္ထံ-၌ ယာဝန္တော တာဝန္တော-ကား ဂုဏာဝန္တော-သို့ယောပြီး၊ ယာဝ တာဝ-ကား သိ-နှင့်အကွန္တ-ကို အ-ရေး။

နှာ-၂၄၁

အထေတ္တေကာသတံ ခတျာ-၌ ခတ္တိယာ-ကို ခတျာ-ဟူ၏၊ ရတ္တိယာ-ကို ရတျာ-ဟူသို့။

နှာ-၂၅၇

ဥဘော ကော ဘဝန္တု တေ-၌ ကော-ဟု ဗဟုဝုစ်ရှိသည်ကား သဒ္ဒိသဟောဖြစ်၍ ရှိသတည်း။ "ဂစ္ဆမေကေ ဥပ္ပဇ္ဇန္တိ" (ဓမ္မပဒ၊ ၁၂၆-ဂါထာ)ဝယ် ကေ-သော်ကား ကေစ-နှင့်အနက်တူ။ "သေဌာသဟာယသချည-တုလျေသွေကော တိလိင်္ဂကော"-(၇၅၀)ဟု ကေ-အဟောတို့တွင် သချာကို ဟောမူကား ကေ-သဒ္ဒါ ဗဟုဝုစ် မရှိကောင်း။ သေဌ, အသဟာယ-စသည်တို့ကို ဟောသော် ရှိကောင်း၏။

နှာ-၂၅၉

ကစ္စည်း၌ကား သဗ္ဗတွင် ဘန္ဒောင်းရာ သန္တ-ကို သ-ရေးသည်-ဟူ၏။ သဂါထာဝဂ္ဂသံယုတ်-၌ သဗ္ဗ ပဝေဒယန္တိ-ကို သဗ္ဗဟိ သဗ္ဗံ ပဝေဒယန္တိ-ဖွင့်၏။ (သံ၊ ၄၊ ၁။ ၁၂၇) အာသမ္ဗာဒကော ထဒ္ဓေါ အသဗ္ဗရှုပေါ-၌လည်း အသဗ္ဗဇာတိ

ကော-ဖွင့်။ ဤသည် သတ္တိ, အသတ္တိ-ပုဒ်တို့ကား ကစ္စည်းပြီး မဟုတ်။ သဒ သံသီဒနေ။ ဘိဒိ ဘေဒနေ-ဟု သဒ, ဘိဒ-ဓာတ်ကြံ၍၊ ဓာတ်ကျေ။ သတ္တိ-ပြီးသတည်း¹။

သံသီဒန္တော ကိလေသေ ဘိန္ဒတီတိ သတ္တိ။ သပ္ပုရိသော။ သတ္တိနံ ရူပံ သတ္တိရူပံ။ နတ္ထိသတ္တိရူပံ စေတဿာတိ အသတ္တိရူပေါ။ "အသဗ္ဘာစ နိဝါရယေ"-၌ သော်ကားန သတ္တိ အသတ္တိ။ အသတ္တိသု ဘာဝံ အသတ္တံ။ အကုသလံ။ "အသဗ္ဘာဟိ ဝါရေဟိ"-၌ကား အသတ္တိနံ သောတိ အသဗ္ဘာ။

"ဂရု သတ္တိဟိ သဒ္ဒိတ္တိ၊
အတ္ထံ ဘာသိံသု ပါဠိယာ။
ယတော တတော သတ္တိသဒ္ဒံ၊
ဝိညူ သဗ္ဗတ္ထ ယောဇယေ။
အသတ္တိရူပေါ အစ္စပိ၊
သမာသဝိသယေ သုတံ။
ယသ္မာ တသ္မာ သတ္တိသဒ္ဒံ၊
မိရော သဗ္ဗတ္ထ ယောဇယေ"။ (နီတိ၊ ပဒ။ ၂၃၃)။

နှာ-၂၆၁

ယထာပိ မစ္ဆော ဗဠိသံ၊ ဝင်္က မံသေန ဆာဒိတံ-၌ ဗဠိသံ ဝင်္က-ကား ဟတ္ထိ-နာဂေါ, သရောရုဟံ ပဒုမံ-သို့ ပရိယာယ်

---

၁။ နီတိ၊ ပဒ။ ၂၃၂-၃။ နီတိ၊ ဓါ။ ၃၆၉။ နီတိ၊ သုတ္တ။ ၃၇၁-တို့ ကြည့်။

အလှယ်တည်း။ဂုဏ်, ဂုဏောအားဖြင့် သမာနာဓိကရိုဏ်း မဟုတ်။ ဝက်ံ၊ကောက်သော။ဗဋ္ဋိသံ၊ငါးမျှားကို-ဟူ၍ မပေးအပ်။ဝက်ံ၊ ဝက်မည်သော။ ဗဋ္ဋိသံ၊ကို-ဟု ပေး။တနည်းကား "ယထာ အာရညကံ နာဂံ၊ဒန္တိံ အန္ဝေတိ ဟတ္ထိနီ"–၌ နာဂံ ဒန္တိံ– တို့သည် ပရိယာယ်ဖြစ်လျက် ဒန္တိန္တိ မနောရမဒန္တယုတ္တံ–ဟု ဖွင့်ဆို သောကြောင့် သမာနာဓိကရိုဏ်းဖြစ်သကဲ့သို့ ဝက်ံ–ဂုဏ်ပုဒ်, ဗဋ္ဋိသံ–ကား ဂုဏော–ပုဒ်ဖြစ်စေ။

နှာ–၂၆၂

ခိပ္ပမတ္တံ ဇဟိဿသိ။မိဂံ ပန္ထာနုပဒ္ဓံဝ–၌ အတ္တံ–ကား အတ္တာနံ– မှ ရုပ်အထူးတည်း။ အတ္တနာ–မှ အထူး "အတ္တေန ဝါ အတ္တနိ ယေန ဝါ"–ဟုရှိသကဲ့သို့တည်း။ဤအတ္တံ–ကို မြင်သောကြောင့် အံ–ကို အာနံ–ရေးသောသုတ်ကား အနိစ္စဝိဓိတည်း။

နှာ–၂၆၄

အာခမော, အာမန္တာ, အာမ၊ဤသုံးပုဒ်ကား အနက်တူဟု။ အာမောတိ သော ပတိဿုတွာ–၌လည်း အာမော–ရှိ၏။တိက နိပါတ်အဂ္ဂိတ္တိုရ် ၌လည်း "တေ စ မေ ဝေံ ပုဋ္ဌာ၊ အာမောတိ ပဋိဇာနန္တိ"–ဟု ° ရှိဘူး၏။

"န စ မေသိ ဣတော ပုဗ္ဗေ၊
ဒိဋ္ဌော ဝါ ယဒိ ဝါ သုတော။
ယထာ ဣမဿ ဝစနံ၊
သစ္စံ ဝါ ယဒိ ဝါ မုသာ"။(ဇာ၊၂။၂၁၀။)

၁။ အံ။၁။၁၇၄–၌ အာမာတိ-ဟု ရှိ၍ အာမောတိ–(သီ) ဟု မူကွဲ ပြသည်။

ဤသို့သော အရာတို့၌ ယဒိ ဝါ-တွင် ယဒိ-သဒ္ဒါကား ဝါ-နှင့် အနက်တူ၊တကွပေါင်းလျက် ရှိသည်။ယဒိ ခတ္တိယ ပရိသံ ယဒိ ဗြာဟ္မဏပရိသံ-၌ကား ယဒိသဒ္ဒါချည်း ဝါ-နက်ကို ဟော၏။ယဒိ နီလကာယ ယဒိ ပီတကာယ-(မ၊ ၁။ ၄၃)၊ ပုဒ်ကို နီလကဝဏ္ဏာယ ဝါ ပီတကဝဏ္ဏာယ ဝါ-ဟူ၍ ဝဏ္ဏသုတ် အဋ္ဌကထာ ဖွင့်ဘူး၏။"ယဒိ ပဿန္တိ ပဝနေ၊ဒါရကာ ဖလိနေ ဒုမေ"-(ဇာ၊ ၂။ ၃၃၀)၌ ယဒိ-ကား ယဒါ-အနက်-ဟု သဒ္ဒနီတိ(သုတ္တ၊နှာ။ ၃၉၀)။

နှာ-၂၉၁

မာ တံ ဘာယိ မဟာရာဇ-၌ မာ ဘာယိ-ကို မာ ဘာယသု-ဟု ဝိဘတ်-ပုရိသ်-ပြန်ဟူ၏။

နှာ-၂၉၄

ယထာပိနိယကော ဘာတာ-၌ "နိယကောတိ အဇ္ဈတ္တိကော ကေပိတရော"-ဟု အဋ္ဌကထာဖွင့်သည်ကား သိနှောင်း အာရ-ပြီးသတည်း[1]။ ဓမ္မပဒ-၌ အယံ နိမ္မာတာပိတရော။ဝိနည်း၊စူဠဝါ-၌ အသမကာ ဟောတိ အသကျမိတရာ။ ဤပုဒ်တို့သည် သိ-နှောင်း အာရ-ပြီးသတည်း။ မနုဿတ္တံ လိင်္ဂသမ္ပတ္တိ၊ဟေတု

---

၁။ ယဒိ နီလကာယာတိ နီလကာယ ဝါ၊နီလကဏ္ဏာယ ဝါတိ ဝုတ္တံ ဟောတိ။ဧဝံ သဗ္ဗတ္ထ။(မဋ္ဌ၊၁။၁၇၁။)နီလဘာဝဏ္ဏာယ ဝါ ပီတဘာဝဏ္ဏာယ ဝါ၊ (မြ)

၂။ နီတိ၊ သုတ္တ။ ၄၁၃။

သတ္တာရဒသာနံ-၌လည်း သတ္တာရဒသာနံ-ဟု နောက်ပုဒ်နှောင်း ရှ၍ အာရ-ပြီးသတည်း။ ဤသည် သိ-နှောင်း, နောက်ပုဒ် နှောင်း အာရပြီးသည်ကား ကစ္စည်းရှုပ်မှ အထူးတည်း[၁]။

နှာ-၂၉၈

တိံသ မေ ပုရိသနာဝုတျော-၌ ရတ္တိယော-ကို ရတျော- ဟူသို့ နဝုတိယော-ကို နာဝုတျော- ဟူသတည်း။ တိံသ မေ ပုရိသနာဝုတျော-ဟူသည်ကား သုံးသောင်းကိုးထောင်ကို ဟောသော သင်္ချေတသချာတည်း။ တိံသ-နှောင် သဟဿ- ကျေ။ နဝုတိနှောင် သတ-ကျေ-ဟု မကြံအပ်။

"တိံသဉ္စ သဟဿာနိ၊
နဝုတိ စ သတာနိ တု။
တိံသ နာဝုတိယော နာမ၊
ဝုတ္တာ ဥမင်္ဂဇာတကေ"။-သဒ္ဒနီတိ (ပဒ။၄၀၉)။

နှာ-၂၉၉

ပဘာဝေန္တေ န ပဿာမိ-၌။ ပကာရတော ဘဝတီတိ ပဘာဝေါ၊ အာနုဘာဝေါ။

"တေဇော ဥဿာဟမန္တာ စ၊
ပဘူ သတ္တီတိ ပဉ္စိမေ။
အာနုဘာဝေါတိ ဝုစ္စန္တိ၊
ပဘာဝေါတိ စ တေ ဝဒေ။"(နီတိ၊ပဒ။ ၉၄)။

၁။ နီတိ၊ ပဒ။ ၁၈၅-၆။ နီတိ၊ သုတ္တ။ ၄၁၃၊ ၄၁၅၊ နှာ-၂၁၀-တို့ကြည့်။

နှာ-၃၀၁

မိတ္တပုဗ္ဗ ဘာသတိ-၌ မိတ-ပုဒ်ကို မိ ဤသံဟသနေ-ဟု ဓာတ်နက်ဘော်။ "မုဠ္ဍသတိတာ ဗန္ဓန္တာ၊ ပေက္ခိတေန မိတေန စ"-(ဇာ၊ ၂။ ၁၂၆)။ "န နံ ဥမှယတေ ဒိသွာ"- (ဇာ၊ ၁။ ၅၁)။ ဤပုဒ်တို့၌လည်း မိ-ဓာတ်လည်းကောင်းတည်း။

နှာ-၃၀၃

ပထဗျာ ဝိတနိယျတိ၊ ဇဝံ တံ ဝိနတနိတ္တာန-၌ တနု ဝိတ္ထာရေ-ဟု သဒ္ဒနီတိ (ဓာ။ ၂၆၁) ဟူရကား ဝိဟနိယျတိ, ဝိဟနိတွာန—ဟူသည်ကား ပုဒ်ပျက်တည်း။

နှာ-၃၀၅

ယထာ ပလသတံ စမ္မံ-၌ ပလသတံ-ကား ဇနကဇာတ်၌ သတပလံ ကံသံ-နှင့် အတူ၊ အကျပ်လေးထောင် အလေး ရှိသောချပ်-ဟူလိုသတည်း။

နှာ-၃၀၉

ဒိဗ္ဗံ အဓိယသေ မာယံ-၌ အဓိယသေ—ကား အဓိ-ရှေး ဣ-ဓာတ်။ ဣ အဇ္ဈယနေ-ဟုဘော်။ အဓိယန္တိလည်း အတူ။ အဇ္ဈေနမရိယာ ပထဝိံ ဇနိန္ဒာ-(ဇာ-၂။ ၂၃၁) ၌ အဇ္ဈေနံ-ပုဒ်လည်း ဣ-ဓာတ်လည်းကောင်း။

နှာ-၃၁၃

ဒမ္မိ နိက္ခသဟဿန္တေ-၌ နိက္ခသဟဿံ-ကား ရွှေ အကျပ် တသိန်းတည်း။ ပဥ္စသုဝဏ္ဏနိက္ခေန နိက္ခာနံ သဟဿံ-ဟုဖွင့်

ရာဇ္ဇိင်ါးသုဝဏ္ဏာဖြစ်သော နိက္ခဖြင့် တထောင်–ဟူသည် အလိုကား လေးကျပ်ကား ဓရဏ၊ငါးဓရဏကား သုဝဏ္ဏ၊အကျပ်ကား နှစ်ဆယ်တည်း။ ငါးသုဝဏ္ဏကား နိက္ခတည်း၊အကျပ်ကား တရာ တည်း။ နိက္ခတဆယ် အကျပ်တထောင်။နိက္ခတရာ အကျပ် တသောင်း။ နိက္ခတထောင်ကား အကျပ်တသိန်း။ နိက္ခာနံ သဟဿံ–၌ နိက္ခာနံ-ကား ဟေမပရိယာယ်တည်း။

"ဟေမေ ပဥ္စသုဝဏ္ဏေ စ၊
နိက္ခောနိတ္ထိ ပသာဓနေ"။–အဘိဓာန်(၈၈၈)။

"နိက္ခံ ဇမ္ဗောနဒသောဝ"- (ဓမ္မပဒ၊ ၂၃၀-ဂါထာ) တွင် နိက္ခံ-ကား ပသာဓန။"ဂါမသီတိဥ္စ ကာသိသု"–၌ ရွာတရွာ သော် တနှစ်တသိန်း အခွန်ထွက်၏။တသိန်းထွက်သော ရွာကို မူလည်း ဂါမဝရံ ဟူစပါ၏။တသိန်း,တသိန်းထွက်သော ရွာ အတိ ၁ ရှစ်ဆယ်။

နှာ-၃၁၅

သေနာ ပဒိဿတေ မဟာ–၌ မဟာ-ကား မဟန္တ–တွင် န္တ-ကို သိ-နှင့်အက္ခ အာ-ရေးသတည်း။"တုမုလော ဘေရဝေါ မဟာ"(ဇာ၊၂။၃၂၂)။"ဗာရာဏသိရဇ္ဇံ နာမ မဟာ"-တို့ကို ရှု၍ ဝါကျ၌ မဟာ–ပြီးသည်၊သုံးလိင် ၂ ။

---

၁။ အသီတိ။ (မြ)
၂။ နီတိ၊ ပဒ။ ၂၃၉။ နီတိ၊ သုတ္တ။ ၇၁၂-တို့ကြည့်။

နှာ-၃၁၆

ဇမ္ဗုဒိပံဝ သာဂရေ-၌ "ဒွိဟိ ဘာဂေဟိ အာပေါ တွေ ဂတာတိ ဒီပေါ"။ ခန္ဓဝဂ်သံယုတ်ဋီကာ (သံ၊ ဋီ၊ ၂။ ၂၁၈)။ ဇလမဇ္ဈေ ဒိပ္ပတီတိ ဒီပေါ-လည်းဟူ၏။ ဇမ္ဗုယာ လက္ခိတော ဒီပေါ ဇမ္ဗုဒီပေါ။ ရှေးနည်းအလို ဒီပေါ-ကို ဒိ+အာပေါ-ခွဲ။ အာ-ကျေ၊ ဣ-ဒီဃ။

နှာ-၃၂၁

မာတရံ ပဌမံ ဒဇ္ဇံ-၌ ဒါ-ဓာတ်ကို ဒဇ္ဇ-ရေး။

နှာ-၃၂၂

ဒဇ္ဇာသိ ဒကရက္ခနော-၌ ဒကရက္ခသ-ပုဒ်နောင် စတုတ္ထီ သ-ကို နော-ရေး။ ရက္ခသ-တွင် သ-ကို ချေ၍ ဒကရက္ခနော-ရှိသည်-ဟု ဘာသကရီ ဆို၏[၂]။

နှာ-၃၂၅

ဥမ္မာရီ ကေန ဒေါသေန-၌ ဥမ္မရီ-သော်ကား ဒေဝိပရိယာယ်။
"ရာဇိနီ ဥမ္မရိ ဒေဝိ၊
မဟေသီ ဘူဘုဇင်္ဂနာ။
ခတ္တိယာ ရာဇပဒ္မိ၊
ခတ္တိယာနီ စ ခတ္တိနီ။
ဣတ္ထာဂါရံ တု ဩရောဓော၊
ဥမ္မရီတိပိ ဝုစ္စတိ"။ သဒ္ဒနီတိ (ဓာ။ ၄၇)။

---

၁။ နီတိ၊ သုတ္တ။ ၃၁။ ။၂။ ဆဋ္ဌမူ၌ဒကရက္ခိနော-ဟု ရှိသည်။

## နှာ-၃၂၈

တုဝန္တ မနုသေ စ-၌ မနုသေဓေါ စ-မရှိမူ၍ မနုသေ စ-ဟူ၍သာ ရှိသည်ကား အဝိဘတ္တိကနိဒ္ဒေသအားဖြင့် ဝိဘတ် မရှိပဲ ပုဒ်ကိုသာ ပြသည်-ဟူ၏။

"ကာယော တေ သဗ္ဗသောဝဏ္ဏော၊ သဗ္ဗာ ဩဘာသတေ ဒိသာ"။ ဤပေတဝတ္ထုပါဠိ၌-သဗ္ဗော သောဝဏ္ဏော-ဟု မရှိမူ၍ သဗ္ဗ-ဟူ၍သာ ရှိသောပုဒ်လည်း အဝိဘတ္တိကနိဒ္ဒေသ-ဟူ၏။ "အဋ္ဌ စ ပုဂ္ဂလ ဓမ္မဒသာ တေ၊ သဃံမိမံ သရဏတ္ထ မုပေဟိ"-၌ ပုဂ္ဂလာ-မရှိပဲ ပုဂ္ဂလ-ဟူ၍သာ ရှိသည်လည်း အဝိဘတ္တိက နိဒ္ဒေသလည်းကောင်း-ဟူ၏။ သဒ္ဒနီတိ[၁]။

သဥ္ဇဂ္ဃိတ္တော မယာ သဟ-၌ ဇဂ္ဃ ဟာသနေ-ဟု ဓာတ်ဘော်။ အတိဝေလံ ပဇဂ္ဃိတုံပိ န သောဘတိ-ဟူသော ဤပုဒ်တို့၌လည်း ဇဂ္ဃဓာတ်နှင့်နှင့်တည်း။

## နှာ-၃၃၀

"ပထဗျာ စာတုရန္တာယာတိ စတ္တုသု ဒိသာသု သမုဒ္ဒံ ပတွာ ဌိတာယ စာတုရန္တာယ ပထဝိယာ"။ ဤသို့ ဋီကာ အင်္ဂုတ္တိုရ် (အံ၊ ဋီ၊ ၁။ ၆၉) ဆိုသောကြောင့် စာတုရန္တော မဟာရဋ္ဌော-၌ စာတုရန္တော-ကို အရပ်လေးမျက်နှာ၌ သမုဒ္ဒရာ တိုင်အောင် တည်သော အပိုင်းအခြားလည်းရှိထသော-ဟု ပေး။

---

၁။ ပဒမာလာ။ ၂၁။ ယင်း၌ ပုဂ္ဂလကို ဆန္ဒာနုရက္ခဏာဖြစ် ကြောင်း ဆိုသည်။

"စတုရန္တာယာတိ စတုသမုဒ္ဒန္တာယ ပုဗ္ဗဝိဒေဟာဒိစတုကောဋ္ဌာသန္တာယ"-ဟု ဋီကာဥပရိပဏ္ဏာသ(မ၊ ဋီ၊ ၃။ ၃၅၇)ဆိုသည်ကား စက္ကဝဠာတေးကို ရည်သတည်း။

အဏုမတ္တေသူတိ အတိပရိတ္တကေသု-ဟူ၍ ဖွင့်ဘူးရကား အဏုမတ္တံပိ ဒုက္ကဋ္ဌ-၌လည်း အတိပရိတ္တကံ-ဟုဖွင့်။

သစေဝ ကိသ္မိံစိ ကာလေ-ဟု ရှိသည်စာ များ၏။သစေဝ ကိမ္ဟိစိ ကာလေ-ဟု သဒ္ဒါဆရာတို့(နီတိ၊ ဓာ။ ၂၀)ဆောင်၏။ အဋ္ဌကထာတို့လည်း ကိမ္ဟိစိတိ ကိသ္မိံစိ-ဟူ၏။

မဟောသဓဇာတ်ပြီး၏။

---

၁။ ကိသ္မိံစိတိ ကိသ္မိဉ္စိ ကာလေ။(ဇာ၊ ဋ္ဌ၊ ၆။ ၃၃၁)။

# ဘူရိဒတ်ဇာတ်

## ဇာတ်အဋ္ဌကထာ-သတ္တမတွဲ

### စာမျက်နှာ-၇

ဘူရိဒတ်ဇာတ်၌ န မေနာ ဝိဝါဟော-ဝယ် နေ၁-ကို အမှေ့ ဟိ-ဟူ၏။

ကထံ အမှေ့ ကရောမသေ-၌ အမေ့-ကား တုမှေ့-သို့ ပဌမန္တ။ ကရောမသေ-ကား အာချာတ်နှောင် ဝါစာသိလို့၌ အလို့ ငှာ သေ-အာဂုံ။ နံပုဒ်နှောင်လည်း "ယေ ကောစိ ဗုဒ္ဓံ သရဏံ ဂတာသေ"-ဟု သေ-အာဂုံ-ထင်၏။ "အက္ခရမှာသ တေ ကိစ္စံ"-၌သော်ကား သေ-တွင် ဧ-ကို အ-ရေးဘူး၏။ ဩက္ကန္တာမသိ ဘူတာနိ-၌ကား သေ-တွင် ဧ-ကို ဣပြုဘူး၏[၁]။

### နှာ-၁၃

ဘူရိဒတ္တောတိသာ နာမံ အကာသိ-၌ ဘဝန္တိ တွေ့ာတိ ဘူရိ။ ဘူတာ ရမန္တိ တွေ့ာတိ ဝါ ဘူရိ။ ဘဝတိ ဝါ ပညာ ယတိ ဝါ ဝဍ္ဎတိ ဝါတိ ဘူရိ။ မြေနှင့်နှင့်-ရစေ။ ဘူရိ ဝိယာတိ

---

၁။ နီတိ၊ သုတ္တ။ ၁၃၄-သုတ် ကြည့်။

ဘူရိ။ ပညာ-ရစေ။ ဘူတေ အတ္ထေ ရမတီတိ ဝါ ဘူရိ။ ပညာ-လည်းကောင်း။ ရာဂါဒိ အရိ ဘဝတီတိ ဝါ ဘူရိ။ ဤနောက်နည်းအလိုကား ဂေါတြဘူ-သို့ အရိဘူ-ဟု ရှိအပ်လျက် ရှေ့နောက် အက္ခရာပြန်၍ ဘူရိ-ရှိလေသည်။ ယောဂါ ဝေ ဇာယတီတိ ဘူရိ။ "အယောဂါ ဘူရိသင်္ခယော"-ဟူသို့ ပညာကို ဘူရိ-ဟူသတည်း။ ဘူရိယာ သမန္နာဂတော ဒတ္တော ဘူရိ-ဒတ္တော ဟူလိုသည်။

နှာ-၁၅

ဤ၌ ကော လောဟိတကျော စိတတန္တရံသော-တွင် ဝိတတန္တရံသောတိ ပုထုလအန္တရံသော ဟူ၏။ ဘုရား လက္ခဏာတော်၌ "စိတန္တရံသောတိ အန္တရံသံ ဝုစ္စတိ ဒွိန္နံ ကောဋ္ဌာနမန္တရံ၊ တံ စိတံ ပရိပုဏ္ဏံ အန္တရံသံ အဿာတိ စိတန္တရံသော။ အဋ္ဌကထာ (ဒီ၊ဋ္ဌ၊၂။ ၄၀။မ၊ဋ္ဌ၊၃။၂၆၁-) ဋီကာ ကား "ဒွိန္နံ ကောဋ္ဌာန မန္တရန္တိ ဒွိန္နံ ပိဋ္ဌိဗာဟူနံ ဝေမဇ္ဈံ ပိဋ္ဌိမဇ္ဈဿ ဥပရိဘာဂေါ။ စိတံ ပရိပုဏ္ဏန္တိ အနိန္နဘာဝေန စိတံ၊ ဒွိဟိ ကောဋ္ဌေဟိ သမတလတာယ ပရိပုဏ္ဏံ" (ဒီ၊ဋီ၊၂။ ၄၀။ မ၊ဋီ၊ ၃။ ၁၇၄) ဟူ၏။ စိတတန္တရံသော-၌ စိတ-ကို ပရိပုဏ္ဏ-ဟူ၏။ စိတတန္တရံသော-၌ စိတတ-ကား ပုထုလပရိယာယ်။

နှာ-၁၆

အဟိကုဏ္ဍိကဿ အာရောစေတွာ-၌ အဟိတုဏ္ဍော နီယတွော အဟိဟုဏ္ဍိကော-ဟူ အပ်လျက် နီယတော-ကို နီယကော-ဟူသို့

တု–ကို ကု-ပြုန်လေသည်။ "ဣမေဝ တေ နိသိန္နဿ[၁]၊ နိယတေ ပဏ္ဏသန္ထတေ" (ဇာ၊ ၂။ ၁၅၆)–၌ နိယတေ-ကို မပြုန်။ ဘာသကရိ။

## နှာ-၁၈

"ရမ္မာနိ ဝနစေတျာနိ၊
ရမ္မာ ဟံသူပကူဇိတာ။
ဩပုပ္ဖါပဒ္မါ တိဋ္ဌန္တိ၊
ပေါက္ခရညော သုနိမ္မိတာ"။–

၌ ဝနစေတိယာနိ–ကို ဝနစေတျာနိ–ဟူသည်။ ပဒုမာကို ပဒ္မါ–ဟူသည်။ ဤနှစ်ပါးကား ယ, မ–အက္ခရာနှစ်လုံး နှောင်း၍ ဣ, ဥ–ကျေသည်။ ပေါက္ခရညော–ကား နေပုည်–သို့ ပေါက္ခရဏိယော–ကို ပေါက္ခရညော–ဟူသည်။

## နှာ-၃၄

ကုရုရိ ဟတဆာပါဝ–၌ ဆာပ–ကား ဗာလ-ပုဒ်ဖြင့်ပြီးသည်–ဟူ၏။ လူဟော ဗာလ–ကိုကား သုသု–ရေး၊ တိရစ္ဆာန်ဟော ဗာလ–ကိုကား ဆာပ–ရေး–ဟူ၍ ဘာသကရိ ဆို၏။ "ပဋ္ဌမုပ္ပတ္တိကော သုသု၊ ကုရုရီ ဟတဆာပါဝ"–ဟု ဆောင်၏။

---

၁။ ဆဋ္ဌမူ၌ နိသီဒဿု-ဟု ရှိ၍ နိသိန္နဿ-ကို သီ-ဿျာ-ဋ္ဌ-ကု မူကွဲပြသည်။

နှာ-၃၅

စာဟူသမျှကား ဩရေန သတ္တရတ္တာယ၊ ဘာတရံ ပဿ အာဂတံ-ဟု ရှိ၏။ သဒ္ဒါကျမ်း၌ကား ဩရေန ဒသရတ္တာယ-ဟု ဆောင်၏[၁]။

နှာ-၃၈

အဝှာယန္တု သုယုဒ္ဓေန၊ သုဏန္တု ပရိသာ မမံ-၌ သိ-ဝိဘတ်ကို ဩ-ရေးသည် ဖြစ်မူကား အဝှာယန္တော သုယုဒ္ဓေန-ဟူ၍သာ ရှိရာသတည်း။ သိ-ကို ဩ-မရေးလေ၍ အဝှာယန္တုသု-ဟူသည် ဟု သဒ္ဒနီတိ[၂]။ အဝှာယန္တော-ဟု ပြင်၍ ပေး။

တုံ့မံ နာဂေန အာလမ္ပ-ဟု ရှိရကား အာလမ္ပ, အာလမ္ပာယန နှစ်ပါး ရှိကောင်းသတည်း။

ဟောတုနော အဗ္ဘုတံ တတ္ထ အာသဟာဿေဟိ ပဥ္စဟိ-၌ အဗ္ဘုတံကား ဦဒိဿ မရှိကောင်း။ အဗ္ဘုတော ဝတ လောကသ္မိံ-သို့ ရဿသာ ရှိကောင်းသတည်း။ အဘူတံ အတစ္ဆံ-တို့တွင်သော်ကား သံယုဂ်မဲ့ ဒီဃသာ ရှိရာသတည်း၊ သံယုဂ်ရှိက ရဿသာ ရှိရာသတည်း-ဟု သဒ္ဒနီတိ (ပဒ။ ၃၄၀-၁) ဆို၏။

နှာ-၄၁

တိဏ္ဏလတာနိ ဩသဗျောကား အပျက်။ ဩသဗျောလိုသည်၊ ဩသဓိယော ဖွင့်။

---

၁။ သီ-ဇူမူတို့၌ ဒသရတ္တာယ-ရှိသည်။
၂။ နီတိ၊ သုတ္တ။ ၅၂၅-ကြည့်။

နှာ-၅၄

မိတ္တဒ္ဒုနော ဘူနဟုနော နရဿ-၌ မိတ္တ-ရှေး ဒု-ခတ်။ ဒု ဟိံ သာယံ-ဖွင့်။ ဘူနဟုနော-ကား ဘူနဟစ္စံ ကတံ မယာ (ဇာ၊ ၂။ ၃၆၉)ကို ရှု။

နှာ-၅၅

"သိခိမှိ ဒေဝေသု ဝဒန္တိ ဟေ ကော၊
အာပံ မိလက္ခူ ပန ဒေဝမာဟု။
သဗ္ဗေဝ ဧတေ ဝိတထံ ဘဏန္တိ၊
အဂ္ဂိ န ဒေဝညတရော န စာပေါ"။

ဤဂါထာ၌ မိလက္ခု-ပုဒ် ရှိ၏။ **ကထာဝတ္ထု**၌ မိလက္ခူသု အဝိညာတာရေသု-ရှိ၏။ **ဋီကာအင်္ဂုတ္တိုရ်**- (အံ၊ ဋီ၊ ၂။ ၂၆၄)၌"အရိယသဒ္ဒေါ အမိလက္ခေသုပိ မနုဿေသုပဝတ္တတိ"-ဟူ၏။ မိလက္ခူသု, အမိလက္ခေသု-ကို ရှု၍ မိလက္ခု-ပုဒ်, မိလက္ခ-ပုဒ် နှစ်ပါးရှိသည် ဖြစ်ရာ၏။ အဘိဓာန်ဋီကာကို မှီသော စတုရင်္ဂဗလ အလိုသော်ကား-မိလက္ခု-မကြံ၊ မိလက္ခ-လျှင် ကြံ၏။ မိလက္ခ-ခတ်၊ မိလက္ခ အဗျတ္တသဒ္ဒေ-ဖွင့်၍ မိလက္ခန္တိ အဗျတ္တဝါစံ ကရောန္တီတိ မိလက္ခာ။ (ဓာန်ဋီ၊၁၈၆)။ တနည်းကား ရာဂါဒိမလံ အက္ခိမှိ ဧတေသန္တိ မိလက္ခာ။ မ-အစိတ် အ-ကို ဣ-ရေးလေ၍ မလက္ခာမရှိပဲ မိလက္ခာ-ရှိလေသည် ဟူ၏။ **သဒ္ဒနီတိ** (ဓာ။ ၃၉၊ ၂၉၄)ကား မိလက္ခု-ဟူ၏။

---

၁။ ဆဋ္ဌမူ (နှာ-၈၃)-၌ မိလက္ခေသု-ဟု ရှိ၍ မိလက္ခူသု-(သျာ၊ က)ဟု မူကွဲပြသည်။

"သုဘာသိတံ ဥတ္တမမာဟု သန္တော၊
ဓမ္မံ ဘဏေ နာဓမ္မံ တံ ဒုတိယံ။
ပိယံ ဘဏေ နာပ္ပိယံ တံ တတိယံ၊
သစ္စံ ဘဏေ နာလိကံ တံ စတုတ္ထံ"။ (သုတ္တနိ။ ၃၄၄)

သုဘာသိတံ ဓမ္မံ ပိယံ သစ္စံ၊ စကား အင်္ဂါလေးပါး။ သုဘာသိတံ၊ နှ ဒုဗ္ဘာသိတံ ပဌမံ-ဟူလိုသည်။ "ယဒသ္မေ ပဋိညာဒီဟိ အဝယဝေဟိ နာမာဒီဟိ ပဒေဟိ လိင်္ဂဝစနဝိဘတ္တိ-ကာလကာရကာဒီဟိ သမ္ပတ္တိဟိ သမန္နာဂတံ ဝါစံ သုဘာသိတာတိ ပညာပေန္တိ။ တံ ဓမ္မတော ပဋိသေဓေတိ။အဝယဝါဒိ သမ္ပန္နာပိ ဟိ ပေသုညာဒိ သမန္နာဂတာ ဝါစာ ဒုဗ္ဘာသိတာ ဟောတိ။ အတ္တနော ပရေသံ စ အနတ္ထာဝဟတ္တာ။ ဣမေဟိ ပန စတူဟိ အင်္ဂေဟိ သမန္နာဂတာ သစေပိ မိလက္ခုဘာသာ ပရိယာပန္နာ[၁]၊ ဃဋ္ဋစေတိကာဂီတိကာပရိယာပန္နာ ဝါ ဟောတိ။ တထာပိ သုဘာသိတာဧဝ"။ သုတ္တနိပါတ် အဋ္ဌကထာ (၂။ ၁၂၄)။

"ဗျဝတ္တာ စာတုဝဏ္ဏာနံ၊
ယသ္မိ ဒေသေ န ဝိဇ္ဇတေ။
မိလက္ခုဒေသော သော ဝုတ္တော၊
ပုညဘူမိ တတော ပရံ"။-

---

၁။ ဆဋ္ဌမူ၌ မိလက္ခု-ရှိ၍ မိလက္ခ-(သီ၊ သျာ) ဟု မူကွဲပြသည်။ မိလက္ခ-(က)။

**အဘိဓာန်** (ဋီကာ၊ ၁၈၆)။ ပါဠိ၌, အဋ္ဌကထာတို့၌ကား စက္ခု-ပုဒ်သို့ မိလက္ခု-ရှိ၏။ ဆရာပြုကျမ်း၌ကား ဒွေပုရဇက္ခ-ပုဒ်သို့ မိလက္ခ-ရှိ၏။ မိလက္ခု, မိလက္ခနှစ်ပါးရှိကောင်း၏။

အဇ္ဈေန မရိယာ ပထဝိံ ဇနိန္ဒ-၌ အဇ္ဈေနံ-ကို အဓိ-ရှေး ဣ-ဓာတ်။ ဣ အဇ္ဈယနေ-ဟု ဖွင့်။

ဘူရိဒတ်ဇာတ်ပြီး၏။



# စန္ဒကုမာရဇာတ်

## နှာ-၇၄

စန္ဒကုမာရဇာတ်၌ ရာဇာသိ လုဒ္ဒကမ္မေ ကေရာဇာ ပုပ္ဖဝတိယာယံ-၌ ပုပ္ဖဝတိယာ-ပုဒ်။

“ပုနာပရံ ယဒါ ဟောမိ၊
ကေရာဇာ အတြဇော။
နဂရေ ပုပ္ဖဝတိယာ၊
ကုမာရော စန္ဒသဝှယော”။–

ဟု **စရိယာပိဋကပါဠိ** (၃၇၉)ရှိရကား ပုပ္ဖဝတီ-ပုဒ်၊ ဤသို့ ပုပ္ဖဝတီ, ပုပ္ဖဝတီယာ ပုဒ်နှစ်ပါးကား ပါဋလိပုတ္တိ, ပါဋလိပုတ္တိယ ပုဒ်နှစ်ပါးသို့။ နိဿဂ္ဂိ, နိဿဂ္ဂိယ ပုဒ်နှစ်ပါးသို့လည်း-ဟူ။ ဗာရာဏသီပြည်ကိုလျှင် စန္ဒကုမာရဇာတ်၌ ပုပ္ဖဝတီ-ဟူ၏။ **ဥဒယဘဒ္ဒဇာတ်**၌ သုရုန္ဓန နဂရ-ဟူ၏။ **စူဠသုတသောမဇာတ်**၌ သုဒဿန-ဟူ၏။ **သောဏနန္ဒဇာတ်**၌ ဗြဟ္မဝဒ္ဓန-ဟူ၏။ **ယုဝဉ္စယဇာတ်**၌ ရမ္မနဂရ-ဟူ၏။ ဤပြည်ကား အမည်ခြောက်ပါးတွင်၏။

နှာ-၈၅

သောဝ ခဏ္ဍဟာလော၊ ယဇတံ သုဝကေဟိ ပုဏ္ဏေဟိ-၌ သုဝကေဟိ-ကို သကေဟိ-ဟု ဖွင့်သည်ကား သက-တွင် သ-ကို သုဝ-ရေးသည်-ဟူ၏။ သာမိ-ပုဒ်တွင် သ-ကို သုဝ-ရေး၍ သုဝါမိ-ဟူသို့။ "န ဟိ နဿတိ ကဿစိ ကမ္မံ၊ ဧတိ ဟတံ လဘတေ သုဝါမိ"။ သုတ္တနိပါတ်ပါဠိ ကောကာလိကသုတ် (၃၈၃)။ သုဝါမီတိ သာမိ။ အဋ္ဌကထာ (၂။ ၁၉၉)။

**စန္ဒကုမာရဇာတ်ပြီး၏။**

---

၁။ ဆဋ္ဌမူ၌ "သောဝ ခဏ္ဍဟာလော၊ ယဇတံ သကေဟိ ပုဏ္ဏေဟိ"-ဟုရှိသည်။ နီတိ၊ သုတ္တ။ ၁၆၁-၌ သုဝကေဟိ-ကို ထုတ်၍ ၅၁၀-၌ "သော ခဏ္ဍဟာလော ယဇတံ သုဝကေဟိ ပုဏ္ဏေဟိ"-ဟု ထုတ်သည်။

# နာရဒဇာတ်

## နှာ-၁၀၆

နာရဒဇာတ်၌ အဟု ရာဇာ ဝိဒေဟာနံ-၌ အဟု-**ကား** ဟူဓာတ်၊ အဇ္ဇတနီဝိဘတ်၊ ဤ-ကျေ ဦ-ကို ရဿ၊ **အ**-ကား **အာ**ဂုံတည်း။ ထို့ကြောင့် အာဟု ရှိမူ ပုဒ်ပျက်တည်း။

မိတပုဗ္ဗေ-ကား ပုဒ်ပျက်တည်း။ မှိ-ဓာတ်။ မှိ ဤသံ ဟာသနေ-ဟု ဖွင့်။ "ပဿန္တမုခ-ဝဏ္ဏောသိ၊ မှိတပုဗ္ဗ ဘာသသိ"-နှင့် အတူ။ မှိတ, မိဟိတ နှစ်ပါးကား ပရိယာယ်။ "ဟာသနံ ဟသိတံ ဟာသော၊ မန္ဒော သော မိဟိတံ သိတံ"(အဘိဓာန်။ ၁၇၅)ကို ရှု။

ဇုဏ္ဍံ ဗျပဟတံ တမံ-၌ ဇုဏှ-ကား ရတ္တိ၊ စန္ဒမဏ္ဍလအား ဖြင့် ရတ္တိ တင့်တယ်၏။ ရတ္တိ-ကား နိဿိတ၊ စန္ဒ-ကား နိဿယ။ "မဇ္ဇာ ဂစ္ဆန္တိ"-သို့ နိဿိတကို နိဿယ၌ တင်၍ စန္ဒ-ကို ဇုဏှ-ဟူ၏။ ထို့ကြောင့် ဇုဏှာယ နိဿယဘူတံ စန္ဒ မဏ္ဍလံ-ဖွင့်၏။ သဒ္ဒနီတိ၌လည်း ဇုတ ဒိတ္တိယံ။ ဇောတေတိ စန္ဒ တာရကပဘာဟိ ဒိဗ္ဗတိ ဓိရောစတီတိ ဇုဏှာ၊ ရတ္တိ-ဟူ၏ ^၁^ ။

---

၁။ နီတိ၊ ဓာတု။ ၂၅၉။ သုတ္တ။ ၉၃၁-တို့ကြည့်။

“ကာဠေဝ ဝါ ယဒိ ဝါ ဇုဏှေ၊
ယဒါ ဝါယတိ မာလုတော။
ဝါတဇာတာနိ သီတာနိ၊
ဥဘောတ္ထမပရာဇိတာ” –(ဇာ၊ ၁။ ၅)၌–ဇုဏှ–ကား
သမယတည်း။ဇုသိ ပီတိသော၀နေ–ဟု ဖွင့်။ဇောသေတိ (လော
ကဿ)ပီတိံ သောမနဿံ ဥပ္ပါဒေတီတိ ဇုဏှော။သမယော–
ဟူ၏[၁]။

## နှာ–၁၀၇

အလာတဿ ဝစော–ကား န ဂိတေ ကုရုတေ မနော– သို့
အဓ်–ကို ဩ–ရေးသည်၊ ကံ–ပုဒ်။

## နှာ–၁၂၆

ယံ ယံ ဟိ ရာဇ ဘဇတိ၊သန္တံ ဝါ ယဒိ ဝါ အသံ–၌
အသံ–ကား အသန္တ–တွင် န္တ–ကို အံ–နှောင်း အ–ရေး။
သမေတိ အသတာ အသံ–တွင် အသံ–ကား သိ–နှောင်း၊အသန္တ–
ဝယ် န္တ–ကို အံ–ရေး။ဂစ္ဆံ့ မဟံ–သို့။အသာ လောကိတ္ထိယော
နာမ–ဟူရာ၌ အသာ–ကား အာ–နှင့် ယော့နှောင်း၊အသန္တ–
ဝယ် န္တ–ကို အာ–ရေး။အာ–နောင် ယော–ကျေ။ထို့ကြောင့်
အဋ္ဌကထာ အသာ–ကို အသတိယော–ဖွင့်၏။(ဇာ၊ ၄၊ ၁။
၃၀၆)။ဘာသကရီ ကား ဘောဂဝတိ–သို့ အသန္တ–ကို အသတိ–
ရေး၊အသတိ–ကို ယော–နှောင်း အသာ–ရေးသည်ဟူ၏[၂]။

---

၁။ နီတိ၊ဓာတု။၂၅၈။သုတ္တ။၉၃၁–တို့ကြည့်။
၂။ နီတိ၊ပဒ။၂၃၁–၂။၂၃၄–၅–တို့ကြည့်။

နှာ-၁၂၇၊၁၂၈

ဗာဟိရ သဒ္ဒါကျမ်းတွင် ဒါရ-ပုဒ် ဗဟုဝုစ်သာ ဟူ၏။ သာသနာတော်၌ကား-

ပရဒါရံ ဝိဝဇ္ဇေယျ၊ ပရဒါရံ န ဂစ္ဆေယျ၊

သဒါရေ ပသုတော သိယာ၊ ဓမ္မေန ဒါရံ ပေါသေန္တိ-

ဟု များစွာ ရှိ၏[၁]။

နှာ-၁၃၀

ရတ္တိဒိဝေါ စ သော ဒိဗျော၊မာနုသိ သရဒေါသတံ-၌ သရဒေါသတံ-၌ သရဒါနံ သတံ သရဒသတံ-ရှိတန်လျက် ပရောသတံ-ကဲ့သို့ဩ-အာဂုံ လာသည် ဟူလို၏။သရဒ-ပုဒ်ကား သံဝစ္ဆရပရိယာယ်။

"ဝဿသံဝစ္ဆရာ နိတ္ထီ၊သရဒေါ ဟာယနောသမာ"။-

ဟူ၍ ငါးပုဒ်ကို သံဝစ္ဆရပရိယာယ်-ဟူ၏။ အဘိဓာန်(ဂ၁)။

တနေ့နှင့် တည၌အခါကိုရတ္တိ-ဟူ၍သာ ဆိုသည်လည်းရှိ၏။ ဒိဝသ ဆိုသည်လည်းရှိ၏။ရတ္တိဒိဝ-ဟု ဆိုသည်လည်း ရှိ၏။

"ယာနိ ပညာသဝဿာနိ၊
မနုဿာနံ သ ပိဏ္ဍိတော။
ဧကော ရတ္တိဒိဝေါ တေန၊
မာသေကော တိံသရတ္တိယော"-(ပရမတ္ထဝိနိစ္ဆယ။

၂၁၀)-၌တိံသရတ္တိယော မာသော-ကိုရှု။

---

၁။ နီတိ၊ပဒ။၁၃၁-၂-ဘို့ကြည့်။

"ယံ မနုဿံ ဝဿာသတံ၊
တဒေကော ဒိဝသော ကတော။
တေန သံဝစ္ဆရေနာယု၊
တာဝတိံသေသု ဒေသိတံ" − (ဂုင်း။ ၂၁၃)−၌
ဧကော ဒိဝသော-ကို ရှု။ရတ္တိဒိဝေါ စ သော ဒိဗျော-၌ကား
ရတ္တိဒိဝေါ-ကို ရှု။

နှာ−၁၄၄

သုတ္တာန ဂါထာ တဝ ဘာသိတာ ဣသေါတံ့ နေ့သိ
သရဏံ ဣသေ-၌ ဣသေ-ကား "တုမှေဟိ ဖြဟေ့ ပကတော,
(ဇာ၊ ၂။ ၃၃၆)ဥဋ္ဌေဟိ ကတ္တေ တရမာနော,(ဇာ၊ ၂။ ၃၁၅)၊
ပဋိဂ္ဂဟာဏ မဟာမုနေ¹။ကျပါဠိတို့၌ ဖြဟေ့, ကတ္တေ, မုနေ-ပုဒ်တို့
ကဲ့သို့အာလုပ်ပုဒ်တည်း။ဖြဟေ့−အစရှိသော အာလုပ်ပုဒ်တို့တွင်
မုနေ−ပုဒ်သော်ကား အာလပနလည်းရှိ၏။ ဆဋ္ဌျန္တလည်းရှိ၏။

"ယဿတ္ထိ သုဂတေ သဒ္ဓါ၊
ယော ဝါ ပိယော မဟာမုနေ။
ဗုဒ္ဓမာတုဿ သက္ကာရံ၊
ကရောန္တု သုဂတောရသာ"။(အပ၊ ၂။ ၂၁၉)
"သုတ္ဝာ ဗျာကရဏံ သေဋ္ဌံ၊
သုမေဓဿ မဟာမုနေ"။(အပ၊ ၂။ ၆၉)

၁။ အပ၊ ၁။ ၁၇၂−၌ မဟာမုနိ−ဟု ရှိသည်။ သို့သော်
နီတိ၊ ပဒ။ ၂၄၄−ကြည့်ဦး။

ဤပါဠိတို့၌ မုနေ-ပုဒ်ကား အာလုပ် မဟုတ်၊ ဆင့်ပွါးတည်း။ ယခုဆောင်သော ပါဠိ၌ မာတုသ-ကား ဂါထာဆန်းအားဖြင့် ရှိသည်။ဋီကာလိုင်၌ နာ-အစရှိသော ဝိဘတ်ငါးလုံးတို့သည် အတိုင်းပင် မရှိရာ။မှာဘိမို-မရှိရာ သို့မြူ-ဇ မရှိရာ-ဟူသော်လည်း အပုဂ္ဂကအားဖြင့် ဂါထာပုဒ်ဖြစ်မှုကား ရှိပါ၏။

"ကုသာဝတိမှိ နဂရေ၊
ရာဇာ အာသိ မဟီပတိ"။(အပ၊၂။၃၇၇)
"ဟီနဇစ္စောပိ စေ ဟောတိ၊
ဥဋ္ဌာတာ ဓိတိမာ နရော။
အာစာရသီလသမ္ပန္နော၊
နိသေ အဂ္ဂိဝ ဘာသတိ"။ (ဇာ၊၁။၃၂၇)

"ဂစ္ဆေ သုရိန္ဒပရိဘောဂသုဂန္ဓတောယေ"( )ဤပုဒ်တို့ကို ရှု။

နာရဒဇာတ် ပြီး၏။

---

၁။ နီတိ၊ သုတ္တ။ ၄၃၁။ ၄၃၃-တို့ကြည့်။

H 669—8 [ဟံသာဝတီ] ·

# ဝိဓုရဇာတ်

နှာ-၁၅၇

ဝိဓုရဇာတ်၌-

အရာဝ နတ္ထာ သုသမာဟိတာဝ-၌ နတ္ထာ-ကိုနာဘိယာ-ဟူ။ နတ္ထော-ရှိသည်ကား ပုဒ်ပျက်တည်း၊ ဤမာ စ နတ္ထော သတရာဇ်စိတ္တတာ-ဟူသို။ နာဘိယော-ကို နတ္ထော-ဟူသည်။ ထို့ကြောင့် နတ္ထော-မရှိကောင်း။

## နှာ-၁၆၁

ဝိဓုရဿ ဟာဒယံ ဓနိယတိ-၌ ဓန ဣစ္ဆာယံ-ဟုဖွင့်။

## နှာ-၁၆၂

ကေ ဂန္ဓဗ္ဗေ-စသောပုဒ်တို့၌ကား သိ-ကို ဧ-ရေး။ "ဝနပ္ပဂုမ္ဗေ ယထာ ဖုဿိတဂ္ဂေ"-သို။

"ဂိတာသာရေန ဥပကာဓိုယ နေတ္တရသို၊
ဗန္ဓံ ကရိဝ ဝိဝသည္ဆ ကရဂ္ဂယောန။
ယာ တာဒိသေပိ ဝိနိယောဇယိ ဒုက္ကရေ မံ၊
သေရန္တိ အဓိဂတာ ဝိဓိနာ မယဥ္စ"။

(အလင်္ကာ ဋီကာသစ်၊ ၃၅၇-ဂါထာဖွင့်)။ ဤသို့လာသော ကဝိဝစန-၌ သေရန္ဓတီ-ပုဒ်ရှိရကား ဇ္ဈရန္ဓတီ-လျှင် ရှိလိုရာအံ့ သတည်း။ ဤရန္ဓတီ-ကား ပုဒ်ပျက် ၁။

ဂါထာ နက်ကား-ဂီတသဿရေန၊ သီချင်းသံဖြင့်။ ဥပကာစိုယ၊ အနီးသို့ ဆောင်၍။ ဝိဝသဋ္ဌ၊ အလိုမပါသော။ ကရိ ဝ၊ ဆင်ပြောင်ကိုကဲ့သို့။ နေတ္တရသ္မိဗန္ဓံ၊ မျက်စိ တည်းဟူသော ကြိုးဖြင့် ချည်အပ်သော၂။ မံ၊ ငါ့ကို။ ကရဂ္ဂဟေန၊ လက်၌ ကိုင်သော အားဖြင့်။ ယာ၊ အကြင် သတို့သမီးသည်ကား။ တာဒိသေ ဒုက္ကရေပိ၊ ထိုသို့ ပြုခဲစွာသော အမှု၌လည်း။ ဝိနိယောဇယိ၊ တိုက်တွန်း၏။ သာ ဇ္ဈရန္ဓတီ၊ ထိုသို့သော ဇ္ဈရန္ဓတီမည်သော နဂါးသမီးကို။ အဇ္ဇ၊ ယခုသော အခါ၌။ မယာ၊ ငါသည်။ ဝိမိနာ၊ အစီရင်ဖြင့်၃။ အဓိဂတာ၊ ရအပ်ပြီ။

---

၁။ ဤရန္ဓတီကား (မြ)။ ကမ္ဘာအေး-မှု အလင်္ကာဋီကာသစ်၌ သေရန္ဓတီပင် ရှိ။ ဆဋ္ဌမှု ဇာ၊ ၂-နှင့် ဇာ၊ ၄။ ၇-၌ကား ဇ္ဈရန္ဓတီ-ဟု ရှိသည်။

၂။ ချုပ်အပ်သော။ (မြ)

၃။ ဂီတသဿရေန ဥပကာစိုယ နေတ္တရသ္မိဗန္ဓံ ကရဂ္ဂဟေန ဝိဝသဋ္ဌ ကရိံ ဝ ဂီတသဿရေန ဥပကာစိုယ နေတ္တရသ္မိဗန္ဓံ ကရဂ္ဂဟေန ဝိဝသဋ္ဌ မံ ယာ တာဒိသေပိ ဒုက္ကရေ ဝိနိယောဇယိ၊ သာ ဇ္ဈရန္ဓတီ မယာ အဇ္ဇ ဝိမိနာ အဓိဂတာ။ အလင်္ကာဋီသစ်၌ ဤအစဉ်အတိုင်း အနက်ပေး၍ ဝိမိနာကို ဘာဂျေန-ဟု ဖွင့်သည်။ ညောင်တုန်း စံကျောင်း အလင်္ကာနိဿျ၌လည်း ကြည့်လေ။

နှာ-၁၇၀

မသက္ကသာရံ ဝိယ ဝါသဝဿ-၌ ဝသု+ဩကသာရံ-ခွဲ။ ဩ-ကို အာ-ရေး။ ဥ-ကို ချေ။ က-ဒွေဘော်၊ ဝ-ကို မ-ပြု။ မသက္ကသာရံ တိရတာနုဂ္ဂဟံ။ ဘာသကရိ။

နှာ-၁၇၁

အဝေ့တ္ထ ယဏ္ဍော အဝိကမ္ပမာနော-၌ အဝေ့တ္ထ-ကား အာ-ပုဗ္ဗ ဝေ့-ဓာတ်၊ ဝေ့ သာရမ္ဘကရဏေ-ဖွင့်။

"သုတ္တတန္တိံ သုမဝုရံ၊ ရာမဏောယျံ အဝဒိယံ၊

သောမံ ရင်္ဂမှိ အဝေ့တိ၊သရဏံ မေ ဟောဟိကောသိယ"။

(ဇာ၊ ၁။ ၆၇)-၌ အဝေ့တိ-သို့၊ထိုအဝေ့တိ-ကို သဃဋ္ဋေ-ဖွင့်။ "အနုနနာမေဝ ဣတိ မ ဝှယန္တိ"- (ဇာ၊ ၂။ ၂၇၁)၌လည်း မံ အဝှယန္တိ-ဟုခွဲ၍ အဝှယန္တိ-ကို အာ-ပုဗ္ဗ ဝေ့ အဝှါယနေ-ဟုဖွင့်။

နှာ-၁၇၃

ယေ တံ ဇိနန္တော ဟရေ အက္ခုတ္တော-၌ ယေ-ကား နိ-ကို ဧ-ပြု။ ထို့ကြောင့် ယေ-ကို ယာနိ-ဖွင့်၏။ ယာ ပုဗ္ဗေ ပေါဓိသတ္တာနံ-တွင် ယာ-ကား နိ-ကို အာ-ရေးသည် ဟူ၏။ ကစ္စည်းကား နိ-ကျေ။

နှာ-၁၇၇

နဇ္ဇာယော သုပ္ပတိတ္ထာယော-ကို ရှု၍ ကစ္စည်း၌ နဒီသဒ္ဒါ- အစိတ်ကို ယော နှောင်း ဇ္ဇာ-ရေးသည် မမြဲ။

---

၁။ နီတိ၊ ပဒ။ ၃၆၂-ကြည့်။

နှာ-၁၇၉

ကောဋီသတိ ပိင်္ဂလာ- ဟူအပ်လျက် ဆပိင်္ဂလာ ပန္နရသ- ဟူသည်ကား ဝေနေယျဇ္ဈာသယ အလိုသို့ လိုက်၍ မိဿက သင်္ချာအားဖြင့် ဆိုသည်။ ကေနဝုတိ-ဆိုအပ်သော အရာ၌ "အသီတိ ဒသ ကော စ"ဟူသို့။

ဒသေတ္တ ကာလိယော ဆစ္စ-ကိုလည်း သောဠသ ကာလိယော တွေ့-ဟု မဟောလေသည်ကား နည်းတူ။

နှာ-၁၈၁

ပါသကေသု အာယာ နာမ-၌ "ပါသကံ ဝုစ္စတိ ဆသု ပဿေသု ကောကံ ယာဝ ဆက္ကံ ဒဿေတွာ ကတံ ကိဋ္ဋနကံ၊ တံ ဝဒ္ဒေတွာ ယထာလဒ္ဓံ ကေကာဒိဝသေန သာရိယော အပနေန္တာ ဥပနေန္တာ စ ကိဋ္ဌန္တိ"။ ဋီကာပါရာဇိကဏ်(သာရတ္ထ၊ ၂။ ၃၇၃)။

နှာ-၁၈၂

"သဗ္ဗာ နဒီ ဝင်္ကနဒီ၊
သဗ္ဗေ ကဋ္ဌမယံ ဝနံ။
သဗ္ဗိတ္ထိယော ကရေ ပါပံ၊
လဘမာနာ နိဝါတကံ"။-

ဟူ၍ ဋီကာ ခန္ဓဝဂ်သံယုတ် ဆောင်၏။ ဋီကာဆောင်တိုင်း ပြင်ရာ၏။

၁။ ပေ ၂-စောင်လုံး၌ ကေကယာစဝဂ္ဂ-ဟု ရှိသည်။

## နှာ-၁၈၃

စာဟူသမျှကား အဇေသိ ယကွောနုရဝိရိယသေ့ဌ-ဟု ရှိ၏။ သဒ္ဒနီတိ(သုတ္တ။ ၁၀၆၇)-ကား "အဇေသိ ယကွော နုရဝိရ သေဋ္ဌံ"-ဟု ဆောင်၏။ ဂါထာဆန်းကို လိုက်မူကား သဒ္ဒနီတိ ဆောင်သည် သင့်နိုး၏။

## နှာ-၁၈၆

အာမာ ယဒါ သာပိ-၌"အာမ အဟံ ဒါသီတိ ပဋိဇာ နာတီတိ အာမာ။ ယတ္ထ ဒါသော အာမဇာတော"။ (ဇာ၊ ၁။ ၁၀)ကိုရှု။

## နှာ-၁၈၈

ဝန္တု-ပစ္စည်းကား အ, အာ, ဣ, ဤ, ဥ-အန္တ ငါးလုံးနောင် သက်ရာ၏။ မန္တု-ပစ္စည်းကား ဣ, ဤ, ဥ-အန္တ သုံးလုံးနောင် သက်ရာ၏။ ဣမန္တု-ပစ္စည်းကား အ, ဣ-အန္တနှစ်လုံးနောင်သက် ရာ၏ ဟူရကား တံ တတ္ထ ဂတိမာ ဌိတိမာ၊မတိမာ အတ္ထဒဿီ မာ။ သင်္ခါတာ သမ္ဗမ္မွာနံ-၌ အတ္ထဒဿီမာ-ကား ဤ-နောင် မန္တု။ ဂတိမာ-စသည်ကား မန္တု, ဣမန္တု- နှစ်ပါး ဆံ၏။ "သောစတိ ပုတ္တေဟိ ပုတ္တိမာ" (သုတ္တနိ။ ၂၈၄) "စန္ဒိမာ သရဏံ ဂတော" (သံ၊ ၁။ ၄၈)တို့၌ကား ဣမန္တု။ "ခတ္တိ ယော ဇာတိသမ္ပန္နော၊ အာဘိဇာတော ယသဿိဝါ"-၌ ဤ နောင် ဝန္တု[၁]။

၁။ နီတိ၊ သုတ္တ။ ၇၉၂-ကြည့်။ ဆဋ္ဌမူ ဇာ၊၁။၂၉၀-၌ ကား ယသဿိမာ-ဟု ရှိသည်။

သူရတော သခိလော မုဒု-၌"သောဘဏော ကာယိက၀ါစ သိကကမ္မေ ရတောတိ သူရတော၊ ဥကာရဿ ဒီဃံ ကတွာ"။ ဋီကာအင်္ဂုတ္တိုရ် (အံ၊ ဋီ၊ ၂။ ၃၀၉။ ဒီ၊ ဋီ၊ ၂။ ၂၈)။

နှာ-၁၉၁

ပါဝေကွဲ အန္တေပုရံ-၌ ဝိသ-ဓာတ်ကို ဤ-နှောင်းသော် ဝေကွ-ရေး။

နှာ-၁၉၅

ထေယျော ရာဇ၀သတိံ-၌ ဘောန္တော အယျော-အတူ။ အယျော-သဒ္ဒါကား အာလုပ်တည်းဖြစ်မူကား ဧကဝုစ်, ဗဟုဝုစ် နှစ်ပါး ရှိရာ၏။ ကတ္တားတည်းဖြစ်မူကား ဧကဝုစ်သာ။

နှာ-၁၉၆

သဗ္ဗာနိ အဘိသမ္ဘောန္တော-ကို ကရောန္တော-ဟု ဖွင့်၏။ ကရောန္တောကိုကား နိပ္ဖါဒေန္တော-ဟူလိုသည်ဟု သဒ္ဒနီတိ(ဓာ။ ၉၄)။

နှာ-၁၉၇

အာကပ္ပံ သရကုတ္တိံဝါ-၌ ကရ-ကို ကု-ပြု။ တ္တိ-ပစ္စည်း။ ကရဏံ ကုတ္တိ၊ သရဿ ကုတ္တိ သရကုတ္တိ-ဟူ၏။

ဘာဝံ ကုဗ္ဗေထ ပဏ္ဍိတော-၌ ဘာဝံ-ကို အဇ္ဈာသယံ-ဟူ၏။ "ထိနံ ဘာဝေါ ဒုရာဇာနော" (ဇာ၊ ၁။ ၁၅)ဟူသို့။

နှာ-၂၀၀

ပတိဿတိ ဂုရုနော အာဏံ သမ္ပတိစ္ဆတီတိ ပတိဿော။

---

၁။ ဆဋ္ဌမူ၌ အစိပ္ပါယံ-ဟု ရှိသည်။

နှာ-၂၀၂

ကုမ္ဘမှို ပဋ္ဌလိံ ကုရိယာ-ကို ကုမ္ဘမ္ပိပိ+အဋ္ဌလိံ ကုရိယာ-ဟု ခွဲ။ကုမ္ဘံပိ ပဋ္ဌလိံ ကရိယာ-ကား ပုဒ်ပျက်။ **သဒ္ဒနီတိ**(ဓာ။ ၂၄၃)။

နှာ-၂၀၃

အာရာမယေတိ ရာဇာနံ၊ ပူဇံ လဘတိ ဘတ္တုသု-၌ ရာဇာနံ-ကား အံ-ကို အာနံ-ရေးသည်မဟုတ်၊ ရာဇူနံ-မှ ရုပ်ပြီး အထူး။ စတုတ္ထီ နံ-ဝိဘတ်။ ထို့ကြောင့် အာရာမယေတိ-အယှဉ် သမ္ပဒါန်။ ဘတ္တုသု-ကား ဘတ္တာရေသု-မှရုပ်ထူးတည်း။ "မာတာပိတူသု ပဏ္ဍိတာ"-(အံ၊ ၁။ ၁၃၁။ ဋီကာဝုတ်။ ၂၆၉) ဟူသို့။

နှာ-၂၁၄

မာ စ ဝသံ အသတီနံ နိဂမေ-၌ အသတီ-ကား မဟာတီ-သို့ သန္တ-သဒ္ဒါ ဤ-ပစ္စည်း။ န သတီ အသတီ-ဟု ပြု။

နှာ-၂၃၅

"သဘာယဋ္ဌ သဘာ စာထ"- **အဘိဓာန်**(၂၁၀) ဟူရကား ဩရောပိယ မွေသဘာယ မဇ္ဈေ-၌ မွေသဘာယမဇ္ဈော-ကား သမာသ်သော်လည်း ဖြစ်ရာ၏။ ဝါကျသော်လည်း ဖြစ်ရာ၏။

"အာကာဆိုဝေ ကသတရာဇပုရက္ခတော ယော၊
မွေ့န အာသနမလံ ကုရုတေ ဇိနော၀။
သော အသာဝါလ မဝလမ္ဗိယ ဒါနိ နိတော၊
ယက္ခေန လောကတိလကော ကုရုတေ ကိမေကော"။
(**အလင်္ကာရဋီကာသစ်**၊ ၃၆၁-ဂါထာဖွင့်)။

ယော ဝိဓုရော၊အကြင် ဝိဓုရပညာရှိသည်။ဇိနေ၁ဝ၊ရှင်တော်ဘုရားကဲ့သို့။ ကေသတရာဇပုရက္ခတော၊ တရာတယောက်သော မင်းတို့သည် ခြံရံအပ်လျက်။ဓမ္မေန၊တရားစကားဖြင့်။အာသနံ၊ နေရာပွဲကို။ အလံကုရုတေ၊ တန်ဆာဆင်ပေကတ်၏။ လောကတိလကော၊လူတကာတို့ မှန်ကူသဘွယ် ဖြစ်ထသော။ သော၊ ထိုဝိဓုရပညာရှိသည်။ယဒက္ခန၊ပုဏ္ဏကဘီလူးသည်။အာကဆိုတော၊ ငင်ရှာလေလျက်။နီတော၊ ဆောင်အပ်လေသည်ဖြစ်၍။ ဒါနိ၊ ယခုအခါ၌။ အဿဝ ါလံ၊ မြင်းမြီးကို။အဝလမ္ဗိယ၊ ဆွဲလျက်။ ကော၊ တယောက်အထီးတည်း။ကိံ၊ အဘယ်အမှုကို။ကုရုတေ၊ ပြုတတ်အားလေသနည်း။

"ယက္ခာ မစ္စကရက်ကက်နဓရော ယေ နိမ္မိတာ ပုဏ္ဏကေ–
နုတ္တံသိကတပါဏိပလ္လဝရော ဟာရိကတန္တော၁ရဂါ။
လိတ္တာ လောဟိတကုက်မေဟိ ဝိဓုရေနေတေ ပိဝန္တာ ဝသာ–
မင်္ဂ သိသကပါလပါတိဟို၊ပုရေ ဓုတ္တာ ဝိယောပေက္ခိတာ"။
အလင်္ကာရဋီကာသစ်၊ ၃၆၅–ဂါထာ ဖွင့်)။

ပုဏ္ဏကေန၊ပုဏ္ဏကဘီလူးသည်။ နိမ္မိတာ၊ဖန်ဆင်း၍ ဖြစ်ကုန်ထသော။ ယေယက္ခာ၊အကြင် ဘီလူးတို့သည်ကား။ မစ္စက–ရက်ကက်နဓရော၊လူ၏ လက်ရိုးတည်းဟူသော လက်ကောက်တန်ဆာကိုလည်း ဆင်ကုန်၏။ဥတ္တံသိကတပါဏိပလ္လဝဓရော၊ဦးထိပ်ပန်းကဲ့သို့ ပြုအပ်သော လူတို့လက်ဝါးတည်းဟူသော ပန်းညွန့်ကိုလည်း ဆင်ကုန်၏။ဟာရိကတန္တော၁ရဂါ၊ပုလဲသွယ်ကဲ့သို့ ပြုအပ်သော လူတို့၏ အူတည်းဟူသော မြွေခွေကိုလည်း ဆောင်

ကုန်၏။ လောဟိတကုင်္ကုမေဟိ၊လူတို့၏ အသွေးတည်းဟူသော မာလာကျိကြူ နှံ့သာရည်တို့ဖြင့်လည်း။လိတ္တာ၊လိမ်းကျံကုန်၏။ ဝသာမဇ္ဇံ၊လူတို့၏ အဆီတည်းဟူသောသေရည်ကိုလည်း။ သီသကပါလပါတိဟိ၊လူတို့၏ဦးကျွောင်းခွံတည်းဟူသော သေခွက်တို့ဖြင့်။ ပုခရမျက်မှောက်၌။ ပိဝန္တာ၊သောက်ကုန်၏။ တေ၊ ထိုဘီလူးတို့ကိုသော်လည်း။ ဝိဓုရေန၊ဝိဓုရပညာရှိသည်။ ဓုတ္တာဝိယ၊ပြည့်၌ သေသောက်ကြူးတို့ကဲ့သို့။ ဥပေက္ခိတာ၊လျစ်လျူရှုလေသလျှင်ကဘည်း။

"ဓေ္တသု ကေသရိကရိသ္မိ ဝေဌယန္တေ၊
နာဂေ နင်္ဂံ မဒဂဇေ ဝိယ ဝေဠုဂုမ္ဗံ။
ယက္ခေ ဝိစာလယတိ နောစလိ ဤသကမ္ပိ၊
သန္တိံ ဂတော ဝိဓုရော မဓုရာပိ ဘာဝါ"။
(အလင်္ကာရဋီကာသစ်၊၃၆၇-ဂါထာဖွင့်)။

ကေသရိကရိသု၊ ပုဏ္ဏကဘီလူး ဖန်ဆင်းအပ်သော ကေသရာခြင်္သေ့မင်း ဆင်ပြောင်တို့သည်။ ဓေ္တသုပိ၊ လာလတ်ကုန်သော်လည်းကောင်း။ နာဂေ၊ နဂါးကြီးသည်။ဝေဌယန္တေ၊ ကိုယ်တော်အလုံးကို ရစ်ပတ်လတ်သော်ငှင်း။ မဒဂဇေ၊ မုံယစ်သော တောဆင်သည်။ ဝေဠုဂုမ္ဗံ ဝိယ၊ ဝါးခြုံကြီးကို လှုပ်ဘိသကဲ့သို့။ ယက္ခေ၊ ပုဏ္ဏကဘီလူးသည်။ နင်္ဂံ၊ကာလာဂိရိတောင် အလုံးကို။ ဝိစာလယတိ၊ လှုပ်လှည့်ဖြားသော်လည်း။ ဝိဓုရော၊ ဝိဓုရပညာရှိသည်ကား။ သန္တိံ ဂတော၊ ငြိမ်သက်စွာ စျာန်သမာပတ်ချမ်းသာသို့ ရောက်သကဲ့သို့။ မဓုရာ ဘာဝါပိ၊

ကြပတေ့ ကောင်းသော သဘောအားဖြင့်လည်း။ ဤသ-
ကမ္ပိ၊စိုးစဉ်းငယ်မျှလည်း။နေသာ စလိ၊မတုန်လှုပ်သလျှင်ကတည်း။

"သ ပုဏ္ဏကောနာဟဋ္ဌနေကာတိ သနေ-
ဿဟော နဋ္ဌနေဝ သုနိစ္စလောစလာ။
နိပါတိတော တေန အဝံသိရော ပတံ၊
အသန္တသံ တံ မိနိ ဒိဋ္ဌိယဋ္ဌိယာ"။
(အလင်္ကာဋီကာသစ်။ ၃၆၆-ဂါထာဖွင့်)။

သော၊ထို ဝိဓုရပညာရှိသည်ကား။ နဋ္ဌနေဝ၊ အထူးထူးပြု
သော မျက်လှည့်သည်ကဲ့သို့။ ပုဏ္ဏကေန၊ ပုဏ္ဏကဘီလူးသည်။
အာဟဋ္ဌနေကာတိ သနေသု၊ ဖန်ဆင်း၍ဖြစ်သော များစွာသော
ကြောက်ဖွယ်တို့၌။ သုနိစ္စလော၊ လှုပ်မစောက် မတုန်မလှုပ်
ဖြစ်လျက်။ တေန၊ ထိုပုဏ္ဏကဘီလူးသည်လည်းကောင်းလျှင်။
အစလာ၊ ကာလာဂိရိတောင်ထိပ်မှ။ နိပါတိတော၊ ချလိုက်
သည်ဖြစ်၍။အဝံသိရော၊ ဥက္ကောင်း စောက်ထိုး။ပတံ ပတန္တော၊
ကျလျက်။ အသန္တသံ အသန္တသန္တော၊ မထိတ်မလန့်။ တံ၊
ထိုကာလာဂိရိတောင်ကို။ ဒိဋ္ဌိယဋ္ဌိယာ၊ မျက်စိတည်းဟူသော
ဝါးလှင်ကန်ဖြင့်။ မိနိ၊ချင့်တွက်နိုင်လေ၏။ အဟော၊သြအံ့ဘွယ်
သရဲလျှင် ဖြစ်စွတကား။

ဤဂါထာတို့ကား ကဝိဝစန-တို့တည်း။

ဝိဓုရဇာတ်ပြီး၏။

---

# ဝေဿန္တရာဇာတ်

## နှာ-၂၄၂

ဝေဿန္တရာဇာတ်၌-

“စတုဒ္ဒီပေါ မဟာမေဃော၊
တာဝဒေဝ ပဝဿထ။
တဒါ ဟိ ဇာတကံ ဗုဒ္ဓေါ၊
ဝေဿန္တရ မဒေသယိ”။-

ဟု အပဒါန်ပါဠိ (အပ၊ ၁။ ၁၆၂) ရှိရကား မဟာမေဃော ဥဒ္ဒေသ-ဟိတွာ-၌ မဟာမေဃော ဟူသည်ကား လေးကျွန်းလုံးရွာသော မိုးတည်း။

## နှာ-၂၄၄

ဝရဝဏ္ဏာဘော-ကား ကညေ-သို့ ဃ-နောင် ဧ-ပြု။

## နှာ-၂၄၅

ပုတ္တံ လဘေထ-ကို လဘေယျံ-ဟု ပဌမပုရိသ်ကို ဥတ္တမပုရိသ် ပြန်။

စိတြဂ္ဂဏ္ဍေရုဃုသိ တော-၌၊ စိတြ+အဂ္ဂဏ္ဍ+ဉရုဃုသိတော-ခွဲ။ ဉ-ကို ဧ-ရေး။ နဏ္ဍော ရာဇာ ဇနေသဘော၊ ရထေသဘော-

တို့နှင့် အတူတူဟု ဘာသာကရိ ဆို၏။ ရထဿုဗ္ဗာဟနေ ဉဿ ဘော ဝိယ ရဇ္ဇုရဿ ဥဗ္ဗာဟနေ သမတ္ထောတိ ရထေသဘော၊ ရထ+ဥသဘော-ဟု ခွဲလိုသည်။ ရထိ+ဥသဘော-ဟု ခွဲ၍ လုတ္တောသဒ္ဒါအစွမ်း နောက် ကျေ၍ ရှေး ဧသဝဏ် ရောက်၏-ဟူသည်နှင့် မတူကြ။

တတ္ထ အဿံ မဟေသိယာ—ဟုစာဟူသမျှ ရှိ၏။ တတ္ထဿံ မဟေသိယာ-လိုသည်[၁]။ ဤအဿံ-ကား အသ-ဓာတ်ကို ယျော မိ-နှင့် အကွ ရေးသည်။ နှစ်ပါးစုံ-သဒ္ဒနီတိ။ (နီတိ၊သုတ္တ။ ၃၅၊ ၉၉၉။)

စာပေါ်, စာပံ-ဟု ပုံလိင်, နပုံလိင် ရှိကောင်း၏။ ဤ၌ "စာပံဝ လိင်္ခိတံ သမံ"။ ဝိဓုရ၌ "စာပေါဠူနုဒရော အဿ" (ဇာ၊၌၊၇။၁၉၉)။ အဘိဓာန်လည်း "ဤဿာသော ဓနု

---

၁။ ဆဋ္ဌမူ၌ တတ္ထဿံ မဟေသိ ပိယာ—ဟု ရှိသည်။ "တတ္ထ အဿံ မဟေသိယာ"–(သီ၊သျာ၊ဣ) ဟု မူကွဲပြသည်။နီတိ၊ သုတ္တ။၉၉၉–၌လည်း သီ–သျာ–ဣ–တို့နှင့် အတူ ရှိသည်။ အဋ္ဌကထာ၌ ပိယာ—၏ အနက်အဖွင့်ကို မတွေ့ရ၊သိယာ လည်း ဤ၌ မလျော်။ထို့ကြောင့် "တတ္ထ အဿံ မဟေ သိယာ"—ပင် ပါဌ်ဟောင်းဖြစ်ရာသည်။ နီတိ။သုတ္တမာလာ နိဿယ၌လည်း "မဟေသိယာ၊မိဘုရားသည်"—ဟု အနက် ပေးသည်။"ပုပ္ဖဝတီ, ပုပ္ဖဝတိယာ၊ ပါစိတ္တိ, ပါစိတ္တိယ"—တို့ ကဲ့သို့ မှတ်သင့်၏။

ကောဒဏ္ဍံ၊ စာပေါ နိတ္ထိ သရာသနံ” (၃၈၈)ဟူ၏။ ဣတ္ထိ လိင်ကား မရှိကောင်း။

နှာ-၂၄၈

ကရေတ္တိ ပုရံ ပဒက္ခိဏံ ကုရုမာနေ-ဟူ၏။ ဝေဿန္တရာ၌ “တေန ဝုတ္တံ” ဟူ၍ဆောင်သော ဂါထာကား စရိယာပိဋက ပါဠိတည်း (၃၉၂)။ထို့ကြောင့် ထိုပါဠိ၌ ရှိတိုင်းဆိုလိုသည်။ ပုရံ ပဒက္ခိဏံ-လိုလျက် ဂါထာဆန်းအားဖြင့် နိဂ္ဂဟိတ်ကျေ၍ ပုရ ပဒက္ခိဏံ-သာရှိသည်။

“ဇာတောမှိ ဝေဿဝီထိယံ၊တသ္မာ ဝေဿန္တရော အဟံ”-ဟု စာဟူသမျှရှိ၏။ စရိယာပိဋက၌ “ဇာတေတ္ထ ဝေဿဝိသိခါယံ၊ တသ္မာ ဝေဿန္တရော အဟုံ”-ဟုရှိ၏။အဋ္ဌကထာလည်းဇာတေတ္ထ-ကို ဇာတော+ဧတ္ထ-ဟု ခွဲ၏။ ဇာတောမှိတိ ပါဠော-လည်း ဟူ၏။“တသ္မာဝေဿန္တရော အဟုန္တိ ယသ္မာ ဝေဿဝိသိခါယံ ဇာတော၊တသ္မာ ဝေဿန္တရော နာမ အဟောသိံ”-ဟုဖွင့်၏။ အဟုံ-ကို အဟောသိံ ဟူလိုသည်။ “အဟောသိံ နု ခေါ အဟမတီတမဒ္ဓါနံ”-၌ အဟောသိံ ကဲ့သို့။ အဟံ-ဟု ကတ္တား ဆောင်။ အဇ္ဇတနီဝိဘတ် ဥံ-ကို ဥ-ရေး။“ဥံ ဥ ကွစိ”-ဟု သဒ္ဒနီတိ(သုတ္တ။ ၁၀၅၄)၌ သုတ်အသီး တည်၏။

---

၁။ ဆဋ္ဌမူ စရိယာ၊ဋ္ဌ။၇၉-၌ တသ္မာ ဝေဿန္တရော အဟူတိ --- ဝေဿန္တရော နာမ အဟောသိ-ဟု ရှိသည်။

"အဟံ ကပိလဝတ္ထုသ္မိံ၊
သာကိယာနံ ပုရုတ္တမေ။
သုဒ္ဓေါဒနဿ ပုတ္တာဿ၊
ကဏ္ဍကော သဟဇော အဟုံ"။ (ဝိမာန။၁၁၀)
"အဟံ ကေဝဋ္ဋဂါမသ္မိံ၊
အဟုံ ကေဝဋ္ဋဒါရကော"။ (အပ၊၁။၃၄၉။)ဟူသို့။

နှာ-၂၅၀

ဟဒယံ စက္ခုမဟံဒဇ္ဇံ ဌ္ဌ[1] ဒဇ္ဇံ-ကား ဒါ-ဓာတ်ကို ဒဇ္ဇ-ရေး သည်။သုတ်ကြီးဖြင့် ယျော၊မိ-ကို အံ-ရေးသည်။"ယဒိ ကောစိ ယာစကော မမံ"-ဟု မလို၊"ယဒိ ကောစိ ယာစယေ မမံ"-ဟု လိုသည်။

အသဏ္ဍိတံ-ကို သင်္ကော၁စရဟိတံ-ဖွင့်၏။ (စရိယဋ္ဌ။ ၈၁)

သိနေရုဝနဋ္ဌံသကာ-ဟု မလို၊ သိနေရုဝနဝဋ္ဋံသကာ-ဟု လိုသည်။ သိနေရုမှိ ဥဒ္ဒိတံ ဝနံ သိနေရုဝနံ။ ဝန-ဟူသော် နန္ဒနဝန-စသည်ဟု ယူ၏။ သိနေရုဝနံ ဝဋံသကံ တေဿာတိ သိနေရုဝနဝဋံသကာ။ တေဿာ ပထဝိယာ၊ ၏။ သိနေရုဝနံ၊

---

၁။ ဆဋ္ဌမူ စရိယာပိဋကာ၊၃၉၂။ ၎င်းဋ္ဌ။၈၀။ဇာ။ဋ္ဌ၊၇။၂၅၀တို့၌ ဟဒယံ ဒဒေယျံ စက္ခုံ-ဟုရှိသည်။ဇာ၊၂။၃၁၆။ လာလတ္တံ့. ဇာ၊ဋ္ဌ၊၇။ ၅၂၈-တို့၌သာ ဟဒယံစက္ခုမ္ပဟံ ဒဇ္ဇံ-ဟုတွေ့ ရသည်။

မြင်းမိုရ်၌ ပေါက်သော တောသည်။ ဝဠ္ဍသကာံ၊ ဦးထိပ်ပန်းတည်း။ ဣတိ၊ ကြောင့်။ သိနေရုဝနဝဋ္ဍံသကာ၊ မြင်းမိုရ်၌ ပေါက်သော တောဟူသော ဦးထိပ်ပန်းရှိသည်။ မြေကြီးဥကျောင်းကား မြင်းမိုရ်၊ မြင်းမိုရ်၌ ရောက်သော တောဥယျာဉ်သည်ကား ဦးထိပ်ပန်းမည်သတည်း။ တနည်းတုံ–သိနေရု ၀ ဝနံ ၀ သိနေရုဝနံ။ ဤ၌ ဝန-ဟူသော် ဇမ္ဗုဒိပ်ကျွန်းစသည်၌ တောဥယျာဉ်ကို ယူအပ်၏။ ရှေးနည်းနှင့် အတူပြု၊ မြေရခစ။ ဤနည်းနှစ်ပါးကို စရိယာပိဋကအဋ္ဌကထာ (၈၁) ဆို၏။

"ဥတ္တံသော သေခရာ ဝေဠ္ဍာ၊ မုဒ္ဓမာလျေ ဝဋ္ဍံသကော"။ အဘိဓာန်(၃၀၈) ဥဒ္ဓံ ကသိယတေ အလံကရိယတေတိ အဝဋ္ဍံသော။ အဝ–ရှေးရှိသော တသိ-ဓာတ်။ တသိ အလံကာရေ–ဟုဖွင့်။ အဝ–သဒ္ဒါ ဥဒ္ဓံ-ဟော။ က–ပစ္စည်းသွတ္တ။ ဤကဲ့သို့ အဘိဓာန်ဋီကာ(၃၀၈) ဆိုရကား အဝဋ္ဍံသက–သဒ္ဒါသည် နိရုတ္တိနည်းလောပဝိကာရအားဖြင့် အ–ကျေသည်။ ဒန္တဇ တ-သည်မုဒ္ဓဇ ဋ္ဌ–ပြန်၍ ဝဋ္ဍံသကရှိသည်- ဟူလို၏။ ဤသို့မှ သည်စရိယာပိဋက(ဋ္ဌ။ ၈၁)၌ တံ ဝဋ္ဍံသကံ ဝေဠာတိ သိနေရုဝနဝဋ္ဍံသကာ–ဟူသည်နှင့်, ဤ၌ "တယော ဝဋ္ဍံသကာ"-ဟူလတ်သည်နှင့် အဘိဓာန်ဋီကာဆိုသော ဝိဂ္ဂဟ်, ဓာတ်, ရုပ်နှင့်လျော်အံ့သတည်း။ အဘိဓာန်ဋီကာ ဆိုဟန်သော် အဝဋ္ဍံသက-ပုဒ် လောပဝိကာရကိုလည်း မဆိုတုံ။ စာဟူသမျှကား ဝဋ္ဍံသက–ရှိဘိတုံ၏။ ထို့ကြောင့် နိရုတ္တိနည်းဖြင့် ဖြေ။

နှာ-၂၅၁

ဩပဂုယှံ-မလို၊ ဩပဝယှံ-လိုသည်။ "ဩပဝယှော ရာဇဝယှော"-ဟု အဘိဓာန်(၃၆၆)။

နှာ-၂၅၄

သိဝိယော-မလို၊ အကာဘရဿ ဈ-ဖြစ်ရကား ရှိရှိသမျှ သိဝယော-သာ လိုသည်။

ဟတ္ထိနံ ဒဇ္ဇာ အံပြီး နံပြီး ရှိရကား ကတရဿ ဈ-ဖြစ်၍ ဟတ္ထိသဒ္ဒါ ဤကာရန္တ။ ဝနေ ဟတ္ထိနော စရန္တိ၊ ဟံသာ ကောဉ္စာ မယူရာ စ၊ ဟတ္ထယော ပသဒါ မိဂါ-၌ ဟတ္ထိသဒ္ဒါ ဣကာရန္တ°။

နာဂံ ရဋ္ဌဿ ပူဇိတံ-ကား ပူဇာ-သဒ္ဒါအယှဉ် ဆဋ္ဌီကတ္တား။ ဂါမဿ ဝါ ပူဇိတံ-ကို "ပူဇာဝစနပ္ပယောဂေ ကတ္တရိ သာမိဝစနဿာပိ ဣစ္ဆိတတ္တာ"-ဟု တေရသကဏ္ဍဋီကာ(သာရတ္ထ၊ ၂။ ၃၄၂)။

ဂဇံ ဘာဇေတိ-၌ ဘာဇ-ဓာတ်။ ဘာဇ ဒါနေ-ဖွင့်။ (နီတိ၊ ဓာ။ ၂၉၆)။

နှာ-၂၅၆

ဥဋ္ဌေဟိ ကတ္တေ-ကား ဖြဟ္မ-သို့ အာလုပ် သိ-ကို ဧ-ပြု။ ကစ္စည်းကား ဖြဟ္မ-နောင်သာ။

"ကပ္ပံ တိဋ္ဌ မဟာမုနေ၊ ပုတ္တော ဥပ္ပဇ္ဇတံ ဣသေ။
အင်္ဂါရိနော ဒါနိ ဒုမာ၊ ဘဒ္ဒန္တေ ဥဋ္ဌေဟိ ကတ္တေ"-ဟု

၁။ နီတိ၊ ပဒ။ ၂၅၉-ကြည့်။

ပါဠိရှိဘိရကား "ဗြဟ္မမုနာဒိတော ၉ ၀၊"–ဟု သုတ်အသီး (၂၇၇) သဒ္ဒနီတိ တည်ဆို၏။

သ ကတ္တာ တရမာနော၀–ဟု စာဟူသမျှ ရှိ၏။ အက္ခရာ ရှစ်လုံး မပြည့်သော အရာကိုတမူကား သ ကတ္တာ တရမာနော–ဟု အက္ခရာခုနစ်လုံးသာ သဒ္ဒနီတိ( )ဆောင်၏။ ဥဒကေ သော–ဝယ် ကေသ–နှောင်း ဥဒကကို ဥဒ–ပြု။ ပမတ္တံ ဥဒ ဟာရိကံ–သို့။

တတ္ထဒ္ဒသံ ကုမာရံ သော–၌သား, သမီးမြင်ပြီးသော မင်းကို ကုမာရံ–ဟူသည်ကား မိဘရှိသေး၍ ဆိုတော်မူသည်။ ကုမာရ ကဿပေါ–ဟူသည်ကား တွင်စ၍ခေါ်သတည်း။ န ၀ါယံ ကုမာရကော မတ္တမညာသိ– ဟူသည်ကား အကျွမ်းဝင်၍ ဆိုသည်–ဟု သဒ္ဒနီတိ(ဓာ။၇၀၁)ဆို၏။ဖွား၍ ခုနစ်ရက်က–သည် တဆဲ့ငါးနှစ်တိုင်ရုံကား ကုမာရက, ဗာလမည်၏။ထိုမှ နှစ်ဆယ်တိုင်ရုံကား ယုဝါမည်၏–ဟုဥဒါန်းအဋ္ဌကထာ(၂၆၇) ဆိုသည်ကား အမြဲမဟုတ်။ မိန်းမကား ရှစ်နှစ် ဒါရိကာ, ဆယ်နှစ် ကညာ, တဆဲ့နှစ်နှစ်ကား ကုမာရိကာ, မအိုသေး သရွေ့ကား ယုဝတီ, တရုဏီ,မာဏဝိကာ–မည်၏။ အိုပြီးကား ထေရီ,မဟလ္လိကာ–မည်၏။ ယောကျာ်းသော်တုံ ရှစ်နှစ် ဒါရက။ "ယဒါပဟံ ဒါရကော ဟောမိ၊ ဇာတိယာ အဋ္ဌဝဿိကော"–ကို ရှု။ တဆဲ့နှစ်နှစ် ကုမာရ,မအိုသေးသရွေ့ ယုဝါ,တရုဏ, မာဏဝ။ အိုပြီး ထေရ, မဟလ္လက။ ဤသို့ သဒ္ဒနီတိ (ဓာ။ ၉၆) မှတ်သည်လည်း မမြဲ။ "ရာဇာ ကုမာရံ အာဒါယ၊

ရာဇပုတ္တီ စ ဒါရိကံ”– (ဇာ၊ ဠ၊ ၇။ ၂၀၃) ၌ ဒါရိကံ နှင့် “အစ္ဆိုံ ကဏှာဇိနံ ကညံ၊ ဟတ္ထိနာဒိသတေန စ ံ”–ဝယ် ကည်–နှင့် အတူတူ။ ရာဇကညံ ရာဇာ နာမ ², သိဝိကညာ သမာဂတာ (ဇာ၊ ၂။၃၂၂) ဤနှစ်ပါး၌ ဆယ်နှစ်ကိုသာ ကညာ-မဟူအပ်။

“အဋ္ဌဝဿာ ဘဝေ ဂေါရီ၊
ဒသဝဿာ တု ကညကာ။
သမ္ပတ္တေ ဒွါဒသေ ဝဿေ၊
ကုမာရီတိ ဘိဓိယတေ။
အာ သောဠသာ ဘဝေ ဗာလော၊
ရှဏော တု တတော ဘဝေ။
ဝုဒ္ဓေါ တု သတ္တတာယုမှာ၊
တိံကီ ဝယာနိ လက္ခယေ”။–

ဟု အဘိဓာန်ဋီကာ(၂၃၁၊ ၂၅၃) ဆောင်သော ဂါထာ၌ ဂေါရီ-နှင့် ဒါရိကာ-အတူ။ ကုမာရီ-နှင့် ကုမာရိကာ-အတူ။ ဤ၌ အာ သောဠသာ ဘဝေ ဗာလော-၌ သဒ္ဒနီတိ၌ တဆဲ့နှစ်နှစ် ကုမာရ-ဟူသည်နှင့် ဥဒါန်းအဋ္ဌကထာ တဆဲ့ငါးနှစ်

---

၁။ ဇာ၊ ၂။ ၃၆၀။ ဇာ၊ ဠ၊ ၇။၃၆၅-၌ “အထ ကဏှာဇိနံ ကညံ၊ ဟတ္ထိနာ စ သတေန စ”–ဟုရှိ၍ အဋ္ဌ(သီ၊ဿျာ၊ က)ဟတ္ထိအာဒိသတေန စ(ဿျာ)၊ ဟတ္ထိနာဒိသတေန စ (က)ဟု မူကွဲ ပြသည်။

၂။ ရာဇကညာ ရုစာ (ရုဇာ၊သီ၊ဣ)နာမ။ (ဇာ၊၂။၂၆၂)?

ကုမာရ,ဗာလ-ဟူသည်နှင့် ဤသုံးပါးမညီကြ။ဥဒါန်းအဋ္ဌကထာ အနှစ်နှစ်ဆယ် ယုဝါ-ဟူသည်နှင့် သဒ္ဒနီတိ တဆဲ့နှစ်နှစ် ယုဝါ, တရုဏ-ဟူသည်နှင့် တရုဏော တု တတော ဘဝေ-နှင့်လည်း မညီကြ။ အလိုရှိရာ မှတ်။

## နှာ-၂၅၇

တတ္ထ အဿာသယန္တု မံ-၌ ကတ္တား၌ အဓိပ္ပါယ်သည် ခဲ၏။ တတ္ထ၊ ထိုမကောင်းသော သတင်းစကားကို ကြားခြင်း ၌။ ဝတ္တုံ၊ ဆိုအံ့သောငှာ။ အဝိသဟန္တဝသေန၊ မဝံ့သဖြင့်။ ကိလမန္တံ၊သော။ မံ၊ကို။ဒေဝဿ၊၏။ ပါဒါ၊ခြေတော်တို့သည်။ အဿာသယန္တု၊ တည်း။ ဤသို့ ကတ္တား ပါဒါ-ဟု ပ... သေသ-ဟူ၏။ အဓိပ္ပါယ်ကား မကြောက်မရွံ့ နှစ်လုံးလွတ်၍ ဆိုကာမူ-ဟု အကျွန်ုပ်ကိုမိန့်တော်မူပါ-ဟူလိုသတည်း။

ကိသ္မိံမေ သိဝယောကုဒ္ဒါ-၌ သ္မိံ-နှောင်း ကိံသဒ္ဒါ နိဂ္ဂဟိတ်-ကျေသတည်း။ ကိဿ ဠမေ ပုနေကော၊ ကိဿ သုစိဏ္ဏဿ-တို့ဝယ်သော်ကား သ-နှောင်း ကိံသဒ္ဒါ နိဂ္ဂဟိတ်-ကျေ။"ကိံသဒ္ဒဿ နိဂ္ဂဟိတလောပေါ သ္မိံ သေသု"-(၄၉၈) ဟု သဒ္ဒနီတိ သုတ်အသီးတည်၏။ ကစ္စည်းကားသုတ်ကြီးသ၁။

## နှာ-၂၆၀

အညံ ဘတ္တာရံ ပရိယေသ၊ မာ ကိသိတ္ထော မယာ ဝိနာ-လိုသည်။ မာ ကိသိတ္ထ-မလို၊ ပရောက္ခာ အတ္တနောပုဒ် တုမှ ယောဂ တ္ထော-ဝိဘတ်၊ တွံ-ဟု ကတ္တား။

---

၁။ နီတိ၊ သုတ္တ။ ၇၉၀-ကြည့်။

နှာ-၂၆၁

အဘုံ မေ ကထံ န ဘဏာသိ-တွင် အဘုံ-နှင့် မေ-ကား ပုဒ်အသီးတည်း။ န ဘူတပုဗ္ဗာ အဘူ၊ န ဘူတာ ဝါ အဘူ။ ကထာ-ရ၏။ အဘုံ၊ မဆိုဘူးမြဲ သော။ ကထံ၊ ကို။ မေ မမ၊ အား။ ဘဏာသိ န။ သဒ္ဒနီတိ (ပဒ။ ၂၇၃)။ "အဘုံ မေတိ မေ အဝစံ-ဟု ဋီကာအဂ်ုတ္တိုရ်ကြီး (အံ၊ ဋီ၊ ၁။ ၂၀၈) ဖွင့်တုံရကား အဘုံ၊ စီးပွားကင်းသော။ ကထံ၊ စကား-ဟူ၍ သော်လည်း ပေး။ "အဘုံ မေတိ ဘူတိ ဝစံ၊ အဘူတိ အဝစံ၊ ဝိနာသော မယှန္တိ အတ္တော"-ဟု အင်္ဂုကထာမဏ္ဍုမ ပဏ္ဏာသ လေဠုကိကောပမသုတ် (မ၊ ဋ္ဌ၊ ၃။ ၁၁၅)။

ယဋ္ဌေ ဇီဝေ တယာ ဝိနာ-၌ ယဋ္ဌေ-ကို ပဋိသေဓ-အနက်ရှိသော နိပါတ်-ဟု သဒ္ဒနီတိ (သုတ္တ၊ နှာ။ ၃၉၀) ဆို၏။ ယဋ္ဌေ ဗာလာနုကမ္ပကော၊ ယဋ္ဌေ ပုတ္တော အနဿဝါ-တို့နှင့် အတူဟု ဆောင်၏။ တယာ ဝိနာ ဇီဝေ ဇီဝေယျံ၊ အံ့။ တံ ဇီဝိတံ၊ သည်ကား။ ယဋ္ဌေ သေယျော န သေယျော-ဟု အနက်ပေး။

တယာ သဒ္ဓိံ ယံ မရဏံ ဝါ အတ္ထိ။ တယာ ဝိနာ ယံ ဇီဝိတံ ဝါ အတ္ထိ။ တေသု မရဏဇီဝိတေသု တယာ သဒ္ဓိံ ယံ မရဏံ အတ္ထိ။ တဒေဝ မရဏံ သေယျော-ဟု ရှေး ပုဒ်ကို သမ္ဗန်။ ယော ယသော အပ္ပဗုဒ္ဓိန်-ဤပါဠိကို ရှုသော် တမူကား တယာ ဝိနာ စေ ယဒိ ယံ ဇီဝေ၊ အံ့။ တံ ဇီဝိတံ န သေယျော-ဟု ပဋိသေဓ-အသီး ဆောင်၍သော်လည်း

ပေးပါ၊ ကောင်း၏။ အကယ်၍ ယော ယသော–၌ ယော–ကို ယစ္ဆေ–နှင့် အတူ ပဋိဒသော ကြံမှုကား မပေးကောင်း။ ယော–သည် နိပါတ်မဟုတ်သောကြောင့် ထိုသို့လည်း မကြံရာ။ မရဏံ–နှင့် ဇီဝိတံ–ကို ရှု၍ သေယျံ–ဟု မရှိသည်ကား သေယျသဒ္ဒါ လိင်သုံးပါလုံး ဩကာရန္တ နေသည်များသတည်း။

"ယသော စ အပ္ပဗုဒ္ဓိနံ၊
ဝိညူနံ အယသော စ ယော။
အယသောဝ သေယျော ဝိညူနံ၊
ယော ယသော အပ္ပဗုဒ္ဓိနံ[၁]။
ဒုမ္မေဓေဟိတိ ပသံသာ စ၊
ဝိညူဟိ ဂရဟာ စ ယာ။
ဂရဟာဝ သေယျော ဝိညူဟိ၊
ယစ္ဆေ ဗာလပ္ပသံသနာ။
ဇီဝိတဉ္စ အဓမ္မေန၊
ဓမ္မေန မရဏဉ္စ ယံ။
မရဏံ ဓမ္မိကံ သေယျော၊
ယစ္ဆေ ဇီဝေ အဓမ္မိကံ"။–

ပုံလိင်၊ ဣတ္ထိလိင်၊ နပုံလိင် ထေရာပါဠိ (နှာ။ ၃၁၅-၆)။ အနက်ကား ယခင်–မှရဏံ ဝါ တယာ သဒ္ဒိ–စသည်၌ နည်းတူ ယူ၍ သမွန်။

၁။ ဆဋ္ဌမူဦးဇွဲဝင်း၊ နီတိ၊ ပဒ ပါဠိနိဿယတို့၌ရင်း "န ယသော အပ္ပဗုဒ္ဓိနံ"–ဟု ရှိ၏။

"ဣတ္ထိပိ ဟိ ဧကစ္စိယာ၊ သေယျာ ပေါသ ဇနာဓိပ။
မေဓာဝိနီ သီလဝတီ၊ သဿုဒေဝါ ပတိဗ္ဗတာ။
တာဒိသံ သုဘဂိယာ ပုတ္တော၊ ရဇ္ဇမ္ပိ အနုသာသတိ"။—

ဤသဂါထာဝဂ္ဂ သံယုတ်ပါဠိ(၈၆)၌ သေယျာ—ဟု ဣတ္ထိလိင် အာကာရန္တ ရှိပါ၏။ အပ္ပကမျှသာတည်း။ ဤသို့ဖြစ်၍ ဉာသ်၌ ယံ သေ ယျံ ဇိနေရိတနယေန—ဟု နပုံရှိသော ပုဒ်ကို ယော သေယျော—ဟု ပြန်။

ဇယန္တံ ဂိရိဒုဂ္ဂေသု—၌ ဇယန္တံ—မလို၊ ဇေဿန္တံ—ဟု လိုသည်။ ဇေသု—ဓာတ်။ ဇေသု ဂတိယံ—ဖော်။ သဒ္ဒနီတိ(ဓာ။ ၁၇၁)။

ယထာ အာရညကံ နာဂံ၊ ဒန္တိံ အန္ဝေတိ ဟတ္ထိနီ—၌ အန္ဝေတိ-ကို အနု+ဣတိ-ဟု ခွဲမှ အနုဂမန—အနက်ကို ဟော တတ်သည်။ နောက် အနုဂစ္ဆာမိ—နှင့်လည်း ညီသည်။ အနု+ ဧတိ-ခွဲမူကား ဂမနကို မဟော၊ အာဂမနကိုသာ ဟောလေ ရာသတည်း။ "အယံ သော သာရထိ ဧတိ"-သက်သေ။ ဣ— ဓာတ်တည်း၍ ဣ ဂတိယံ—ဟု ဖွင့်သော် ဓာတ်ကား ဝုဒ္ဓိရောက် လေခဲ့က အာဂမနကိုသာ ဟော၏။ ဂမနကို မဟောရာ။ ဂမနကို ဟောသည်ကား ဣရိယာပုထ်နှင့် စပ်သော်မှတုံ မစပ်သော်လည်း ဟောပါတတ်၏ လည်းကောင်း။ "အတ္တ မေန္တမ္ပိ သူရိယေ၊ ဝါဠ္ဝာ ပန္တေ ဥပဋ္ဌဟုံ"—၌ အတ္တံ ပစ္ဆိမပဗ္ဗတံ၊ သို့။ ဧန္တမ္ပိ၊ ရောက်လေပြီးသော်—ဟု ပေးရကား ဂမနကိုဟော၏။

ဤနည်းကို ယူ၍ "ယသ္မာ ဒပေတိ"-ဝယ်လည်း အပေတိ- ကို အပ+ဣတိ-ခွဲမှ အပဂမနကို ဟောရာသတည်း။ အပ+

ဓော်-မခွဲလို။ "စိတ္တာပေတုက္ခရာ သော သော ၊ဝေတိ ဝေ-တာဿ တဿတု"-( )၌လည်း ဝေတိ-ကို ဝိ+ဓော်-မခွဲလို၊ ဝိ+ဣတိ-ခွဲမှ ဂမနကို ဟောရာသတည်း။ "တတော နံ ဒုက္ခ မန္ဝေတိ"-၌လည်း ဤအတူ။ အနု+ဣတိ, အပ+ဣတိ, ဝိ+ဣတိ-ဟု ဥပသာရနှင့် အကူသာလျှင် ကြိယာပုဒ် ဣတိ-ဟု ရှိသည်မဟုတ်၊ အသီးလည်း ရှိ၏။ "ဣတာယံ ကောဓရူပေန"-ဟူသော အင်္ဂုတ္တိုရ်ပါဠိ (အံ၊ ၁။ ၄၇၂)၌ ဣတာယံ-ကို ဣတိ+အယံ-ခွဲ၍ ဣတိ-ကြိယာပုဒ်ဟု သဒ္ဒနီတိ (ဓာ။ ၂) ဆို၏။

သျာဒျန္တ,တျာဒျန္တ-ပုဒ် ဤနှစ်ပါးတွင် တုဒနွေပြင်ရသော အာချာတ်ပုဒ်ကံ၌ ဆင်္ခြိသက်၏ ဟု သဒ္ဒတ္ထဘေဒစိန္တာ၌"တျာဒျန္တသ တု ကမ္မတ္တေ၊ ဆဠီ ဘဝတိကေဒါ"¹-ဟူ၏။ န ရဇ္ဇသိ သရိဿသိ-ကိုလည်း အာဂုံဆောင်၏။ ထို့ကြောင့် ရဇ္ဇဿ-ကား န သရိဿသိ-ဝယ် ဆင်္ခြိကံ။ ဏတ္တား-ကား ပဿန္တော-ဟု ပုံလိုင်ကို ရှု၍ တွံ-ဟု ထည့်။ အဟံ၊ သည်။ န သရိဿသိ န သရိဿာမိ-ဟု ပုရိသ်ပြန် မဟုတ်။

## နှာ-၂၆၂

ယဒါ ဒက္ခသိ-တွင် ဿတိ-ဝိဘတ် ကျေ။ ဒက္ခိဿသိ-ဟု ဖွင့်၍ ပေး။ သဒ္ဒနီတိ (သုတ္တ။ ၁၀၃၉)။ ဒက္ခသိ-ကို ဒက္ခိဿသိ-ဟူသော် ဿ-သာ မကျေ၊ ဣ-လည်း ကျေသည်-မည်၏။

---

၁။ ဘေဒစိန္တာ ၃၆၇၊ ၃၆၈-ဂါထာများ ကြည့်။

နှာ-၂၆၃

"မောရော မယူရော ဝရိဟိ"-ဟု အဘိဓာန်(၆၃၄) ရှိရကား ဝရိဟိနံ မတ္တကာသိနံ-ဝယ် ဝရိဟိနံ-ကား ကတရဿ ချ-နှောင် အံ-ကို နံ။ "ယံ ပဿေ ဝဇ္ဇဒဿိနံ"- သို့။ သိခဏ္ဍိနံ-လည်း ဤအတူ။ မတ္တကေ အာသီနော မတ္တကာသီ နော-ဟု ပြု။ "မူဂေါဝ တုဏှိမာသီနော"-(ဇာ၊ ဌ၊ ၆။ ၅၅)သို့ အာသိန-သဒ္ဒါ နိသိန္နပရိယာယ်။ မောရံ ဒက္ခိသိ-ဝယ် မယူရကို မောရ-ရေး။

ပဒ္ဒါနိ-ရှပ်ပြီးကို တေမိဆိုပြီး။

နှာ-၂၆၆

ခါရိကာဇဉ္ဇ ဟာရိသိ-ဟု စာဟူသမျှ ရှိ၏။ ဟာရ အာဒေါ နေ။ "ခါရိကာဇဉ္ဇ ဟာရိတိ"-ဟု သဒ္ဒနီတိဆောင်၏^၁^။ ဒက္ခိတိ ဒက္ခိန္တိ-ဟူသို့ ဿတိ-ဝိဘတ်တွင် ဿ-ကျေ လည်းကောင်း တည်း။

ဝေယာဟိ ပရိယာယိတွာ-မလို။ ဝယှာဟိ လိုသည်။ "ယာနံ နာမ ရထော ဝယှံ၊ သိဝိကာ သန္ဒမာနိကာ"-ဟု ဝိနည်း ဥတ္တရသိဋ္ဌည်း-၌^၂^ ယာနင္ဂကထာ-ဝယ် ဆို၏။ ဝဟာ-

---

၁။ သဒ္ဒနီတိ ဓာတုမာလာ ပုံနှိပ်မူတို့၌ပင်း, ယင်းနိဿယ၌ပင်း ဟာဟိတိ-ဟု ရှိသည်။

၂။ ယင်းပါဠ်ကို ဝိနယ ဝိနိစ္ဆယ-၁၃-၌ တွေ့ရသည်။ယင်း၌ သိဝိကံ-အစား သကဋံ-ဟု ရှိသည်။ ဝိ၊၁။၆၀။၌လည်း သကဋံ-ပင် ရှိသည်။

ခါတ် ယ-ပစ္စည်း။ ဝိပရိယာယအားဖြင့် ဝဟာယသည် ဝယှ-ဟု ရှိသည်။

"ပါဒဂ္ဂံ ပပဒေါ ပါဒေါ၊တု ပဒေါ စရဏာဥ္စ ဝါ"-ဟု အဘိဓာန်လာရကား(၂၇၇) ပါဒ၊ စရဏတို့ကား ခြေဟော နှင်နှင်။ ယထာ အာရညကံ နာဂံ၊ဒန္တိံ အန္နေတိ-၌ နာဂံ, ဒန္တိံ-သို့၊ပရိယာယ်သဒ္ဒါ။

သုခေဓိတော-ကား သုခေန ဧဓိတော ဝဍ္ဎိတော သုခေဓိတော။ ဧဓ-ဓာတ်၊ ဧဓ-ဝုဒ္ဓိယံ-ဖွင့်။ ဂမ္ဘီရေ ဂါဓမေဓတိ-၌ကား ဧဓ လာဘေ-ဟု ဖွင့်။

သိဝါယ-ကား၊ မြေခွေးဟော ဤတ္ထိလိင်။ "ဟရေ သိဝေါ သိဝံ ဘဒ္ဒ-မောက္ခေသု ဇမ္ဗုကေ သိဝါ"-ဟု အဘိဓာန် (၈၉၄)။

## နှာ-၂၆၇

ယာသု ဤန္ဒသဂေါတ္တာသု၊ ဥလူကာသု ပဝသတော-၌ ဤန္ဒသဂေါတ္တံ ဤန္ဒဂေါတ္တံ။ ဤန္ဒဂေါတ္တေန သမာနံ ဂေါတ္တံ ဧတေ သာတံ ဤန္ဒသဂေါတ္တာ။ ဤန္ဒဂေါတ္တသမာနဂေါတ္တာ-ဟု ရှိတန်လျက် သမာနကို သ-ရေးသည်။ဂေါတ္တ-တခု ကျေသည်။ ဤဥ္စသော သမာန-ကို သ-ရေးသည် မဟုတ်။ သိင်္ဂနိဂြေန သမာနော ဝဏ္ဏော အဿာတိ သိင်္ဂနိက္ခသဝဏ္ဏော။ ဟရိနာ သမာနော ဝဏ္ဏော အဿာတိ ဟရိဿဝဏ္ဏော။ဤသို့ သမာန-ကို သ-ရေးသည့် အရာ။ သိင်္ဂနိက္ခသဝဏ္ဏော၊ ရာဇဂဟံ ပါဝိသိ

ဘဂဝါ ဟုရှိသောဝဏ္ဏော ပထဝိပ္ပဘာသော-ဟု ပါဠိရှိ၏။ "နာဂကာသိ သတ္တုဝစနံ၊ဗုဒ္ဓဿာဒိစ္စဗန္ဓုနော"-၌ အာဒိစ္စဿ ဗန္ဓု အာဒိစ္စဗန္ဓု။သမာနော အာဒိစ္စဗန္ဓုနာ ဗန္ဓု တေဿာတိ သာဒိစ္စဗန္ဓု။ ဗုဒ္ဓေါ စ သော သာဒိစ္စဗန္ဓု စာတိ ဗုဒ္ဓဿာဒိစ္စ ဗန္ဓု။ဤကဲ့သို့ သ-ဒ္ဒဘော်ရှိသကဲ့သို့ ဣန္ဒသဂေါတ္တော-ဟူ၍ သော်လည်း သ-ဒ္ဒဘော်နှင့် ရှိကောင်း၏။ဤကား သဒ္ဒါအစီအရင်၊ အနက်တုံ ခင်ပုတ်ငှက်ကို သိကြားအမျိုးနှင့် တူသော အမျိုးရှိ၏-ဟူသည် အဘယ်ဟုလိုသနည်း။ ကောသိယ-သဒ္ဒါ သိကြားကိုလည်းဟော,ခင်ပုတ်ငှက်ကိုလည်းဟော, နှစ်ပါးဟော ဘိရကား သိကြားလည်း ကောသိယမျိုး,၊ခင်ပုတ်လည်း ကောသိယမျိုးမည်သတည်း။ဤသို့ ကောသိယအမျိုးအားဖြင့် သိကြား အမျိုးနှင့် ခင်ပုတ်အမျိုး တူသတည်း။

အဓိပ္ပါယ်ကား ကောသိယဿ-ဟူ၍သာ ဆိုအပ်သော အရာ၌ ဣန္ဒသ ဂေါတ္တဿ-ဟု သဒ္ဒါအလှယ်အားဖြင့် ဟော တော်မူလေသတည်း။ဝါရဏဝှယနာဂရက္ခာဟူသည် ပါဠိကို နာဂ ရက္ခာ-ဟူ၍သာ ဆိုလိုလျက် ပါဒမပြည့်ခဲ့၍ ပါဒဖြည့်ကာ အက္ခရာ တပါးနှင့် ဆိုဘူး၏[၁]။ထို့ကြောင့် ဣန္ဒသ-ဂေါတ္တဿ၊ကောသိယ မျိုး ဖြစ်ထသော-ဟုသာ အနက်ပေးလိုသည်။ ဒေဝါနံ-ပိယတိဿော-ကို မဟာရာဇာ မရုပ္ပိယော-ဟု မဟာဝင်(၁၇။၁၁)၊သာရိပုတ္တံ-ကို "ဂရုံ မေ သာရိသမ္ဘဝံ"-ဟု ဋီကာငယ်

၁။ နီတိ၊သုတ္တ။၇၄၅-ကြည့်။
၂။ နီတိ၊သုတ္တ။နှာ-၄၀၉-ကြည့်။

(ဋီကာကျော်၊ နီဂုံး)၊ သာရိပုတ္တသ–ကို သာရိတနုဇသ–ဟု ဒါဌာဓာတုဝံသ (၄၁၂–ဂါထာ)၌သို့ အလှယ်အားဖြင့် ဆိုသည် မရှား။ သမာန–သဒ္ဒါကို သ–ရေးသည်ကား ကစ္စည်းကား သုတ်ကြီးသာ၊ သဒ္ဒနီတိကား "ကွစိ သမာနဿ သော" (၇၄၅)ဟု လက္ခဏာအသီးတည်၏။

## နှာ–၂၆၉

အဇ္ဈေဋ္ဌံ-ကား ဆိဒ–ဓာတ် ဋ္ဌဇ–ရေးသည်။ အဇ္ဈဇ္ဇ ကမ်-ကို ရှု။[၁]

"အထ ဝဿဝရော ဝုတ္တော၊ ပဏ္ဍကော စ နပုံသကံ"-ဟု အဘိဓာန် (၂၄၂)ရှိ၏-ဆို၏။ ဝဿဝရာတိ ဥဒ္ဓတဗီဇာ-ဟု အဋ္ဌကထာ(၂၇၂)ဖွင့်ရကား ဥဒ္ဓတဗီဇ–လည်း ပဏ္ဍကလည်း ကောင်းမည်၏။ ထို့ကြောင့် ပဏ္ဍက ငါးပါး–ဟူ၏။

## နှာ–၂၇၁

သမ္မာ ရဋ္ဌာ–ဟု စာဟူသမျှ ရှိ၏။ သမ္မာ–မလို၊ သမှာ-လိုသည်။ သဿ အတ္တနော ဣဒံ သံ။တသ္မာ သမှာ။ အဋ္ဌကထာ၌လည်း "အတ္တနော ရဋ္ဌာ"–(၂၇၂)ဟူ၏။

---

၁။ ပေတခုဋ္ဌ် အဇ္ဈဇ္ဇံ–ကား ဆိဒ–ဓာတ် ဇ္ဈဇ္ဇ–ရေးသည်၊အဇ္ဈဇ္ဇ ကမ်-ကိုရှု-ဟု ရှိ၍မြ-၌အဇ္ဈဇ္ဇံ–ရေးထားသည်ကိုအဇ္ဈေဋ္ဌံ-ဟုရင်း, ဇ္ဈဇ္ဇ–ရေးသည်ကို ဇ္ဈေဋ္ဌ–ရေးသည်ဟုရင်းပြင်ထား၍ အဇ္ဈဇ္ဇ အင်္ဂ–ကိုရှု–ဟု ရှိသည်ကို အဇ္ဈေဋ္ဌ–ဟု ပြင်ထားသည်။နီတိ၊သုတ္တ။၁၀၉၈–ကြည့်ပါ။

## နှာ-၂၄၂

ဤ၌ကား-

“အထေတ္ထ ဝတ္တတိ သဒ္ဒေါ၊
တိမုလော ဘေရဝေါ မဟာ။
ဒါနေန တံ နီဟယန္တိ၊
ပုန ဒါနံ ဒဒါ တုဝံ”-ဟူ၏။

**စရိယာပိဋကပါဠိ**၌ကား-(၃၉၃) “ဒါနေနိမံ နီဟရန္တိ၊ ပုန ဒါနံ ဒဒါတယံ”[၁]-ဟု ရှိ၏။ တိမူလောတိ တုမူလော[၂]။ “ကောကောလာဟလဘူတော။ ဒါနေနိမန္တိ ဣမံ ဝေဿန္တရ-မဟာရာဇာနံ ဒါနေန ဟေတုနာ နီဟရန္တိ၊ ပုန ဒါနံ ဒေတိ”-ဟု ဖွင့်၏။ (စရိယာ။ဋ္ဌ။ဂ၆)။ ဤ၌ အဋ္ဌကထာဆိုဟန်နှင့် မညီ။ ဇာတကဘာဏကနှင့်မညီ၊ သုတ္တန္တဘာဏက-အလိုကွဲကြသတည်း။

## နှာ-၂၄၃

**အဃံ** တံ ပဋိသေဝိဿံ-၌ **အဃံ**-ကား ဒုက္ခံ။ တံ-ကို ရှု၍ ယံ-ဆော်။

---

၁။ ပေ-၂စောင်လုံး၌ ဒဒါ တုယံ့-ဟုချည်းရှိသည်။ ဆဋ္ဌမူ၌ ဒဒါတယံ-ဟုရှိ၍ စရိယာ၊ဋ္ဌ။ဂ၆။၌ “ပုန စ ဝေရှပံ ဒါနံ ဒေတိ အယံ”-ဟုဖွင့်သည်။ ထို့ကြောင့် ဒဒါတ-ယံဟု ပြင်လိုက်သည်။

၂။ ဆဋ္ဌမူ၌ တိမူလောတိ-မပါ။ တုမူလောတိ ကောကောလာ ဟလီဘူတော-စသည် ရှိသည်။

နှာ-၂၇၆

ဒုမဂ္ဂေသု ပ လ္လင်္ဂမေ-မလို၊ ပ္လဝင်္ဂတေ-လိုသည်။
"မက္ကဋ္ဌော ဝါနရော၊
သာခမိဂေါ ကပိ ဝလီမုခေါ။
ပ္လဝင်္ဂေါ ကဏှတုဏ္ဍော တု၊
ဂေါနင်္ဂုလောတိ သော မတော"။-
(ခာန်။ ၆၁၄)ဟူတုံ့ရကား ပ္လဝင်္ဂေါ, ပ္လဝင်္ဂတော-ဟု နှစ်ပါး ရှိသည်ဟု ဆို၏။ သဒ္ဒနီတိ(ဓာ။ ၁၅)၌ ဝက်တပဗ္ဗတော-ဝယ် ဝက်တကို နိမိတ်မဲ့ တ-အာဂုံကြံသကဲ့သို့ ပ္လဝင်္ဂတေ-ဝယ်လည်း တ-အာဂုံ ကြံပါလို၏။

သန္ဒိသိန္နေသု ပက္ခိသု၊သဏှတေဝ ဗြဟာရည်-၌ သန္ဒိသိန္နေ- သု-မလို၊ သန္ဒိသိဝေသု-လိုသည်။ သီဒ-ခာတ်တွင် ဒ-ကို ဝ- ပြုန်။ "ဝိဿမဝိနောဒနတ္ထံ သဗ္ဗသော နိသိန္နေသု"။ သဒ္ဒနီတိ (ဓာ။ ၉၆။ သုတ္တ။ ၁၀၂၊၁၂၁၄)။ ဝိဿမမာနေသု-ဟူလို သည်။

---

၁။ အဘိဓာန်၌ ပ္လဝင်္ဂမ;ပလဝင်္ဂ(ပ္လဝဂ်)-ဟု မျောက်ဟော ပရိယာယ်၌ လာသည်။ ဤကျမ်းဆရာသည် ပ္လဝင်္ဂတော (ဂါထာ-၆၁၃)-ဟု ပါဌ်ကို တွေ့ဟန်တူသည်။ ယခု တွေ့ရသော သီဟိုဠ်မြန်မာအဘိဓာန်စာမူတို့၌ "ပလဝင်္ဂေါ ကဏှတုဏ္ဍော"-ဟုရှိ၏။ ဤဆရာလက်ထက်က အဘိဓာ ၌ "ပ္လဝင်္ဂေါ ကဏှတုဏ္ဍော တု"-ဟုရှိသည်။ယင်းသည် သာ၍ကောင်းသည်။

**သဏာတေဝ-ကို သဏာဘိ+ဣဝ-ခွဲ။ ဖြဟာရည်၊ သည်။ သဏာတိ** ဣဝ၊မြည်သကဲ့သို့ဘည်း-ဟု ပေး။သဏာ အဗျတ္တသဒ္ဒေ-ဟု **သဒ္ဒနီတိ**(ဓာ။၆၁)။

"ယဒ္ဒူနကံ တံ သဏာတိ၊
ယံ ပူရံ သန္တမေဝ တံ။
အဍ္ဎကုမ္ဘူပမော ဗာလော၊
ရဟဒေါ ပူရောဝ ပဏ္ဍိတော"။-

သုတ္တနိပါတ်ပါဠိ(၃၉၀)သဏာတိ-ဟု ရှိ၏။ ယံ၊ အကြင်ဝတ္ထု သည်။ ဦနကံ၊ မပြည့်။တံ၊သည်။သဏာတိ၊ မြည်၏။ ယံ၊သည်။ ပူရံ၊ ပြည့်၏။ တံ၊ သည်ကား။ သန္တမေဝ၊ ဆိတ်သလျှင် ကတည်း။"သဏာန္တာ ယန္တိ ကုသုဗ္ဘာ၊ တုဏှီ ယန္တိ မဟောဒဓိ"-ဟူ၍ ရှိ၏။

နှာ-၂၄၄

သုက္ကစ္ဆဝိ ဝေဓဝေရာ-၌ ဝိဓဝ ါယ အတ္တိ...ာ ဝေဓဝေရော-ဟု ပြု။ အတ္တိက အနက်၌ ဏေရ-ပစ္စည်း-ဟု **သဒ္ဒနီတိ**(သုတ္တ။ ၄၅၉)။ **အ-ပစ္စည်း မဟုတ်။**

ဥလူကသေဝ-ဟု မလို၊ ဥလူကိသေဝ-လိုသည်။ လိင်တူ ဥပမာ-ဟု **သဒ္ဒနီတိ ဆို၏**။

---

၁။ နီတိ၊သုတ္တ။ နှာ-၄၀၅-ကြည့်ပါ။ ယင်း၌လည်း ဥလူက သေဝ-ဟုသာ ရှိနေ၏။ နိဿယ၌လည်း ဥလူကံ၊ ဇီကွက် ခင်ပုပ် ကုပ်သလုပ်ကို-ဟုပေးသည်။ ဤကျမ်းဆရာဆိုတိုင်း ဥလူကိသေဝ-ရှိမှ သဒ္ဒနီတိ အဆိုနှင့် ညီပါမည်။

နှာ-၂၈၀

ဖုဋ္ဌာ ခုံသေဟိ မကာသေဟိ-၌ ခုံသ-ကား မှက်၊ မကာသ-ကား ခြင်။ "သူစိမုခေါ တုမကာသော၊ ခုံသော ပိင်္ဂလမက္ခိကာ"။ အဘိဓာန် (၆၄၆)။ မသ ဟိံသာယံ။ မသတိတိ မသ-ကော-ဟူလိုလျက် မကာသော-ဟု ဝိပရိယာယ-ရှိလေသည်¹။

နှာ-၂၈၂

ဏ္ဍဿ် မဒ္ဒိ နီသာမေဟိ၊ ရမ္မရူပံဝ ဒိဿတိ-၌ နိ-ပုဗ္ဗ သမ အာလောကနေ-ဟု ဘော်။ "တတော ကဏ္ဍာဇိနာယာပိ၊ နိသာမေဟိ ရထေသဘ"-(ဇာ၊ ဌ။ ၇။ ၃၄၇)၌သော်ကား သမ သဝနေ-ဟု ဘော်။ "ဏ္ဍဿ် မဒ္ဒိ နီသာမေဟိ၊နိဂ္ဂြေါသော ယာဒိသော ဝနေ"- (ဇာ၊ ဌ၊ ၇။ ၃၇၂)-၌သော်ကား သမ ဝိတက္ကနေ-ဟု ဘော်။

တေ တံ အဿေ အယာစိတ္ထ-မလို၊ အယာစိသုံ-လိုသည်။ နိသီဒိံသု-ကဲ့သို့ အယာစိံသု-မရှိသည်ကား နောက်အက္ခရာသို့ နိဂ္ဂဟိတ် ပြောင်းလေသတည်း။ "ယထာဘူတံ ဝိပဿိသုံ"- စသည်လည်း ဤအတူ။ သဒ္ဒနီတိ (သုတ္တ။ ၁၆၈)။ ဤသို့သော အရာကို နိဂ္ဂဟိတာသက္ကန္တ-ဟူ၏။

နှာ-၂၈၃

ယဒိ ကောစိ မနုဇော တေ-ဟု မလို။ ယဒိ ကောစိ မနုဇေန္တိ။ စရိယာပိဋကပါဠိ²။ အဋ္ဌကထာ (၈၈)လည်း ဧန္တိ အာဂစ္ဆန္တိ-ဟူ၏။

---

၁။ နီတိ၊သုတ္တ။ ၁၅၄-ကြည့်ပါ။

၂။ ဆဋ္ဌမူ (၃၉၄)၌ ယေ ကေစိ မနုဇာ ဧန္တိ-ဟု ရှိသည်။

အနုမဂ္ဂေ ပဋိပထေ-၌ ဝါသဒ္ဒါ-ကျေ။ အနုမဂ္ဂေ ဝါ ပဋိပထေ ဝါ-လိုသည် ဟူ၏။ (စရိယာ။ ၄။ ၈၈)။

ဝင်္ကပဗ္ဗတောသာ မရှိ၊ ဝင်္ကတပဗ္ဗတော-ရှိသည်ကား နိမိတ်မဲ့ တ-အာဂုမ်၊ ဒေဝတာ-သို့ သဒ္ဒတ္ထ တာ-ပစ္စည်းသော်လည်းကြံ။ ပဗ္ဗ အဿ အတ္ထီတိ ပဗ္ဗတော-ဟူသို့ ဝင်္က သဏ္ဍာနမဿ အတ္ထီတိ ဝင်္ကတော-ဟူ၍သော်လည်း ကြံ။ သဒ္ဒနီတိ(မာ။ ၁၅)။ ကုဟိံ ဝင်္ကပဗ္ဗတော, ဒူရေ ဝင်္ကပဗ္ဗတော-ဟု စာတချို့ရှိသည်ကား ဤသဒ္ဒနီတိကို မရှု၍ ပြင်လေသည်။ စရိယာ ပိဋကပါဠိ၌လည်း "ကုဟိံ ဝင်္ကတပဗ္ဗတော၊ ဒူရေ ဝင်္ကတပဗ္ဗတော[၁]"-ဟူ၍သာ ရှိ၏။ "သမာသဂတနာမ မဇ္ဈေ ဝေ တော စ နိပတန္တိ ဌာနေ"-(၇၄၇)ဟု သုတ်အသီးတည်၍ "ဝုဋ္ဌိ ဝေ ပရမာ သရာ၊ ကုဟိံ ဝင်္ကတပဗ္ဗတော"-ဟု သဒ္ဒနီတိ ဆောင်၏။ ကလုနံ ပရိဒေဝယုံ-ဟု စာဟူသမျှ။ "ကလုဂိရ မုဒိရယုံ"-[၂]ဟု စရိယာပိဋကပါဠိ၊ ထိုပါဠိကိုသာ ဤ၌ ဆောင်သည်။

## နှာ-၂၈၄

ဖလိနေတိ ဖလဝန္တေ-ဟု စရိယာပိဋကအဋ္ဌကထာ(၈၈)ဖွင့်ရကား ဒါရကာ ဖလိတေ ဒုမေ-မလို၊ ဖလိနေ-လိုသည်။ ဖလံ

---

၁။ ဆဋ္ဌမူ (၃၉၄)၌ ဝင်္ကတ-ဟုရှိ၍ ဝင်္ကတ-ကို သီမူအဖြစ် မှတ်ပြုသည်။ နီတိနှင့် ဤကျမ်းတို့ကို ထောက်၍ ဝင်္ကတ-သာ မူဟောင်းဖြစ်ရာသည်။

၂။ ပေမူ ၂-စောင်လုံး၌ ကလုဂိရမုဒိရယုံ-ဟု ချည်း ရှိသည်။ ဆဋ္ဌမူ (၃၉၄)၌ ကလုနံဂိရမုဒိရယုံ-ဟုရှိသည်။ နီတိ၊ သုတ္တ။ ၉၂-၌လည်း ဆဋ္ဌမူနှင့် အတူပင် ရှိသည်။

**အသာ** အတ္တိတိ ဖလိ၊ဖလိ စ ဖလိ စ ဖလိနော။ တော ဖလိနေ-ဟူလိုသည်။ယော-နောင် ဤ-ကို ဋီကာ-ရေး။"စတ္တာရော စ မဟာရာဇေ၊ လောကပါလေ ယသဿိနေ"။ **ပေတဝတ္ထုပါဠိ** (၁၂၈)။"ဝေ ဇရာ စ မစ္စု စ၊အဓိဝတ္တန္တိ ပါဏိနေ"။**သံယုတ်ပါဠိ**(သံ၊၁။၁၀၂)။ဤအရာတို့၌ယသဿိနေ,ပါဏိနေ-တို့သည်လည်း ဖလိနေ-နှင့် အတူ။ဤ-ကို ဋီကာ-ရေးသည်ကား ယော-နောင်းသာ မဟုတ်သေး၊ သို့,သု-ဝိဘတ် နောင်းသော်လည်းရေး၏။"ဥပဟစ္စ မနံ မဇ္ဈော၊မာတင်္ဂသို့ ယသဿိနေ"။ ငါးရာပါဠိ(ဇာ၊၂။၆၁)။"သုသုခံ ဝတ ဇီဝါမ၊ဝေရိနေသု အဝေ-ရိနော"။ဓမ္မပဒ (၄၂)။ "နိမိနံဝ ပဝတ္တာရံ၊ယံ ပဿေ ဝဇ္ဇ ဒဿိနံ"- ဓမ္မပဒ (၂၄) ဟူသော ပါဠိဝယ်ကား"နံ စျတော ကာရသော"-ဖြင့် ပြီးကောင်း၏။ **သဒ္ဒနီတိ** ၌သော်ကား အံ-နောင်း ဋီကာ-ရေးသည်လည်းကောင်းဟူ၏။ "ဝဇ္ဇဒဿာဒိန မိနောအံယောသို့သူသု"-(၄၅၃) ဟူ၍လည်း လက္ခဏာ အာဒိ တည်၏။ **ကစ္စည်းကား** သုတ်ကြီးဖြင့် ပြီးစေ။

ဥဗ္ဗိဂ္ဂါ ဝိပုလာ ဒုမာ-ဟူ စာဟူသမျှ ရှိ၏။ဥဗ္ဗိဒ္ဓါ-ဟု **စရိယာပိဋကပါဠိ**(၃၉၄)။ **အဋ္ဌကထာလည်း** "ဥဗ္ဗိဒ္ဓါတိ ဥဒ္ဓံ ဥဂ္ဂတာ ဥစ္စာ"-(၈၈)ဟု ဖွင့်၏။ဥဗ္ဗေဓနှင့် ဥဗ္ဗိဒ္ဓါအတူတူ-ဟူလို၏။

နိက္ခန္တဒိဝသေယေဝ-ဟု စာတချို့ ရှိ၏။နိက္ခန္တဒိဝသေနေဝ-ရှိသည် သင့်၏။"ကောဟေနေဝ ပါယာသိ"-ဟူသို့တတိယန္တပုဒ်ကြိယာဝိသေသန။

"အသမ္ဘာရံသဘာဝတ္တာ၊
ကတ္တုနောန စ ကာရကံ။
ဘဝေ တေနေဝ တညုဟိ၊
တတိယန္တံပိ မန္ညတေ။
ဆဋ္ဌျန္တံ မပရေ မာဟု၊
ဝိသေသနသဘာဝတော။
ကောဟောနေဝ ပါယာသိ၊
ပါဒဿုက္ခိပန္တိ စ"။—

ဟု သဒ္ဒတ္ထဘေဒစိန္တာ (၃၁၀-၃၁၁) ဆို၏။ ပန်းတိုင်းချုပ်တော ကို ထွင်၍ ပြည်တည်သောကြောင့် မာတုလနဂရမည်သည် မှတ်၍ မာတုလနဂရံ - ကို မာတုလမည်သော ပြည်-ဟု သူတချို့ ဆိုစကုန်၏။ ထိုသို့သော အလိုသော်ကား "သဒ္ဓိရာဇသဟာယာနို၊ တဒါ ဝသန္တိ မာတုလာ"။ ဤစရိယာပိဋကပါဠိ (၃၉၄) ၌ မာတုလာ-ကို ပဉ္စာလော၊ မာဂဓော-ပုဒ်တို့နှင့် အတူဟူလိုသည်။ "ဥမ္မတ္တော တု စ မာတုလော"-ဟု အဘိဓာန် (၅၇၇) ပန်းတိုင်း ဟော မာတုလ-သဒ္ဒါရှိပေသော် ဤ၌လည်း "တဒါ မာတုလ နဂရေ သဋ္ဌိ ခတ္တိယသဟာယာနိ ဝသန္တိ"- ဟူခဲ့သော် ဤကို ရှု၍ မာတုလပြည်မည်၏-ဟူလိုသည်။ ဤသို့ဆိုသော်ကား မာတုလ ဓိတရံ-ကို ဦးရီးသမီး-မဟူလို၊ မာတုလမင်းသမီး-ဟူလိုသည်။

## နှာ-၂၈၅

ကောတေ ဗလံ မဟာရာဇ-ဝယ်သော်ကား ကုဗ္ဗအနက် နိပါတ်-ဟု သဒ္ဒနီတိ (ပဒ။ ၁၇၀။ ၃၆၉။ သုတ္တ။ ၅၂၂။

၃၈၀) ဆို၏။ ဃဋီကာရသုတ်၌ "ကော နု ခေါ အယံ ဘဂ္ဂဝေါ ဂတော"-(၂၄၂)ကို ကုဟိံ နု ခေါ-(မ၊ ဋ္ဌ၊ ၄။ ၁၉၇)ဖွင့်ဘူးရကား ကော-သဒ္ဒါ ကုဟိံ-အနက်ဟောလည်း ကြံကောင်း၏။

နှာ-၂၈၆

ပဋိဂ္ဂဟိတံ ယံ ဒိန္နံ-ကား နိဂ္ဂဟိတံ-သို့°။

နှာ-၂၈၉

အထ ဒက္ခသိ ဘဒ္ဒန္တေ၊ နိဂြောဓံ မဓုရပ္ဖလံ-၌ အထ-ကား တတော ပရံ-ဟု သဒ္ဒနီတိ(သုတ္တ။ ၃၇၇)။

နှာ-၂၉၃

ဓေ ဒဟာရိယံ ဿတိံ-ကို အဋ္ဌကထာ-"ဒဟာရိံ တရုဏိံ သောဘဂ္ဂပတ္တံ သမာနံ"-ဖွင့်ရကား ဒဟာရိသဒ္ဒါ၊ ဒဟာရိယသဒ္ဒါ နှစ်ပါးဟု သဒ္ဒနီတိ (ပဒ။ ၂၆၈-၉)။ "ပဿာမိ ဝေါဟံ ဒဟာရိံ"- (ဇာ၊ ၂။ ၁၅၇) ဝယ် ဒဟာရိသဒ္ဒါ၊ ဤ၌ကား ဒဟာရိယာ-သဒ္ဒါဟု ညွှန်၏။ လက္ခဏာသတ္တမီ-မဟုတ် ဟူလိုသည်။ "ယာ တွံ ဝသသိ ဇိဏ္ဏာသာ၊ ဓေ ဒဟာရိယာ သတိံ"-၌လည်း ဒဟာရိယာ သတိ သံဗိဇ္ဇမာနာ-ဟူ၏။

နှာ-၂၉၄

သဗ္ဗာသံ သောကာ ဝိနသန္တိ-၌ သဗ္ဗာသံ-ကို သဗ္ဗေ+အာသံ-ခွဲ၊ အာသံ ဒဟာရ- ဒဟာရိန်-စွဲ။ "ဝိသုဒ္ဓိမဂ္ဂါဒိဝသာ

၁။ "ပဋိဂ္ဂဟိတံ ယံ ဒိန္နံ-ကား နိဂ္ဂဟိတံသို့"ဟု ရေးရင်း ဖြစ်ကောင်းဖြစ်မည်။

စတာဓေဿာ၊ ဟိတာဒိအာကာရဝဿာ ပနာသ”။ ဤ ဿမ္မော (အင္ဂသာလိနီ။ ၂၄ဝ၊ ၂၄၁)-ပါဠ်ဝယ် အာသံ-ကဲ့သို့။ အထက် “နေဝ ါသံ ကောသာ ဒိဿန္တိ”-(ဇာ၊ ၄၊ ၇။ ၃၄၄) ဝယ်လည်း-အာသံ၊ ထိုမောင်နှစ်မတို့၏-ဟု ပေး။ “ဇိ‌ ံ လောကိတ္တိယော နာမ၊ နာသံ ကုဇ္ဈန္တိ ပဏ္ဍိတာ” (ဇာ၊ ၁။ ၁၆) ဝယ်လည်း အာသံ ဣတ္ထိနံ-ဟု နံ-နှောင်း သဗ္ဗနာမ် တ-ကို အာ-ရေးသည်ကား သုတ်ကြီးသာ။ “အဘိက္ကမော သာနံ ပညာယတိ”၌ နံနှောင်း သ-ရေးသတည်း။ သာနံ ဝေဒနာနံ-စဲ့။ သ-ရေးသည် ဣတ္ထိလိင်သာ၊ အာ-ရေးသည် သုံးလိင်-ဟု သဒ္ဒနီတိ(သုတ္တ။ ၃၆၇၊ ၃၆၈)။ သဗ္ဗေသံ သောကာ-ဟူ၍ သော်လည်း ပါဠ်ရှိပါမူကား သဗ္ဗေ+သေံ-ခွဲ။ “သုတံ မေတံ ဘောဂေါတမ”-ဟူသို့။

## နှာ-၂၉၅

အာနယိဿာမိ ဘောတိယာ-ကို ရှု၍ အဟံ ဘောတိ ဥပဌိဿံ-ကား အံ-ပြီး။

## နှာ-၂၉၆

မာ ဘောတိ ပရိဒေဝေသိ-ကား အာလုပ်။

## နှာ-၂၉၈

ဗြာဟ္မဏော ကာမဂိဒ္ဓိမာ-ကား “စန္ဒိမာ, ပါပိမာ”-ဟူသို့။ ဣမန္တုပစ္စည်း-ဟုလို၏။

ဘာသကရိကား ကော့ကာ နံ ပရိဝါရယံ-၌ ကောက-ပုဒ်ကို ခွေး-ဟော၏။ သုဏ-ကို ကောက-ရေးသည်ဟူ၏။ သဒ္ဒနီတိ (ဓာ။ ၁၆)ကား ကုက-ဓာတ်၊ ကုက အာဒါနေ- ဟု ဖွင့်၏။ ကုကတိ အာဒဒါတိ မိဂေ ဂဏှာတီတိ ကောကော-ဟူလိုသည်။ ဝကတိ အာဒဒါတိ မိဂေ ဂဏှာတီတိ ဝကော-ဟူသို့။

နှာ-၂၉၉

ဘယေ ခေမဿ ဒါတာနံ-မလို။ ဒါတာရံ-လိုသည်။
သန္တာနံ ဝိသမေတာနံ-မလို၊ ဝိသမေတာရံ-လိုသည်။

နှာ-၃၀၂

ဇာတိဝေဒံ နမဿာတိ-မလို၊ ဇာတဝေဒံ-လို။ ဇာတ-ရှေးရှိသော ဝေဒ-ပုဒ်ကား မီးဟော။ ဇာတ-နောက်ရှိသော ဝေဒ-ပုဒ်ကား နှစ်လိုသောသူကို ဟော၏။ ဝေဒဇာတော မဟာဇနော။

နှာ-၃၀၃

နိဂြောဓာ စ ကပိဋ္ဌာ-ဟု မုဒ္ဒဇ-မလို၊ "ကပိတ္ထနောတိ မက္ကဋ္ဌထနသဒိသဖလော"-ဟု သံယုတ်အဋ္ဌကထာဖွင့်။ (သံ၊ဋ္ဌ ၃။ ၁၈၉)ကို ရှု၍ ကပိတ္ထနာ-ဟု ဒန္တဇဖြင့် လိုသည်။

မစု မစုကာ ထေဝန္တိ-ကို ထိဝု ဒိတ္တိယံ-ဟု သဒ္ဒနီတိ (ဓာ။ ၁၇၀)။

နှာ-၃၀၄

အတေဝ မေ အစ္ဆရိယံ-ကို အတိ+ဣဝ မေ အစ္ဆရိယံ-ဟု ခွဲ။

## နှာ-၃၀၄

နဘံ တာရာစိတာမိဝ-ကား နိဂ္ဂဟိတ်-ကို မ-ပြု၊အာသရလည်း အာဒေသ မ-နှောင်း အာ-ရေးသည်။ မဟာဟံသဇာတ်၌ နေတံ ပညဝတာမိဝ-ဟူသည်လည်း ဤအတူ[၁]။

## နှာ-၃၀၇

ဂစ္ဆန္တော စ ဘာရဒွါဇော၊ ဂစ္ဆန္တော၀ ဘာရဒွါဇော[၂]-ဟု ရှိသည်ကားအက္ခရာရှစ်လုံး မစေ့-ဟုလျောက်ပလေသည်။ ပါဠိ ရင်းကား ဂစ္ဆန္တော ဘာရဒွါဇော-ဟူ၍ "ဝိပဿိဿ နမတ္ထု၊ သိခိဿပိ နမတ္ထု၊တေ ဇနာ အပိသုနာ"-ဟူသကဲ့သို့ သတ္တက္ခရ ပါဒတည်း[၃]။

ကစ္စိ နု ဘောတော ကုသလံ-၌ ကစ္စိ-ကား စိ-ပစ္စည်း၊ကိံ-သဒ္ဒါကို က-ရေးသည်။ကိစ္စိ ရှိမူကား ပုဒ်ပျက်။ဘောတော-ကား တော-ပစ္စည်း။ဘဝန္တ-ကို ဘော-ရေး။

အပ္ပမေဝ သရီံသပါ-၌ သရီံသပါ-ကို ငဲ့၍ အပ္ပါ ဝေ-ရှိတန်လျက် မ-အာဂုမ်နှောင်းရဿ-ရောက်သည်။ "ရဿမာ ပဇ္ဇတေ ဒီဃော၊သံယောဂေ ဝါပိ အာဂမေ"။သန္ဓိဝိသောဓနေ။

---

၁။ နီတိ၊သုတ္တ။၁၆၅။
၂။ ဆဋ္ဌမူ၌ ဂစ္ဆန္တော သော ဘာရဒွါဇော-ဟုရှိသည်။နီတိ၊ သုတ္တ။၆၇၈-၌လည်း ဂစ္ဆန္တော သော ဘာရဒွါဇော-ဟုပင် အကိုးပြုသည်။
၃။ ဒီ၊၃။၁၅၉-စာကိုယ် မှတ်ချက်တို့ကို ဤကျမ်းအဆိုနှင့် ယှဉ်ကြည့်ပါ။

## နှာ–၃၀၈

န ဘဝံ တေိ ပုညတ္ထံ-၌ ဘဝံ–ကား တုမ္ဟ–သဒ္ဒါအနက်၌ ဖြစ်လျက် တုမှသဒ္ဒါအနက်ကို မဟောမူ၍ နံ-ဖြစ်လေသည်။ ထို့ကြောင့်တေိ–ဟုနာမယောဂရှိသည်။အမှ–သဒ္ဒါအနက်၌ဖြစ်လျက် အမှ–သဒ္ဒါအနက်ကိုမဟောမူ၍ နံ–ဖြစ်သည်လည်း ရှိ၏။ "ဥပါလိ တံ မဟာဝီရ၊ ပါဒေ ဝန္ဒတိ သတ္ထုနော"–(အပ၊ ၁။ ၅၂)။ ဤ၌ ဥပါလိ-ဟူသော နံ–ပုဒ်ကြောင့် ဝန္ဒတိ–ဟု နာမယောဂ ရှိသည်။ "သဗ္ဗာယသံ ကူဋမတိပ္ပမာဏံ၊ ပဂ္ဂယှ သော တိဋ္ဌသိ အန္တလိက္ခေ[၁]"။ဤပေတဝတ္ထုပါဠိ၌ သော တိဋ္ဌသိ-ကား နံ–တုံ လျက် နာမယောဂ မဟုတ်တုံ၊ သော–ကို ဝံသော တွံ–ဟူလိုသည်။ "သော တွံ ဝင်္ကံ အနုပ္ပတ္တော,သော အဟံ စရိဿာမိ"(သံ၊ ၁။ ၂၁၇)–ဟု ပဋ္ဌာနပုဒ်နှင့် အကွရှိသည်ကား များ၏။ "န ဘဝံ တေိ ပုညတ္ထံ၊မဒေ့ ဘဝံ ပတ္ထယတိ"–၌ ဘဝံ–ကား သိ–နှောင်း ဘဝန္တ–တွင် န္တ–ကို အံ–ရေး။ ဘဝံ–ကို ဓာတ်အနက်အားဖြင့် မပေးရာ။ သမ္ဘုတိအနက်ကို ပေးရာ၏–ဟု သဒ္ဒနီတိ(ပဒ။ ၉၈)။

## နှာ–၃၁၀

ဤ၌ "သုစိံ သုဂန္ဓံ သလိလံ၊ အာပေါ တတ္ထာဘိသန္ဒတိ[၂]"–ဟူသည်နှင့်–

---

၁။ ဇာ၊ ၁။ ၁၁၇–၌ ပဂ္ဂယှ ယော–ဟုရှိ၍ သော (ဋ)ဟု မှတ်ခဲ့ပြီသည်။

၂။ ဆဋ္ဌမူ၌ အာပေါ တတ္ထာပိ သန္ဒတိ–ဟု ရှိ၏။ နီတိ၊ ပဒ။ ၁၄၄-၌ကား အာပေါ တတ္ထာဘိသန္ဒတိ ပင်ရှိသည်။

"ကိံ ကရိယာ ဥဒပါနေန၊
အာပါ စေ သဗ္ဗဒါ သိယုံ။
တဏှာယ မူလတော ဆေတွာ၊
ကိဿ ပရိယေသနံ စရေ"။-

ဟူသော ဥဒါန်းပါဠိ (၁၇၆)လျှင် အာပ-သဒ္ဒါ ပုံလိင် ဧကဝုစ်, ဗဟုဝုစ်ရှိသော သာသနာ၌ သက်သေ။ သဉ်ကရိုက်၌ကား ဣတ္ထိလိင် ဗဟုဝုစ်သာ၊ သာသနာနှင့် မတူ။ မဇ္ဈိမပဏ္ဏာသ အဋ္ဌကထာ၌ "အင်္ဂုတ္တရာပေသူတိ အင်္ဂါယေဝ သော ဇနပဒေါ။ မဟိယာ ပန ယာ ဥတ္တရေန အာပေါ။ တာသံ အဝိဒူရတ္တာ ဥတ္တရာပါတိပိ ဝုစ္စတိ။ ကတရမဟိယာ ဥတ္တရေန တာ အာပေါတိ၊ မဟာမဟိယာ"-(မ၊ ဋ္ဌ၊ ၃။ ၂၄)။ ဤသို့ ယာ အာပေါ တာသံ တာ အာပေါ-ဟု ဣတ္ထိလိင် ဗဟုဝုစ် ဟူ၏။ ဋီကာလည်း "မဟိယာ ပန ယာ ဥတ္တရေန အာပေါတိ မဟိယာ နဒိယာ ပန ယာ အာပေါ တဿ ဇနပဒဿ ဥတ္တရေန ဟောန္တိ၊ တာသံ အဝိဒူရတ္တာ၊ သော ဇနပဒေါ ဥတ္တရာပါတိ ဝုစ္စတိ"။ ဤသို့ "ယာ အာပေါ ဟောန္တိ၊ တာသံ"(မ၊ ဋီ၊ ၃။ ၂၀)ဟူ၏။ အဋ္ဌကထာ အလိုကား မဟာမဟိယာ ဥတ္တရေန အာပေါ ယေသံ တေတိ ဥတ္တရာပါ။ အင်္ဂါ စ တေ ဥတ္တရာပါတိ အင်္ဂုတ္တရာပါ-ဟူလိုသည်။ ရှင်ဋီအားဖြင့် ဇနပုဒ်တခုကို လျက် အင်္ဂါ-ဟူသည်။ ရွာမြောက် မဟီမြစ်ရေ စီးပေရကား ရွာကို ဥတ္တရာပါ-ဟူသည်၊ ဋီကာ အလို။ ဤသို့ အာပ-သဒ္ဒါကို ဣတ္ထိလိင် ဗဟုဝုစ် ဆိုသည်ကား ဗာဟိရ၌ ရှိသည်အထူးကိုမျှ သိပါစေလို၍ ဆိုသည်။ သာသနာနှင့် လျော်၍ ဆိုသည်

မဟုတ်။ "ဇိနဝစနယုတ္တံ ဟိ၊ လိင်္ဂ နိပ္ဖန္နတော"-စသည်ကို မနာပဲ ဆန္ဒလောဘီသလော-ဟူအံ့။ အနက်မချွတ်က သဒ္ဒါ အထွေထွေဆိုလည်း မထောင်းတာ-ဟု နှလုံးမူ၍ မှန်သော အနက်ကိုလည်းသိ၊ သဒ္ဒါအထူး ကိုလည်း လိမ္မာစေလိုသော ဆရာ့ ကရုဏာလျှင် အဖြစ်ဟု ဖြေ။

"ယတ္ထ ယတ္ထ ယထာ ယထာ အတ္ထော လဗ္ဘတိ၊
တတ္ထ တတ္ထ တထာ တထာ ဂဟေတဗ္ဗာ"။-

ဟု အဘိဓမ္မာဋီကာ (မူလဋီ၊ ၁။ ၆၅)။

"အတ္ထော လဗ္ဘတိ ပါသံသော၊ ယတ္ထ ယတ္ထ ယထာ ယထာ။
တထာ တထာ ဂဟေတဗ္ဗော၊ တတ္ထ တတ္ထ ယထာရဟံ"။-

ဟု သဒ္ဒနီတိ (ပဒ။ ၇၅)။ တသ္မိံ သရသ္မိံ ဗြာဟ္မဏ-ဟု-မလိုး တသ္မိံ သရသိ-ဟူလိုသည်။

နှာ-၃၂၁

ဧဝံ တံ ယာစိတာဂတ္ထိ-ကို ယာစိတုံ+အာဂတ္ထိ ဟု ခွဲ။

နှာ-၃၂၂

အထ ခေ မာလဓာရိနေ-လည်း အောက်၌ ဆိုပြီးသော ယော-နှောင်းကြ၍-ကို ဤန-ရေးသည်။

သဗ္ဗံ ဂဏ္ဍိ ဝါမတော-၌၊ ဝါမတော၊အမှားအားဖြင့်။မသင့်သည့် အားဖြင့် လည်းဟူ။ "ဝါမတောတိ မိစ္ဆာ၊အယောနိသော ဝါ"-ဟုဋီကာအင်္ဂုတ္တိုရ်(အံ၊ဋီ၊၃။၃၀၈)။

မာသံ အဒက္ခိ မာတရံ-၌ အာသံ-ပြီးကို ဆိုခဲ့ပြီး။

နှာ-၃၂၃

ဇီနော မနုဿ ဒါသဿ-၌ ဇိဇာနိယံ-ဘော်။ "ဇီနော ရထဿ မဏိကုဏ္ဍလာ စ" (ဇာ၊ ၁။ ၁၂၀) အတူ။

နှာ-၃၂၄

ဗြာဟ္မဏ ပရိစာရိကေ-မလို၊ ဗြာဟ္မဏျာ ပရိစာရိကေ-လိုသည်။ ထို့ကြောင့်မူလော အဋ္ဌကထာ၌ ဗြာဟ္မဏိယာ ပရိစာရိကေ-ဟူသတည်း။ သဒ္ဒနီတိ (ပဒ။ ၂၆၈) ၌လည်း ဗြာဟ္မဏျာ-ဟု ဆောင်၏။ ဝိစရန္တျာ ဗြဟာဝနေ (ဇာ၊ ၃၊ ၇။ ၃၆၆)၊ လက္ချာ ဘဝ နိဝေသနံ-(ဇာ၊ ၂။ ၂) ဟူသို့။

နှာ-၃၂၇

သိဝိရာဇဿ ပေက္ခတော-ကား အနာဒရဆဋ္ဌီ။ သိဝိရာဇဿ၊ သည်။ ပေက္ခတော၊ မြင်စဉ်။

နှာ-၃၂၈

အဿွာနူန တေ ဟဒယံ-၌ အဿွာ-ကား ကျောက်ဟော။ အဿွာ၊ ဥပလ၊ သိလာ၊ ပါသာဏ၊ ကျောက်လေးပုဒ် ကျောက်ဟော။

"ဝေါဟာရဒက္ခာ မနုဇာမုနိန္ဒ၊
သံဃဋ္ဋယိတွာ နိကသောပလမှိ။
ကရောန္တိ အက္ခံ ဝရကဉ္စနဿ၊
သောဟိ မမ္ဗော စရိတော ပုရာဏော"။-

ဒါဌာဓာတုဝံသ (၂၇၃) ဂါထာ။ ကျောက်ဖျာဟော ဥပလ၊ နိကသောပလမှိ၊ သွေးကျောက်။

---

၁။ ဒါဌာဓာတုဝံသ၌ အဋ္ဌံ-ဟုရှိသည်။

နှာ-၃၃၃

ဤ ဝေဿန္တရာ အဋ္ဌကထာ၌ကား ပဉ္စမဟာပရိစ္စာဂ-ကို ကာယ၊ ဓန၊ ဇီဝိတ၊ ပုတ္တ၊ဘရိယ-ဟု ငါးပါး။အဘိဓာန်၌တုံ-

"ပဉ္စ မဟာပရိစ္စာဂေါ၊
ဝုတ္တော သေဋ္ဌဓနဿ စ။
ဝသေန ပုတ္တဒါရာနံ၊
ရဇ္ဇဿင်္ဂါနမေဝ စ"။ (၄၂၁)-ဟူ၏။

ဒီဃနိကာယ်, အင်္ဂုတ္တရနိကာယ်အဋ္ဌကထာ (ဒီ၊ဋ္ဌ၊၁။၆၀။ အံ၊ဋ္ဌ၊၁။၇၀) ၌သော်တမူကား သေဋ္ဌဓန၊ ပုတ္တဒါရ၊ ဇီဝိတ၊ အင်္ဂ၊ နယန-ဟု ငါးပါး။ စရိယာပိဋကအဋ္ဌကထာ (ဧ၇-၇၊၂၆၃)၌ကား ဓန၊ အင်္ဂ၊ ဇီဝိတ၊ ပုတ္တ၊ ဘရိယ-ဟု ငါးပါး၊ ဆိုဟန် မတူကြ။

"ဇီဝိတကာယဒါရေဟိ၊
ပုတ္တဓနေဟိ ပဉ္စဓာ။
ဇာတကဋ္ဌကထာယန္တု၊
ပရိစ္စာဂေါ ဥဒီရိတော။
ပုတ္တဒါရဿ ဓနဿ၊
ဇီဝိတင်္ဂါနမေဝ စ။
နယနဿ ဝသာ သုတ္တ-
သံဝဏ္ဏနာသု ပဉ္စဓာ။

---

၁။ ဤထက် အကျယ်ကို အဘယာရာမဆရာတော်၏အဘိဓာန် နိဿယသစ်၌ ကြည့်ပါ။

ဇိဝိတဂ်ံမနောနန္တုံ၊
ပုတ္တဒါရာနမေဝ စ။
ဝဿပိ ပဥ္စ စရိယာ–
ပိဋ္ဌကတ္ထဝိဘာဝနေ"။

ဇမ္ဗုကာရက္ခ–ကား ဂါထာ ဆန်း ဒီဃ၊"သရဏာဂမနေ ကိဥ္စိ"(အပ၊၂။၁၅၉။ဗုဒ္ဓဝံ။၃၂၁)သို့။

နှာ–၃၃၅

ဃရေ ဇာတံဝ ဒါသိယံ–၌ ဒါသိယံ–ကား ဤ–နောင် အံ–ကို ယံ–ရေးသည်။ကစ္စည်းကား "အံ ယမိတော မသညာတော"–ဟု ဤ–နောင်သာ၊ဤ,ဤ–နှစ်ပါးပြီးစေလို၍ "အံယမီ–ဝဏ္ဏာ ပါ ဝါ"–(၄၅၀)ဟု သဒ္ဒနီတိသုတ်။ကုမာရိ,ကုမာရိယ၊ ဒဟရိ,ဒဟရိယ–ဟု နှစ်ပါးနှင်နှင်ရှိသကဲ့သို့ ဒါသိ,ဒါသိယ–နှစ်ပါး လည်းကောင်း ကြံ၏[၁]။ ဒါသိယံ–ကြံမူ ဒါသိကံ–ဟု ပြန်။

ဩက္ကန္တာမသိ ဘူတာနိ၊ပဗ္ဗတာနိ ဝနာနိ စ–၌ ဂါထာဆန်း အားဖြင့် ဩက္ကန္တာမသိ–ဟု ရှိလေသည်။ဩက္ကန္တာမသေ–ဖွင့်[၂]။ "ဣမဝဿံ ဝသိဿာမိ၊ဣမ ဟေမန္တဂိမှိသု"။ဤပါဠိ၌ ဟေမန္တဂိမှိသု–ကို ဟေမန္တဂိမှေသု–ဟူသို့၊ဤအရာ၌ ဧ–ကို ဣ–ရေးသည်–

၁။ နှစ်ပါးလည်းကြံကောင်း၏။?
၂။ ဆဋ္ဌမူပါဠိတော်၌ ဩကန္တာမသေ–ဟု ရှိ၍ အဋ္ဌကထာ၌လည်း "ဩကန္တာမသေတိ အဝကန္တာမ၊ အပစိတိ–နိစဝုတ္တိ ဒဿေန္တာ ဇာနာပေမ"–ဟု ရှိသည်။

ဟု **သဒ္ဒနီတိ**(သုတ္တ။ ၁၃၄)။ပဗ္ဗတာနိ–ကား ပုံလိင်လျက် နပုံ ရှိလေသည်။ပဗ္ဗတေ–ဟုပြန်။

တိကာလတာနိ ဩသဗျော–မလို၊ဩသမျော–လိုသည်။ ဩသ ဓိယော–ဖွင့်။

## နှာ–၃၃၈

အတ္တဂ်တမှိ သူရိယော၊ဝါဠာ ပန္တေ ဥပဌဟုံ–၌"အတ္တမေန္တမှိ သူရိယော၊ဝါဠာကူစ္စာဒိသု ပန"– ဟု **သဒ္ဒနီတိ**(ဓာ။၄)ဆောင် ၏။အတ္တဂ်တမှိ–မလို၊ အတ္တမေန္တမှိ–လိုသည်။သူရိယော၊ နေသည်။ အတ္တံ၊ အနောက်တောင်သို့။ဧန္တေမှိ၊ ရောက်လေပြီးသော်။ဤ၌ အတ္ထ–သဒ္ဒါ ပစ္ဆိမပဗ္ဗတကို ဟော၏။

"အတ္တော ပယောဇနေ သဒ္ဒါ–
ဘိဓေယျေ ဗုဒ္ဓိယံ ဓနေ။
ဝတ္ထုမှိ ကာရဏေ နာသေ၊
ဟိတေ ပစ္ဆိမပဗ္ဗတေ"။(၇၈၅)–ဟု **အဘိဓာန်**။

## နှာ–၃၄၁

သုတွာ နေဋ္ဌပတိ ဝါစံ၊ခေဋ္ဌဗိန္ဒုနိပါတရဟိတံ ဝစနံ၊ ဋ္ဌေ–ကား ယာ ဝါစာ နေဋ္ဌာ–စသည်၌ကဲ့သို့ ဒေါသ–ဟော မဟုတ်၊ခေဋ္ဌ–ဟော။နေဋ္ဌပတိ၊ တံတွေးပေါက် မကျသော–ဟု ပေး။ "ဗဟုလာယဠ ခေဋ္ဌမှိ၊ ဋ္ဌော ဒေါသေဋ္ဌမိရိတံ"(၁၀၁၀) **အဘိဓာန်**။ ဗဟုလာယဠ၊ဖာလာသီး။ ခေဋ္ဌမှိ၊ တံထွေး၌။ ဋ္ဌော၊ ဟု။ဤရိတာ။ ဒေါသော၊ **အပြစ်**၌ကား။ ဋ္ဌေ၊ ဟု။ ဤရိတံ။

ဣဒံ နေသံ ပဒက္ကန္တံ–၌ ပဒက္ကမနံ–ဟု ဖွင့်။ ခြေရာ။

နှာ-၃၄၆

အာစေရမိဝ မာဏဝေါ-၌ အာစရိယ-သဒ္ဒါကို အာစေရ-ရေးသည်။ "ဥတ္တာ အာစေရကံ မတံ"-( ) ဟူသကဲ့သို့။ "**အာစရိယဿာစေရော**"-(၅၂၆)ဟု **သဒ္ဒနီတိသုတ်**။ အာစရိယ-ကို အာစေရ-ပြုသည်အတူ ဗြဟ္မစရိယ-ကို ဗြဟ္မစေရ၊ ဣဿရိယ-ကို ဣဿေရ-ပြုသော ပါဠိကား-

"**ပတိတော** ဒဗ္ဗပုဉ္ဇမှိ၊
တတော ဒဗ္ဗောတိ ဝိသုတော။
ဗြဟ္မစေရဗလေနာဟံ၊
ဝိမုတ္တော သတ္တဝဿိကော။ (အပ၊ ၂။ ၁၂၄။ [၁])

ယာဝတာ စတုရော ဒီပါ၊
သသမုဒ္ဒါ သပဗ္ဗတာ။
ဖလံ ဗုဒ္ဓဿ ဒတွာန၊
ဣဿေရံ ကာရယာမဟံ"။ (အပ၊ ၂။ ၉၀[၂])။

**အပဒါန်ပါဠိ**။

---

၁။ ဆဋ္ဌမူ၌ ဗြဟ္မစာရိဗလေနာဟံ-ဟု ရှိသည်။ ဤကျမ်းအဆို အတိုင်း ဗြဟ္မစေရဟု ရှေးပါဌ်ဟောင်း ဖြစ်ဟန်ရှိပါသည်။ ယောမင်းကြီး၏ သဒ္ဒသင်္ဂဟ၌လည်းဗြဟ္မစေရ-ဟုပင်ပြသည်။

၂။ ဆဋ္ဌမူ၌ ဣဿရံ-ဟုရှိသည်။ ဤ၌လည်း ဣဿေရံ-ပင် ပါဌ်ဟောင်း ဖြစ်ရာသည်။သဒ္ဒသင်္ဂဟ၌လည်း ဣဿေရံ-ပင်။

နှာ-၃၄၈

တေ ကုမာရေ န ဒိဿရေ-၌ သကမ္မက ဒိသ-ဓာတ်သည် ဒိဝါဒိဂိုဏ်း **အကမ္မကဓာတ်** ဖြစ်သတည်း။ ထို့ကြောင့် တေ ကုမာရေ၊တို့သည်။ န ဒိဿရေ၊ မထင်ပါကုန်-ဟု ပေး။

နှာ-၃၅၅

"ကမဏ္ဍလုနာ ဥဒကံ အာဟရိတွာ ဥဒကံ ဟတ္ထေ ပါတေတွာ ပိယဘရိယံ ဗြာဟ္မဏဿ အဒါသိ"။ ဤစုဏ္ဏိယပုဒ်ကို မှီး၍၊ "မဒ္ဒိံ ဟတ္ထေ ဂဟေတွာန၊ ဥဒကဿ ကမဏ္ဍလုံ၊ ဗြာဟ္မဏဿ အဒါ ဒါနံ"-၌ ဟတ္ထေ-ကား မဒ္ဒီ၏ ဟတ္ထ-မဟုတ်။ ဗြာဟ္မဏဿ ဟတ္ထေ-ဟူ၍-ဥဒကဿ၊ ဖြင့်။ ပူရိတံ၊ သော။ **ကမဏ္ဍလုံ**၊ ကို။ ဂဟေတွာန၊ဗြာဟ္မဏဿ၊၏။ ဟတ္ထေ၊ ၌။ ဥဒကံ၊ကို။ ပါတေတွာ၊ ၍။ မဒ္ဒိဒါနံ၊ ကို။ အဒါသိ၊ ပေး၏။ ဤသို့ သူတချို့ ပေးသတတ်။ **သဒ္ဒနီတိ** (သုတ္တ။ ၅၇၃)၌ မဒ္ဒိံ ဟတ္ထေ ဂဟေတွာန-ကို ရှု၍ ဗောဓိသတ္တဿ မဒ္ဒိန် စုမ္ဗိတွာ-ဝယ် ဗောဓိသတ္တံ-ဟု ပြန် ဟူသော စကားကို ထိုသူတို့ မကြားသည် ဖြစ်အံ့လေသတည်း။ နာဂံ၊ ဂဟေတွာ သောဏ္ဍာယ၊ အထ နံ ဂီဝါယ ဂဟေတွာ- ဤသို့ စသည်အရာလည်း မရှား။ ထို့ကြောင့်-မဒ္ဒိံ၊ကို။ဟတ္ထေ၊ ၌။ ဂဟေတွာန၊၍။ ဥဒကဿ၊ ရေဖြင့်။ ပူရိတံ ကမဏ္ဍလုံ၊ ဂဟေတွာန၊ဗြာဟ္မဏဿ၊ အား။ ဒါနံ၊ကို။ အဒါ၊၏။ ဤသို့ ပေးလိုသည်။ တနည်းတုံ- မဒ္ဒိံ၊ကို။ ဟတ္ထေ၊၌။ ဂဟေတွာန၊ ၍။ ကမဏ္ဍလုံ ကမဏ္ဍလုနာ၊ ဖြင့်။ ဥဒကံ၊ ရေကို။ အဿ ဗြာဟ္မဏဿ၊၏။ ဟတ္ထေ၊၌။ ပါတေတွာ၊ သွန်း၍။ ဤအနက် ကား စရိယာပိဋကဌ်-

"မဒ္ဒိံ ဟတ္ထေ ဂဟေတွာန၊
ဥဒကဥ္စလိ ပူရိယ။
ပသန္နမနသင်္ကပ္ပေါ၊
တဿ မဒ္ဒိံ အဒါသယံ"-။

ဤပါဠိကိုမှီ။ ဤ၌ ဥဒကဉ္စလိ-ကို ဥဒကံ+အဉ္စလိ-ခွဲ။ ဥဒကံ-ကို ဥဒကေန-ဟုဖွင့်၏။ ဥဒကေန တဿ အဉ္စလိံ ပူရိယ-ဟူ၏။ (စရိယာ။ဋ္ဌ။ ၉၆)။ တဿ အဉ္စလိံ-ကို ရှု၍ ဗြာဟ္မဏဿ ဟတ္ထေ-ဟု ဆောင်။ ဥဒကေန ပူရိယ-ကို ရှု၍ ကမဏ္ဍလုနာ ဥဒကံ ပါတေတွာ-ဟု ဆောင်။ ဤ စရိယာပိဋကဂါထာကိုရှု၍ အနက်သမ္ဗန်စေလို၍လျှင် "ကမဏ္ဍလုနာ ဥဒကံ အာဟရိတွာ ဥဒကံ ဟတ္ထေ ပါတေတွာ"-ဟု စုဏ္ဏိယပုဒ်ဖြင့် အဋ္ဌကထာပြသတည်း။ မဒ္ဒိံ၊ကို။ ဟတ္ထေ၊၌ ဟူ-မလို။ ဗြာဟ္မဏဿ၊၏။ ဟတ္ထေ-ဟူ၍သာ လိုသည်ဟု သမ္ဗန်စိမ့်သောငှာပြသည်-မဟုတ်။

## နှာ-၃၅၆

ဇာလိံ ကဏှာဇိနံ မိတံ-ကား မိတရံ-မှ အထူး။ ဓာ်-နှောင်း ဥ-ကို အ-ရေး။[၁]

## နှာ-၃၅၇

အာသန္နော နာနုကမ္ပန္တိ-၌ ကရ-ဓာတ်ကို ကု-ပြု၊ ဩ-ပစ္စည်းကို ဝ-ရေး၍ ဒွေဘော်ပြု၊ ဗ္ဗ-ပြု၊ ရ-ကို ချေ၍ က-

၁။ နီတိ၊ သုတ္တ။၄၃၄-ကြည့်။

အစိတ် အ-ကို ဥ-ပြုဟူ၏။ "ဖရုသာဟိ ဝါစာဟိ ပကြုဗ္ဗ-မာနေ" -၌သော်ကား ကရ-ဓာတ်ကို ကြု-ပြု၏။

နှာ-၃၅၉

ဝရံ ဝရေ-၌ ဝရ ဣစ္ဆာယံ-ဟု ဓာတ်ဘော်။

သဒ္ဒါရုပသုတော သိယံ-၌ သိယံ-ကား အသ-ဓာတ်တွင် အ-ကျေ၍ ယေျံဝိဘတ်ကိုဣယံ-ရေး။ "ဥမ္မာဒန္တျာ ရမိတွာန၊ ကာသိရာဇာ တတော သိယံ" -နှင့် အတူ။ "ယေျမိယံသု ယေျမိယံ" -(၉၄၄)ဟု သဒ္ဒနီတိ လက္ခဏာ အသီးတည်၏။ ဒွေ ဘိက္ခူ အဘိဓမ္မေ နာနာဝါဒါ သိယံသု-၌သော်ကား ယေျံဝိဘတ်ကို ဣယံသု-ရေး။

နှာ-၃၆၀

အစိရံ ဝတ တေ တာတော-၌ တတော စေတုတ္တရတော-ဟု စွဲ။ ဆန်းဒီဃ²။ ဝေဿန္တရေ ဝရံ³ ဒတွာ-၌ ဝေဿန္တ-ရဿ-ဟု ပြန်၊ "သံဃေ ဂေါတမိ ဒေဟိ-"သို့။

နှာ-၃၆၇

ပုတ္တာ ပိယာ မနုဿာနံ-၌ ပုတ္တော စ မိတာ စ ပုတ္တာ-ဟု ဝိရှပေကသေသ။ "ကစ္စိ ဝေါ ကုသလံ ပုတ္တာ"-(ဇာ၊ဋ္ဌ၊

---

၁။ နီတိ၊သုတ္တ။ ၁၀၂၆-ကြည့်။

၂။ ဆဋ္ဌမူ၌ တတော-ဟု ရှိ၍ တာတော (သီ၊သျာ၊ဣ) ဟု မှုကဲ့ပြုသည်။

၃။ ဝရေ၊ (မြ)

၇။ ၃၇၄) ၌ကား ပုတ္တော စ သုဏိသာ စ ပုတ္တာ-ဟု ပြု။ သဒ္ဒနီတိ(သုတ္တ။ ၈၂၂) ၌ကား အပေါင်းကို ဆိုလိုသည်ရှိသော် အနက်တပါး၌ ဗဟုဝုစ်-ဟူ၏။ ဝိရူပေကသေသမည်သည် မရှိ-ဟု ပယ်လေ၏။

**ဝေဿန္တရာဇာတ်ပြီး၏။**

**သမန္တပါသာဒိက မဟာအရိယဝံသထေရေန ရစိတံ ဒသဇာတကဝိသောဓနံ နိဋ္ဌိတံ။**



# ပိဋကတ်မျိုးဟာအဖွဲ့

# ၏

# သာသနာတော်အတွက်
# မြော်ရည်ချက်ဆန္ဒများ

## ပိဋကဗျူဟာအဖွဲ့၏
## သာသနာတော်အတွက် မြော်ရည်ချက်ဆန္ဒများ

### အဖွဲ့၏ ပဌမကျမ်းစာ

ပုံနှိပ်မှုအဖြစ်သို့ မရောက်ဘူးပဲ တိမ်မြုပ်ပျောက်ကွယ်နေသော ပိဋကစာပေ (ပေမူ)တို့ကို ပုံနှိပ်မှုအဖြစ်သို့ ဖော်ထုတ်ပူဇော်၍ ပရိယတ္တိ သာသနာတော်ကို အားဖြည့်ရန်–ဟူသော ရည်ရွယ်ချက်ဖြင့် ၁၃၃၇–ခုနှစ် ကဆုန်လပြည့်နေ့ (၂၄-၅-၇၅)တွင် စတင်ဖွဲ့စည်း တည်ထောင်ခဲ့သော ပိဋကဗျူဟာအဖွဲ့၏ ပဌမကျမ်းစာအဖြစ် ကျောက်စာသက် နှစ် ၅၀၀-ကျော် ပေစာသက် နှစ် ၂၀၀-ကျော်ရှိခဲ့ပြီး တခါမျှပုံမနှိပ်ဘူး သေးသည့် မ–ကာရလောပတောင်တွင်းကြီး သာသနာပိုင်ဆရာတော် ခင်ကြီးဖျော်၏ ကလျာဏီကျောက်စာ မြန်မာပြန် (ပေမူ)ကို ပုံနှိပ်စာအုပ်အဖြစ်သို့ ၁၃၃၉–ခုနှစ် သီတင်းကျွတ်လ (၁၉၇၇–ခု အောက်တိုဘာလ)တွင် ဖော်ထုတ်ပူဇော်နိုင်ခဲ့ပါသည်။

### အဖွဲ့၏ ဒုတိယကျမ်းစာ

ယခုအခါ ပိဋကဗျူဟာအဖွဲ့၏ ဒုတိယကျမ်းစာအဖြစ် ပေစာသက်တမ်း နှစ် ၅၀၀-ကျော်ရှိခဲ့ပြီး တခါမျှပုံမနှိပ်ဘူး သေးသော ဇာတ်ဝိသောဓနကျမ်းကို ပုံနှိပ်မှုအဖြစ်သို့ ဖော်ထုတ်၍

ပရိယတ္တိ သာသနာတော်ကို အား ဖြည့် ပူဇော် လိုက် ပါသည်၊ သူတော်ကောင်းတို့ စိတ်နှလုံးမွေ့လျော် သာဓုခေါ်တော်မူကြပါကုန်လော့၊ ပိဋကဗျူဟာအဖွဲ့၏ ဒုတိယကျမ်းစာ ဖြစ်သော ဤ"ဇာတ်ဝိသောဓနကျမ်း"ကို မြန်မာ့သာသနာဝင်နှင့် ဂန္ထဝင်တွင် စာတင်တော်မူခဲ့ရသည့် မဏိသာရမဉ္ဇူသာဋီကာ ကျမ်းပြုအကျော် စစ်ကိုင်း–အရှင်မဟာအရိယဝံသဆရာတော် ပြုစုစီရင်တော် မူခဲ့ပါသည်၊ ဤကျမ်းပြုဆရာတော်၏ အကြောင်းနှင့် ဤကျမ်း၏ ဂုဏ်ရည်တို့ကို ဤကျမ်း၏ နိဒါန်းတွင် ပြည့်စုံစွာ တင်ပြထားပါသည်၊ ဤကျမ်းကို ပါဠိဝိနိစ္ဆယ မြန်မာ လက်သန်းကျမ်းဟု ပိဋကဗျူဟာအဖွဲ့မှ ဂုဏ်ပြုမှတ်တမ်းတင်ပါသည်။

## အဖွဲ့၏ တတိယကျမ်းစာ စသည်

ပိဋကဗျူဟာအဖွဲ့၏ တတိယကျမ်းစာအဖြစ် ဝဇိရဗုဒ္ဓိဋီကာ နိဿယကျမ်းကြီးကို ပုံနှိပ်ဖော်ထုတ် ပူဇော်ရန် ကြိုးပမ်းနေပါသည်၊ ပရိယတ္တိသာသနာတော်နှင့် ဝိနည်းပိဋကအတွက် အလွန်လိုအပ်နေသော ဝဇိရဗုဒ္ဓိဋီကာ နိဿယကျမ်းကြီးကို အဖွဲ့၏ တတိယကျမ်းစာအဖြစ် ဖူးတွေ့ပူဇော်ရတော့မည် ဖြစ်ပါသည်၊ ဤဋီကာနိဿယကျမ်းကြီးသည် သာသနာစောင့်ဖြစ်တော် မူကြသော စာချ, စာသင်အရှင်မြတ်တို့နှင့် တိပိဋကစာမေးပွဲ, နိကာယ်စာမေးပွဲကြီး စသည်တို့ကို ဖြေဆိုတော်မူကြသော သာသနာ့အာဇာနည် အရှင်မြတ်တို့အတွက် မရှိလျှင်မဖြစ်သင့်သော အဖိုးတန် နိဿယကျမ်းကြီး ဖြစ်ပါသည်၊ ပိဋကစာပေ စင်မြင့်နှင့် စာချ, စာသင် ထေရ်အရှင်တို့ လက်ဝယ်တွင် ရှိသင့်ရှိနှင့်သော

ကျမ်းစာကောင်းတဆူ ဖြစ်ပါသော်လည်း ပုံနှိပ်မူအဖြစ်သို့ ဖော်ထုတ်ပူဇော်မည့်သူ မရှိခဲ့သဖြင့် ပေမူဘဝဖြင့်သာ နှစ်ကာလကြာမြင့်စွာ ကိန်းဝပ်တော်မူခဲ့ရပါသည်၊ ထိုနည်းတူ ပေစာဘဝတွင်သာ စံပယ်တော်မူနေရသေးသော ဝိမတိဝိနောဒနီ ကာနိဿယကျမ်းကြီး, ဗုဒ္ဓဝင်အဋ္ဌကထာနိဿယကျမ်းကြီး စသည်တို့ကိုလည်း ပိဋကတ်ပျံ့ပွားရေးအဖွဲ့မှ စတုတ္ထကျမ်းစာ, ပဉ္စမကျမ်းစာ စသည်ဖြင့် ဆက်ကာ ဆက်ကာ ဖော်ထုတ်ပူဇော်သွားနိုင်ရန် အဆင်သင့် ပြင်ဆင် စီစဉ်ထားပြီး ဖြစ်ပါသည်၊ သဒ္ဓါရှင်များနှင့် ပညာရှင်များ စောင့်မြော်တော်မူကြရန် ဖြစ်ပါသည်။

## အဖွဲ့ကျမ်းစာမူများအခြေအနေ

ပိဋကတ်ပျံ့ပွားရေးအဖွဲ့သည် အဖွဲ့တည်ထောင်ပြီးသည်မှ ၃-နှစ်တာ ကာလအတွင်း အဖွဲ့၏ ပဓာနလုပ်ငန်းဖြစ်သည့် ပေမူရှာဖွေ့ကူးယူ, တည်းဖြတ်ရေးလုပ်ငန်းတို့ကိုကြိုးပမ်းခဲ့ရာ ယခုအခါ ပုံမနှိပ်ဘူးသေးသည့် အဖိုးတန်ရှားပါးပေမူပေါင်း ၄၀-ကျော် ရရှိအောင်မြင်ခဲ့ပါသည်၊ ရန်ပုံငွေအင်အားနှင့် နေရာထိုင်ခင်း အခက်အခဲစသည်တို့ကြောင့် အင်တိုက်အားတိုက် မဆောင်ရွက်နိုင်သေးသည့်တိုင်အောင် ကျေနပ်ဖွယ် အနေအထားသို့ကားရောက်ခဲ့ပါသည်၊ ရန်ပုံငွေအင်အားနှင့် နေရာထိုင်ခင်းစသည်တို့ ယခုထက် အဆင်ပြေမှုရှိပါက တိမ်မြုပ် ပျောက်ကွယ်နေသော ပေစာ, ပေမူတို့ကို ယခုထက်တိုးတက်ရှာဖွေနိုင်မည်ဟု ယုံကြည်ပါသည်၊ ယခုရှာဖွေ ကူးယူရရှိခဲ့သည့် ပေမူ ၄၀-ကျော်တွင် အဖိုးတန်ပေမူများကို ဝမ်းမြောက်အားတက်ဖွယ်ရာ တွေ့ရပါသည်။

## ပျောက်ဆုံးနေသောကျမ်း

၁၃၃၃–ခုနှစ် သီတင်းကျွတ်လ(၁၉၇၁–အောက်တိုဘာလ) တွင် ကမ္ဘာအေး နိုင်ငံတော်ဗုဒ္ဓသာသန အဖွဲ့မှ ရိုက်နှိပ်သော အဘိဓမ္မာဝတာရအဋ္ဌကထာ နိဿယကျမ်းနိဒါန်းတွင်ဝိသောဓက ဆရာတော်များက အဘိဓမ္မာလက်သန်းအဋ္ဌကထာကျမ်းစာရင်း တို့ကိုထုတ်ပြပြီး (၁) ခေမာပကာရဏကျမ်း (၂) နာမစာရ ဒီပကကျမ်း(၃) မောဟဝိစ္ဆေဒနီကျမ်း (၄) သုစိတ္တာ လင်္ကာရ ကျမ်း၊ဤ ၄–ကျမ်းတို့ကို ယခုအခါ ပေမူအဖြစ်ရော ပုံနှိပ်အဖြစ် ရော မတွေ့ရတော့ကြောင်းကို မှတ်ချက်ချ၍ ညည်းညူတော်မူခဲ့ ကြပါသည်၊ ထိုပျောက်ဆုံးနေသော အဘိဓမ္မာ လက်သန်း ၄–ကျမ်းတွင် ယခုအခါ ပိဋကဗျူဟာ၏ စာပေစစ်ဆင်ရေး ကြောင့် သုစိတ္တာလင်္ကာရကျမ်းကို (ပါဠိမူရော–နိဿယမူပါ) တွေ့ရှိကူးယူ မှတ်တမ်းတင်ထားနိုင်ခဲ့ပြီ ဖြစ်ပါသည်၊ ပိဋက ဗျူဟာ၏ ကျမ်းစာ ပေမူများ ဖော်ထုတ်ရေး အစီအစဉ်သည် သာသနာတော်နှင့် စာပေအတွက် မည်မျှအကျိုးသက်ရောက်, မသက်ရောက်နှင့် တန်ဘိုးကြီး, မကြီးကို ဤတကွက်နှင့်ပင် သဒ္ဒါရှင်, ပညာရှင်တို့ဆုံးဖြတ်ချက်ချနိုင်ကောင်းပါသည်။

## အဖွဲ့၏ပေမူကူးလုပ်ငန်းများ

ဤတွင် ပေမူကူးလုပ်ငန်းကို အကဲဖြတ်နိုင်ရန် အနည်းငယ် တင်ပြလိုပါသည်၊ ရှေးဦးစွာ ရှားပါးသော ပေမူတို့ကို စုံစမ်း ရှာဖွေ စုဆောင်းရပါသည်၊ စုဆောင်းရရှိသောပေမူတို့ကို ရှေးက ပုံနှိပ်ဘူး, ပုံမနှိပ်ဘူးကို ကွဲပြားစွာသိနိုင်ရန် ပိဋကတ်တော်သမိုင်း

စသည်တို့နှင့်၎င်း, အတွေ့အကြုံ အကြားအမြင် ဗဟုသုတများနှင့် ၎င်း, မျက်မြင် စာအုပ် စာတမ်း စသည်တို့နှင့်၎င်း စိစစ်၍ ပုံမနှိပ်ဘူးသေးသော ပေမူတို့ကို စကာတင် ရွေးချယ်ရပါသည်၊ ရွေးချယ်ပြီးသော ပေမူတို့ကို လက်ရေးဖြင့် စိတ်ရှည်လက်ရှည် ပေမူအတိုင်း (မူရင်းအတိုင်း) ကူးယူရပါသည်၊ လက်ရေးဖြင့် ကူးယူပြီးသည်တို့ကို လက်နှိပ်စက်ဖြင့် (မူပွား)ကူးယူရပါသည်၊ ထိုပေမူ, လက်ရေးမူ, လက်နှိပ်စက်မူတို့ကို အခြားပေမူကွဲတို့နှင့် ၎င်း,သက်ဆိုင်ရာ ပါဠိတော်,အဋ္ဌကထာ, ဋီကာစသော ကျမ်းဂန် တို့နှင့်၎င်း ညှိနှိုင်းတည်းဖြတ် သုတ်သင်ပြင်ဆင် ရပါသည်၊ ထို့နောက် ကျမ်းပြုဆရာနှင့် ကျမ်း၏ အရည်အသွေးတို့ကို သမိုင်းကြောင်း, စာပေကြောင်းများဖြင့် လေ့လာသုတေသန ပြု၍ ကျမ်း၏နိဒါန်းကို ရေးသားရပါသည်၊ ထိုအခါကျမှ ပုံနှိပ်မူသို့ပို့ဆောင်ရန် အဆင်သင့် အနေအထားသို့ ရောက်ပါ သည်၊ ပိဋကဗျူဟာအဖွဲ့၏ ပေမူကူး အဆင့်ဆင့် လုပ်ငန်းတို့ကို လေ့လာကြည့်ပါက ပေတထုပ်မှ စာတအုပ်ဖြစ်ရန် မလွယ်ကူ ကြောင်းကို တွေ့ရပါမည်။ (အဖွဲ့၏ပဌမကျမ်းစာ ကလျာဏီ ကျောက်စာ မြန်မာပြန်စာအုပ်တွင်ပေစာမူသမိုင်းနှင့်ပေသမိုင်းတို့ ကို လေ့လာတင်ပြခဲ့ပါသည်)။

## ပေမူမှ ပုံနှိပ်မူသို့

အဆင့်ဆင့် ရှာဖွေ,ကူးယူ,တည်းဖြတ်ပြီးသော စာမူကို ပုံနှိပ် ရန်အဆင့်သို့ ရောက်လာသောအခါ (အဖွဲ့ပိုင်စာပုံနှိပ်စက် မရှိ သဖြင့်)သင့်လျော်ကောင်းမွန်သောစာပုံနှိပ်တိုက်သို့စာမူအပ်နှံရပါ၊

သည်၊ပုံနှိပ်တိုက်သို့ စာမူမအပ်မီ စာမူတို့ကို စစ်ဆေးရန် ပြည်ထဲရေးနှင့်သာသနာရေးဝန်ကြီးဌာန စာပေစိစစ်ရေးအဖွဲ့သို့ ကြိုတင်တင်ပြရပါသည်၊ စာမူခွင့်ပြုချက်ရရှိသောအခါ ယင်းခွင့်ပြုချက်နှင့်ပူးတွဲ၍ စက္ကူစာရေးကိရိယာ စာအုပ်နှင့် ဓာတ်ပုံပစ္စည်း ကုန်သွယ်ရေးကော်ပိုရေးရှင်းသို့ စက္ကူဝယ်ယူခွင့် တောင်းရပါသည်၊ စက္ကူဝယ်ယူခွင့်ရ၍ စက္ကူဝယ်ယူပြီးသောအခါ စာမူကိုစာအုပ်ဖြစ်ရန် ရိုက်နှိပ်ရပါသည်၊ပေမူမှပုံနှိပ်မူသို့ အဆင့်ဆင့်ပို့ဆောင်ရပုံကို ဗဟုသုတအဖြစ် လေ့လာနိုင်ရန် တင်ပြခြင်းဖြစ်ပါသည်၊ ဤတွင် ပေမူမှပုံနှိပ်မူသို့ လျင်မြန်စွာ ဖော်ထုတ်ပူဇော်နိုင်ရေးအတွက် တပြိုင်တည်း စာအုပ် ၂-အုပ် ၃-အုပ်(၂-ကျမ်း၊၃-ကျမ်း) စသည် ရိုက်နှိပ်သင့်ပါသော်လည်း စက္ကူအခက်အခဲကြောင့် တအုပ်ပြီးမှတအုပ်(တကျမ်းပြီးမှ တကျမ်း)သာ ရိုက်နှိပ်ခွင့်ရှိပါသည်၊စက္ကူပေါ၍ စက္ကူကို စိတ်ကြိုက်ဝယ်ယူခွင့်ရသည့်တိုင်အောင် အဖွဲ့၏ရန်ပုံငွေအခြေအနေအရ တပြိုင်တည်း ၂-အုပ် ၃-အုပ်ကို လောလောဆယ်တွင် ရိုက်နှိပ်နိုင်အား မရှိသေးပါကြောင်း ရိုးသားစွာ ဝန်ခံအပ်ပါသည်။

## အဖွဲ့ပိုင်ပုံနှိပ်စက်ရှိရေး

ပေမူမှ ပုံနှိပ်မူသို့ပို့ဆောင်ရာတွင် စာအုပ်ကောင်းမွန်ရေး, လျင်မြန်သွက်လက်ရေးတို့အတွက် အဖွဲ့ပိုင်စာပုံနှိပ်စက်ရှိဘို့ လိုအပ်ပါသည်၊ အဖွဲ့ပိုင်စာပုံနှိပ်စက်မရှိသဖြင့် တခြားပုံနှိပ်တိုက်များများတွင် အပ်နှံရသောကြောင့် စာအမှား,အမှန် ပြင်ဆင်ရာ၌ (စာပြင်ရာ၌) စိတ်ကြိုက်မဖြစ်ခြင်း, စောင့်ဆိုင်းပြီးမှ ရိုက်နှိပ်ရ

သဖြင့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ရပါသည်၊ ပိဋကတ်ဗျူဟာအဖွဲ့၏ ကြွေးကြော်ချက်သည် "ပေမူမှသည် ပုံနှိပ်မူသို့"ဖြစ်ပါသည်၊ ထို့ကြောင့် ကြွေးကြော်ချက်နှင့်အညီ လုပ်ငန်းသဘောအရ အဖွဲ့ပိုင်စာပုံနှိပ်စက်ရှိဘို့ အထူးလိုအပ်ပါသည်၊ သို့မှ ကျမ်းစာမူများကို စိတ်ကြိုက်အချိန်ပေးပြင်ဆင်နိုင်သဖြင့် သန့်ရှင်းခြင်း, အမှားအယွင်း ကင်းခြင်း(နည်းပါးခြင်း,) သွက်လက် လျင်မြန်ခြင်းတို့ဖြင့် အဖွဲ့၏ရည်ရွယ်ချက်ကို ပြည့်ဝစွာ အကောင်အထည်ဖော်နိုင်မည်ဖြစ်ပါသည်၊ အဖွဲ့ပိုင်ပုံနှိပ်စက် တည်ထောင်နိုင်ရေးအတွက် ရန်ပုံငွေတသိန်းခန့်ရလျှင် အလုပ်စနိုင်ပြီး နှစ်သိန်းခန့်ဆိုပါက ပြည့်ပြည့်စုံစုံ စိတ်ချလက်ချ ဆောင်ရွက်နိုင်ပါသည်၊ လေလောဆယ်တွင်"စာပုံနှိပ်စက်ရန်ပုံငွေ"ခေါင်းစဉ်တခုသီးသန့်ဖွင့်လှစ်၍ အလှူခံဆောင်ရွက်နေပါသည်၊ ရန်ပုံငွေငါးထောင်ကျော်ကျော်သာ ရရှိပါသေး၍ အလှမ်းဝေးနေပါသေးသည်။

## သဒ္ဒါရှင်–စေတနာရှင်များသို့

ပိဋကတ်ဗျူဟာသည် သာသနာတော်၏ အမွေအနှစ်, တိုင်းပြည်၏အမွေအနှစ်, လူမျိုး၏အမွေအနှစ်ဖြစ်သော ရှေးဟောင်းစာပေ–ပေမူတို့ကို "ပေမူမှသည် ပုံနှိပ်မူသို့" ဟူသော ကြွေးကြော်ချက်ဖြင့် ထိန်းသိမ်းစောင့်ရှောက် အမွေခံနိုင်ရန် အားသန်ကြိုးပမ်းလျက် ရှိပါသည်၊ ပိဋကတ်ဗျူဟာ၏ ရည်ရွယ်ချက်, ဆောင်ရွက်ချက်, မြော်မှန်းချက်တို့ကို စိတ်ဝင်တစား အသေးစိတ် လေ့လာတော်မူကြ၍ မိမိတို့ တတ်နိုင်သောအင်အားဖြင့် တတပ်တအားပါဝင်ဦးဆောင်ကြပါရန် လေးမြတ်စွာ ပန်ကြားအပ်ပါသည်၊

အဖွဲ့ပိုင်စာပုံနှိပ်စက် ထူထောင်နိုင်ရေးအတွက် စွမ်းနိုင်ပါက တဦးချင်း စေတနာရှင် သဒ္ဒါရှင်များကိုရင်း, ကျပ်တသောင်းစီ လှူဒါန်းနိုင်မည့် စေတနာရှင် ဦး ၂၀-(သို့မဟုတ်)ကျပ်ငါး ထောင်စီ လှူဒါန်းနိုင်မည့် စေတနာရှင် ဦး၄၀-စသည့် စုပေါင်း အလှူရှင်များကိုရင်း (လျင်လျင်မြန်မြန် အကောင်အထည်ဖော် နိုင်ရေးအတွက်)အဖွဲ့မှ မြော်ကိုးတောင့်တလျက် ရှိပါသည်၊ တတ်နိုင်သူများက ကိုယ်တိုင်လှူဒါန်းခြင်း, မတတ်နိုင်သူများက နီးစပ်ရာ စေတနာရှင်များကို နှိုးဆော်ပေးခြင်းစသည်ဖြင့် ဝိုင်း ဝန်းတော်မူကြစေလိုပါသည်။

(နိုင်ငံခြားသာသနာပြုတို့သည် မြန်မာပြည်တွင် ခရစ်နှစ် ၁၈၁၆-(မြန်မာနှစ်-၁၁၇၈) နှစ်လောက်ကပင် ကိုယ်ပိုင်စာပုံ နှိပ်စက်ဖြင့် ယနေ့တိုင် တွင်ကျယ်စွာ သာသနာပြုလျက်ရှိပါ သည်၊ မြန်မာနိုင်ငံစာပုံနှိပ်စက်သမိုင်းကို အဖွဲ့၏ ပဋ္ဌမကျမ်းစာ ကလျာဏီကျောက်စာမြန်မာပြန် စာအုပ်တွင် ဖော်ပြထားပါ သည်၊ စာပေဖြင့် သာသနာပြုရေးလုပ်ငန်းကို ဗုဒ္ဓဘာသာဝင်တို့ လေးနက်စွာ စိတ်ဝင်စားတော်မူသင့်ကြပါပြီ)။

## အဖွဲ့ဝင်များအခြေအနေ

ပိဋကတ်ပျူဟာ၏ ဖော်ပြပါပေမူရှာဖွေ,ကူးယူ,တည်းဖြတ်ရေး လုပ်ငန်းများနှင့် ပေမူမှ ပုံနှိပ်မူသို့ ဖော်ထုတ်ပို့ဆောင်သော လုပ်ငန်းများအတွက် ရန်ပုံငွေ အထူးလိုအပ်ပါသည်၊ လော လောဆယ်တွင်မူ ပိဋကတ်ပျူဟာအဖွဲ့ဝင် ပိဋကဝန်ဆောင်ပုဂ္ဂိုလ်

တို့၏ ၁၁၁-(တစ်ရာ တစ်ဆယ့် တစ်ကျပ်)အလှူငွေများကို အများဆုံးအားထားပြီး ခြိုးခြံစွာ ဆောင်ရွက် နေရပါသည်၊ ပိဋကသုံးပုံ(တစ်သုံးလုံး)ကို ရည်ရွယ်မှန်းထား၍ အဖွဲ့ဝင်တဦးလျှင် ၁၁၁-(တစ်ရာ တစ်ဆယ့် တစ်ကျပ်)စီ လှူဒါန်းကြပါသည်၊ ၁၁၁-လှူဒါန်းသော ရဟန်းရှင်လူတို့ကို ပိဋကဗျူဟာအဖွဲ့၏ "ရာသက်ပန်အဖွဲ့ဝင်-ပိဋကဝန်ဆောင်" ပုဂ္ဂိုလ်များအဖြစ် အသိအမှတ်ပြု၍ မှတ်တမ်းတင်ပါသည်၊ ၁၁၁-စီလှူဒါန်းသော ၁၁၁-ဦးစီသော အဖွဲ့ဝင်တို့ကို ပဌမ-ပိဋကဝန်ဆောင်အဖွဲ့, ဒုတိယပိဋကဝန်ဆောင်အဖွဲ့စသည်ဖြင့် စိတ်ဝင်စား၍ အားတက်ဖွယ်ဖြစ်အောင် စီစဉ်သတ်မှတ်ထားပါသည်၊ ပိဋကဗျူဟာ၏ ရည်ရွယ်ချက်, လုပ်ဆောင်ချက်, မြော်မှန်းချက်တို့ကို သဘောကျိုက်ညီကြသော အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဘုရားကြီးများနှင့် ရဟန်းရှင်လူ သာသနာ့ဝင်များက အဖွဲ့ဝင်အဖြစ် ၁၁၁-စီဝိုင်းဝန်းကူညီလှူဒါန်းအားပေးကြပါသည်၊ယခုအခါ ပဌမပိဋကဝန်ဆောင်အဖွဲ့ ၁၁၁-ဦး,ဒုတိယပိဋကဝန်ဆောင်အဖွဲ့ ၁၁၁-ဦး, တတိယ-ပိဋကဝန်ဆောင်အဖွဲ့ ၁၁၁-ဦး, စတုတ္ထ-ပိဋကဝန်ဆောင်အဖွဲ့ ၁၁၁-ဦး, ပဉ္စမ-ပိဋကဝန်ဆောင်အဖွဲ့ ၁၁၁-ဦး, ဆဋ္ဌ-ပိဋကဝန်ဆောင် ၁၁၁-ဦးတို့ ပြည့်မြောက် အောင်မြင်၍ သတ္တမ-ပိဋကဝန်ဆောင် ၁၁၁-ဦးကို ဆက်လက်ဖွဲ့စည်းဆဲ ဖြစ်ပါသည်၊ ယခုအခါ ၁၁၁-အလှူရှင်ပိဋကဝန်ဆောင် အဖွဲ့ဝင်ပေါင်း ၇၀၀-နီးပါး ရှိသွားပြီဖြစ်ပါသည်၊ ထာဝရပိဋကပွဲကတော်အလှူပွဲကြီးအတွက်ပိဋကဝန်ဆောင်အလှူရှင်တို့ကို ပိဋကဗျူဟာမှမြော်လင့်ကြိုဆိုနေပါကြောင်းဖိတ်ကြားအပ်ပါသည်။

## အဖွဲ့လုပ်ငန်းများအခြေအနေ

ပိဋကဗျူဟာအဖွဲ့၏ တည်ရာဌာနကို ရန်ကုန်မြို့ ရွှေတိဂုံစေတီတော် တနင်္ဂနွေဒေါင့် အာဇာနည်ဗိမာန်လမ်းရှိ ဦးစောဒေါ်ဝင်းပိဋကတိုက် ဓမ္မာရုံ(အောက်ထပ်)တွင် ရွှေတိဂုံစေတီတော် ဘဏ္ဍာတော်ထိန်းအဖွဲ့၏ ခွင့်ပြုစီမံပေးချက်အရ ဖွင့်လှစ်ထားပါသည်၊ လောလောဆယ်တွင် ပေမူကူးသူတဦး, ပေမူတည်းဖြတ်သူတဦး, လက်နှိပ်စက်ရိုက်သူတဦး, ငွေစာရင်းနှင့်ရုံးလုပ်ငန်းများ ဆောင်ရွက်သူတဦး–အားလုံး အကျိုးဆောင်ရုံးဝန်ထမ်း ၄–ဦးဖြင့် အဖွဲ့၏လုပ်ငန်းတို့ကို ရုံးပုံစံဖြင့် နေ့စဉ်အချိန်မှန် ဆောင်ရွက်လျက်ရှိပါသည်၊အဖွဲ့ခွဲအဖြစ် မန္တလေးမြို့ စိန်ပန်းရပ် အဘယာရာမရွှေဂူကျောင်းတိုက်တွင် ဒုတိယနာယကဆရာတော် အရှင်သီလာနန္ဒာဘိဝံသမထေရ် ဦးဆောင်၍ ပေမူရှာဖွေ,ကူးယူ,တည်းဖြတ်ရေးလုပ်ငန်းတို့ကို ပုံမှန်ဆောင်ရွက်လျက်ရှိပါသည်၊ ပေမူကူးယူမှု,တည်းဖြတ်မှုစသည်တို့ကို လုပ်ငန်းချင်းမထပ်ရအောင် ရန်ကုန်, မန္တလေး အမြဲဆက်သွယ်၍ စီမံဆောင်ရွက်လျက်ရှိပါသည်၊ အဖွဲ့၏ ပုံမှန်လုပ်ငန်းများအတွက် (ရုံးလုပ်ငန်းများအတွက်) လစဉ် ၂၀၀၀ိ–(နှစ်ထောင်ကျပ်) ဝန်းကျင် ကုန်ကျစရိတ် ရှိပါသည်၊ လုပ်ငန်းတွင်ကျယ်၍ ချဲ့ထွင်ရသည်နှင့်အမျှ ကုန်ကျစရိတ်လည်း ယခုထက်များပြားလာမည် ဖြစ်ပါသည်၊ သို့သော် ရန်ပုံငွေကိုသုံးသပ်၍ ချိန်ဆခြိုးခြံကာ ဝန်ကျဉ်းကျဉ်းဖြင့် အောင်မြင်ရန် ကြိုးစား စီမံခန့်ခွဲလျက်ရှိပါသည်။

## အဖွဲ့ရန်ပုံငွေအခြေအနေ

အဖွဲ့၏ရန်ပုံငွေအင်အားကို ယခုအခါတွင် ပိဋကဝန်ဆောင်အဖွဲ့ဝင်တို့၏ ၁၁ ၅-စီသော အလှူငွေကိုသာ အခြေခံထား၍ ဆောင်ရွက်နေရပါသည်၊ ပဌမကျမ်းစာ ကလျာဏီကျောက်စာမြန်မာပြန်စာအုပ်နှင့် ဒုတိယကျမ်းစာ ဇာတ်ဝိသောဓနစာအုပ်တို့မှ ဓမ္မဒါနအလှူငွေများကို လည်ပတ်စွာ ပြန်လည်ရရှိလာသောအခါ ယခုထက်ရန်ပုံငွေအခြေအနေ တိုးတက်လာဖွယ်ရာရှိပါသည်၊ ယခုအခါ ဝန်ဆောင်အလှူငွေ တခုကိုသာ အားပြုနေရသော်လည်း စာအုပ်များဖြန့်ဝေမှု အရှိန်ရလာသောအခါ စာအုပ်များမှ ပြန်လည် ရရှိလာသော ဓမ္မဒါန ငွေများသည် အဖွဲ့၏ ဒုတိယ ရန်ပုံငွေအင်အားအဖြစ် ရပ်တည်လာလိမ့်မည်ဟု မြော်လင့်ရပါသည်၊ပိဋကဝန်ဆောင်အဖွဲ့ဝင် အလှူငွေအင်အားနှင့် စာအုပ်ဖြန့်ချိမှု ဓမ္မဒါနအလှူငွေ အင်အားတည်းဟူသော ဘီးနှစ်ဘီးတို့ ပုံမှန်လည်ပတ်နိုင်သောအခါတွင် ပိဋကဗျူဟာ၏ ပိဋကတော် (ပေမူ) စစ်ဆင်ရေး ပိဋကတော် ရထားကြီးသည် အောင်လံတော်ကိုလွှင့်ထူ၍ အင်ပြည့်အားပြည့် ရှေ့သို့ချီနိုင်မည်ဖြစ်ပါသည်၊ ထို့ကြောင့် လက်ရှိ ပိဋကဗျူဟာ၏ ပိဋကဝန်ဆောင်အဖွဲ့ဝင် ပုဂ္ဂိုလ်တို့သည် ပိဋကဝန်ဆောင် အဖွဲ့ဝင်သစ်များ တိုးတက်ရေးနှင့် အဖွဲ့၏ကျမ်းစာအုပ်များကို တွင်ကျယ်စွာ ဖြန့်ချိနိုင်ရေးတို့အတွက် အင်တိုက်အားတိုက် လုပ်အားပေးကုသိုလ်ယူတော်မူကြပါရန် အနူးအညွတ်မေတ္တာရပ်ခံ တိုက်တွန်းအပ်ပါသည်။

## ပိဋကတော်ကုသိုလ်ရှင်များ

မြန်မာပြည် ဗုဒ္ဓသာသနာဝင် သူတော်စင်တို့သည် ဗုဒ္ဓသာသနာတော်ကို ပစ္စယာနုဂ္ဂဟဖြင့် ထောက်ပံ့ လှူဒါန်းရာ၌ မည်သူမျှ (မည်သည့်နိုင်ငံမျှ) လိုက်မမှီအောင် သဒ္ဓါအားစေတနာ အား ကြီးမားကြပါပေသည်၊ မရေမတွက်နိုင်သော အလှူဒါန မျိုးစုံကို နေ့စဉ် လစဉ် နှစ်စဉ်မပြတ် လှူဒါန်း၍ အလှူရေစက် လက်နှင့်မကွာ နေခဲ့ကြပါသည်၊ ယင်းသို့ အလှူဒါနမျိုးစုံကို စဉ်ဆက်မပြတ် နေ့စဉ်မပြတ် လှူဒါန်းကြပါသော်လည်း သာသနာတော်၏ မူလဘူတဖြစ်သော ပရိယတ္တိ သာသနာတော် စည်ပင် ရှည်ကြာ ခိုင်ခံ့ တိုးတက်ရေးအတွက် ပိဋကတော် စာအုပ်များကို ဒါယကာခံ၍ ရိုက်နှိပ်ဖြန့်ဝေ လှူဒါန်းသော အမှု၌ကား အားနည်းနေသေးသည်ကို သတိထားမိပါသည်၊ ဤသို့ အားနည်းခြင်း၏ အကြောင်းရင်းကို စိစစ်ကြည့်သော အခါ ဤသာသနာပြု လုပ်ငန်းကြီးအတွက် ဦးဆောင် တိုက်တွန်း စီမံပေးမည့် ပုဂ္ဂိုလ်, အသင်းအဖွဲ့တို့ မရှိသောကြောင့် ဖြစ်ရသည်ကို သုံးသပ်မိပါသည်၊ ယခုအခါ စေတနာရှင်တို့၏ သဒ္ဓါဆန္ဒကို အပြည့်အဝ ဖြည့်ဆည်းပေးနိုင်ရန် ပိဋကဗျူဟာ အဖွဲ့ကို ဩဝါဒါစရိယ ဆရာတော်ကြီးများကြီးမှူး၍ စနစ်တကျ ဖွဲ့စည်းတည်ထောင်နိုင်ခဲ့ပြီ ဖြစ်ပါသည်၊ ထို့ကြောင့် ပိဋကတော် ကုသိုလ်ရှင်များကို ပိဋကဗျူဟာအဖွဲ့မှ သာသနာတော် အတွက်စောင့်မြော်ကြိုဆိုနေပါကြောင်း လေးမြတ်စွာ ဖိတ်မန္တက ပြုအပ်ပါသည်။

## သာသနာပြု ကုသိုလ်ထူးကြီး

သီဟိုဠ်နိုင်ငံတွင် ဆရာတော်ကြီးများ၏ ဦးဆောင်စီစဉ် ညွှန်ကြားချက်အရ ကွယ်လွန်သူ သဒ္ဓေးကြီး "မစ္စတာ ဆိုင်မွန် ဟေဝဝိတရဏ"ကို ရည်မှန်း၍ ကျန်ရစ်သူ ဇနီးသားသမီးများက ရှားပါးသော အဋ္ဌကထာ, ဋီကာစာအုပ်ကြီးများကို ရိုက်နှိပ်၍ သာသနာပြုကုသိုလ်ကြီးကို ပြုခဲ့ကြပါသည်၊ စာအုပ်တိုင်းတွင်လည်း ကွယ်လွန်သူ မစ္စတာဆိုင်မွန် ဟေဝဝိတရဏ ဓာတ်ပုံနှင့် ဆုတောင်းအမျှဝေစာတို့ကို စနစ်တကျထည့်သွင်း၍ သဒ္ဓါတူ စေတနာတူတို့ကို အတုယူ နည်းရစေခဲ့ပါသည်၊ ဤပိဋကအလှူ ကုသိုလ်ကြီးသည် သာသနာတော်သုံးရပ်၏ မူလဘူတ အခြေခံ ဖြစ်သော ပရိယတ္တိ သာသနာတော်အတွက် ကြီးမားသော အထောက်အပံ့ဖြစ်၍ သာသနာပြုကုသိုလ်စစ်စစ်ကြီး ဖြစ်ခြင်း, ပညာပါရမီ ကုသိုလ်ထူးကြီးဖြစ်ခြင်း, အစဉ်အမြဲတည်တံ့သော ထာဝရကုသိုလ်ထူးကြီးဖြစ်ခြင်း, ပညာရှင်တို့ ဤကျမ်းစာကို ဖတ်ရှုသင်ကြား ပို့ချလေတိုင်း ကုသိုလ်တရား တိုးပွားနေခြင်း. စသည့် များလှစွာသော အကျိုးထူးများကို ရရှိသည့်အပြင် လူမျိုး တိုင်းပြည်နှင့် သာသနာတော်အတွက် ကြီးမြတ်သော အကျိုးစီးပွားကို ဖြစ်ထွန်း တိုးတက်စေသဖြင့် သာဓုခေါ်၍ ဂုဏ်ယူဖွယ်မဆုံးသော အကျိုးပြု လုပ်ငန်းကြီး ဖြစ်ပါသည်၊ သဒ္ဓါရှင် ပညာရှင်တို့ စဉ်းစားနိုင်ရန်, အတုယူနိုင်ရန်, ဆောင်ရွက်နိုင်ရန် ဓလေးစားစွာ တင်ပြအပ်ပါသည်။

## ထာဝရပိဋကတော် အလှူရန်ပုံငွေ

ပိဋကကျမ်းစာများကို ရိုက်နှိပ်သောအခါ စာအုပ်အကြီး, အသေး၊ အုပ်ရေအနည်း, အများ၊ စက္ကူကောင်း, မကောင်း အလိုက် ကုန်ကျစရိတ် ကွာခြားမှုရှိပါသည်၊ ခေတ်အားလျော်စွာ အကြမ်းဖျင်းတင်ပြရပါသော် အနည်းဆုံး ငါးထောင်ကျပ်မှ သုံးသောင်းကျပ် ဝန်းကျင်အထိ ကုန်ကျစရိတ်ရှိပါသည်၊ ဥပမာ- စေတနာရှင်တဦးက ကျပ်တစ်သောင်းတန် ပိဋကစာအုပ်ရိုက်နှိပ်ရန်အတွက် ပိဋကဗျူဟာအဖွဲ့အား အလှူငွေ ကျပ်တစ်သောင်း လှူလာပါလျှင် ထိုအလှူရှင်၏ အလှူငွေဖြင့် ထိုစာအုပ်ကို ရိုက်နှိပ်ပြီး သင့်လျော်သောနှုန်းထားဖြင့် ဖြန့်ချိသောအခါ အမြတ်ငွေ ကျပ်တစ်သောင်းခန့် ရရှိလာသည်ဆိုပါစို့၊ ထိုအခါ မူလအလှူငွေ ကျပ်တစ်သောင်းနှင့် အတိုးအပွားအလှူငွေ ကျပ်တစ်သောင်းကိုပေါင်း၍ ထိုအလှူရှင်အမည်ဖြင့် ထာဝရပိဋကတော်အလှူ ရန်ပုံငွေအဖြစ် ထိုကျပ်နှစ်သောင်းကို ဘဏ်တွင် သီးသန့်အပ်ထားပါမည်၊ ရရှိတိုးပွားလာသော ဘဏ်တိုးငွေများသည်လည်း ထိုအလှူရှင်၏ အလှူငွေများပင် ဖြစ်ပါသည်၊ ကျမ်းစာအစီအစဉ် အားလျော်စွာ ထိုအလှူရှင်၏ ထိုထာဝရအလှူငွေမှ ရန်ပုံငွေများဖြင့် ကျမ်းစာများကို ဆက်ကာ ဆက်ကာ ပုံနှိပ်ဖြန့်ချိသွားမည်ဖြစ်ရာ တိုးပွားလာမည်ဖြစ်သော အလှူငွေများနှင့် ထိုအလှူငွေကြောင့် တိမ်မြုပ်နေသော ပိဋကတော်ပေမူများ စာအုပ်အဖြစ်သို့ ပေါ်ထွန်း၍ သာသနာတော်အကျိုးဆောင်ရွက် သည်ပိုးနိုင်မည်ကို မှန်းမြော်ကြည်ညို သဒ္ဒါပွားနိုင်

ပါသည်၊ သားမြေး စဉ်ဆက်တို့လည်း အမှတ်တရ ဝမ်းမြောက် ဂုဏ်ယူမဆုံး ကုသိုလ်ပွားရမည့် "ထေရဝါဒပိဋကတော်အလှူရန်ပုံငွေ" အစီအစဉ် ဖြစ်ပါသည်။

## အမာခံရန်ပုံငွေ

ယခုအခါ ပိဋကဗျူဟာအဖွဲ့တွင် ဖော်ပြပါအစီအစဉ်ဖြင့် လှူဒါန်းသော စေတနာရှင် နည်းပါးနေသေးသော်လည်း အဖွဲ့၏ လုပ်အားနှင့် စေတနာရှင်တို့၏ သဒ္ဓါအားတို့ဆုံဆည်းတိုက်ဆိုင် လာသောအခါ မလွဲမသွေတိုးတက်လာမည်ကို ယုံကြည်ရင်းရှိ ပါသည်၊ လောလောဆယ်တွင် "ထေရဝါဒ ပိဋကတော် အလှူ ရန်ပုံငွေ" ခေါင်းစဉ်ဖြင့် ငွေစာရင်းသီးသန့်တခု ဖွင့်လှစ်ထား ပါသည်၊ ပိဋကဗျူဟာ အဖွဲ့ဝင်များနှင့် စေတနာရှင်များ လှူဒါန်းထားသော အလှူငွေအချို့ကို ထိုစာရင်းခေါင်းစဉ် အောက်သို့ပို့၍ ဤရန်ပုံငွေကို မ–တည်ဖွင့်လှစ်ပါသည်၊ "ထေရဝါဒ ပိဋကတော် အလှူရန်ပုံငွေ"၏ ရည်ရွယ်ချက်မှာ ပိဋကဗျူဟာ၏ ရုံးလုပ်ငန်းအဖွဲ့မှ အဆင့်ဆင့် စီစဉ်ဆောင်ရွက်ပြီးသော ပေမူတို့ကို ကျမ်းစာအုပ်အဖြစ်သို့ ပို့ဆောင် ဖော်ထုတ်ရာ၌ ရေရှည်တွင် အကျော်အခံမရှိပဲ ရန်ပုံငွေသီးသန့်အင်အား ရှိနေစေရန်နှင့် ကျမ်း စာအုပ်များ စဉ်ဆက်မပြတ် ရိုက်နှိပ်နိုင်ရန်ကို အဓိကရည်ရွယ် ပါသည်၊ ဤရန်ပုံငွေကို ကျမ်းစာအုပ်များ ရိုက်နှိပ်ရေးမှတပါး အခြားအဖွဲ့လုပ်ငန်းများတွင် သုံးစွဲပိုင်ခွင့် မရှိစေရပါ၊ ဤရန်ပုံ ငွေသည် ကျမ်းစာအုပ်များရိုက်နှိပ်ရေးအတွက် ကျောထောက် နောက်ခံ(အမာခံ)ရန်ပုံငွေ ဖြစ်ပါသည်။

## မ–တည်ရန်ပုံငွေ

ဥပမာ–စေတနာရှင်တဦးက ဤရည်ရွယ်ကို ကျေနပ်အားရ၍ အလှူငွေကျပ် ငါးထောင် (သို့မဟုတ်) ကျပ်တစ်သောင်းကို လှူဒါန်းလာသည် ဆိုပါစို့၊ မူလရန်ပုံငွေများနှင့် ပူးပေါင်း၍ ကျမ်းစာအုပ်များကို စဉ်ဆက်မပြတ် ရိုက်နှိပ်နိုင်ခြင်း, ထိုကျမ်းစာအုပ်များမှ ရန်ပုံငွေများ ထပ်ဆင့်တိုးပွားလာခြင်း, ဘဏ်တိုးများရသဖြင့် အလှူငွေတိုးပွားလာခြင်းစသည်ဖြင့် ထေရဝါဒပိဋကတော်အလှူကြီးကို ပေးလှူနေရသည်သို့ သာသနာနှင့်ဒါယကာကို အကျိုးကြီးမြတ်စေမည် ဖြစ်ပါသည်၊ ပိဋကဗျူဟာအဖွဲ့အနေဖြင့်လည်း ဤသို့ကျမ်းစာအုပ် ရိုက်နှိပ်ရေးအတွက် သီးသန့်ရန်ပုံငွေအင်အား တောင့်တင်းနေခဲ့ပါသော် နောက်ပိုင်းခံတပ်လုံနေသဖြင့် ပိဋကတော်ဖော်ထုတ်ရေးတွင် ရှေ့တန်းစစ်သင်ရေးသဖွယ်ဖြစ်သော ပေမူများရှာဖွေခြင်း, စုဆောင်းခြင်း, ထိန်းသိမ်းခြင်းစသော လုပ်ငန်းတို့ကို ပိဋကဝန်ဆောင်အဖွဲ့ဝင်တို့၏အလှူငွေများဖြင့် အင်ပြည့်အားပြည့် ဆောင်ရွက်သွားနိုင်မည် ဖြစ်ပါသည်၊ ထို့ကြောင့် သာသနာတော်အတွက် ထေရဝါဒကုသိုလ်ကြီးလည်းဖြစ်သော, မိမိတို့သားစဉ်မြေးဆက်အတွက် ထေရဝါဒကောင်းမှုကြီးလည်းဖြစ်သော, သာသနာ့အမွေအနှစ် တိုင်းပြည်အမွေအနှစ် လူမျိုးအမွေအနှစ်တို့ကို မြတ်နိုးသိမ်းပိုက် ထိန်းသိမ်းရာလည်းရောက်သော ဤ "ထေရဝါဒပိဋကတော် အလှူရန်ပုံငွေ" ကို ဗုဒ္ဓဘာသာဝင်တိုင်း လက်ဆင့်ကမ်း သတင်းကောင်းပါး၍ ပါဝင်လှူဒါန်း အားဖြည့်တော်မူကြပါရန် တင်ပြနှိုးဆော်အပ်ပါသည်။

## ကျမ်းစာရိုက်နှိပ်ရေးအစီအစဉ်

ဤတွင် ပိဋကဗျူဟာ၏ ကျမ်းစာအုပ်များ ရိုက်နှိပ်ရေး အစီအစဉ်ကို တင်ပြလိုပါသည်၊ ပိဋကဗျူဟာ၏ ပဌမကျမ်းစာ ကလျာဏီကျောက်စာ မြန်မာပြန်နှင့် ဒုတိယကျမ်းစာ ဇာတ် ဝိသောဓနတို့ကို စာအုပ်အနေအထား, အရွယ်အစားအားဖြင့် ကြည့်သော် အားမရစရာ ဖြစ်ကောင်းဖြစ်နေပါမည်၊ သို့သော် "ငယ်သာငယ်-ပြည်တယ်မယ့်သား" ဆိုသကဲ့သို့ ကျမ်းသေးသော် လည်း တန်ဘိုးမသေးကြောင်းကိုမူ ပညာရှင်တို့ အကဲခတ်နိုင်ဖွယ် ရှိပါသည်၊ တနည်းအားဖြင့် ကျမ်းကြီးကျမ်းခိုင်ခေါ်သော စာ အုပ်ထူကြီးများဖြင့် မြင်ဘန်းလှအောင် ပွဲဦးထွက်၍ စေတနာ ရှင်များကို အားရပါးရ ကြွေးကြော်တင်ပြလိုပါသော်လည်း ရန်ပုံငွေအခက်အခဲ, ကျမ်းစာမူအခက်အခဲ, စက္ကူအခက်အခဲ, စာပုံနှိပ်စက်အခက်အခဲစသည်တို့မှ လူးလှန့်အားယူစ ဖြစ်သော ပိဋကဗျူဟာ အနေဖြင့် "ရွှေခါချဉ်မာန်ကြီးလို့၊ တောင်ကြီး ဖြိုမယ့်ကြံ၊ ခါးကမသန်" ဖြစ်နေပါသေးသည်ကို ရိုးသားစွာ ဝန်ခံအပ်ပါသည်၊ သို့သော် တတိယကျမ်းစာအဖြစ် ထွက်ပေါ် လာမည့် "ဝဇိရဗုဒ္ဓိဋီကာ နိဿယကျမ်းကြီး" စသည် တို့ကိုမူ အားကောင်း မောင်းသန်အဖြစ် အားရပါးရ ဖူးတွေ့ရမည် ဖြစ်ပါသည်၊ ထို့ကြောင့် အားယူစဖြစ်သော ပိဋကဗျူဟာ အား "လက်ဖက်ကောင်းစားလို၍ ပလောင်တောင်တက် နွေး နေခြင်း" ဟု မေတ္တာဖြင့် ခွင့်လွှတ်တော်မူကြပါရန် ပန်ကြား အပ်ပါသည်။

## ကျမ်းစာရွေးချယ်ရေးမှု

ဤနေရာ၌ ပိဋကဗျူဟာ၏ ကျမ်းစာရွေးချယ်ရေး "မူ"ကို ပိုမိုစိတ်ရှင်းအောင် ထပ်မံဆွေးနွေး တင်ပြလိုပါသေးသည်၊ ပိဋကဗျူဟာ၏ ရည်ရွယ်ချက်သည် "ပုံနှိပ်အဖြစ်သို့မရောက်ဘူး သေးသော ပိဋကစာပေ (ပေမူ)တို့ကို ပုံနှိပ်အဖြစ်သို့ ဖော်ထုတ် ပူဇော်ရန်" ဖြစ်ပါသည်၊ ထိုသို့ဖော်ထုတ်ရာတွင် (၁) စာအုပ် လည်းကြီး, အကျိုးလည်းကြီးမည့်ပေမူ၊ (၂) စာအုပ်သာကြီး၍ အကျိုးမများမည့်ပေမူ၊ (၃) စာအုပ်ငယ်သော်လည်း အကျိုး ကြီးမည့်ပေမူ၊ (၄) စာအုပ်လည်းငယ်, အကျိုးလည်း မများ မည့် ပေမူ-ဟူ၍ရှိရာတွင် နံပါတ်(၁-၃)အမျိုးအစားကို ဦးစား ပေး၍ ရွေးချယ်ပါသည်၊ ပုံနှိပ်ဘူးပြီးသည့်ထဲမှ ဥပမာ ပြရပါ သော် ဝိသုဒ္ဓိမဂ်ကျမ်းကြီးသည် စာအုပ်လည်းကြီး၍ တန်ဘိုး လည်းကြီးသော ကျမ်းမျိုးဖြစ်၍ အဘိဓမ္မတ္ထသင်္ဂဟ (သင်္ဂြိုဟ်) ကျမ်းသည် စာအုပ်ငယ်သော်လည်း တန်းဘိုးကြီးမားသော ကျမ်းမျိုးဖြစ်ပါသည်၊ ပိဋကစာပေသမိုင်းတွင် သင်္ဂြိုဟ်ကျမ်းကို ကျမ်းစာအုပ်သေးငယ်သော်လည်း"လက်သန်းကျမ်း"ဟူ၍တခမ်း တနား တရိုတသေ မော်ကွန်းထိုးခဲ့ကြပါသည်၊ ကျမ်းကြီး သော်လည်းအကျိုးသိပ်မပြီးသောကျမ်းမျိုးကိုမူ"ဖွဲ့အိတ်ကြီး"ဟု ဆိုရိုးရှိခဲ့ပါသည်၊ ထို့ကြောင့် ကျမ်းစာမူကောင်း, မကောင်းကို စံပြုရာတွင် ကျမ်းစာမူအကြီး, အသေး, အနည်း, အများသည် ပမာဏမဟုတ်ပဲ ကျမ်း၏ အရည်အသွေးသည်သာ ပမာဏဖြစ် ကြောင်းကို ပိဋကစာပေသမိုင်းတွင် ပိဋကစာပေပညာရှင်တို့က စံပြုသတ်မှတ်တော်မူခဲ့ကြပါသည်၊ ကျမ်းစာမူတို့ကို ရွေးချယ်

ရာတွင် ပိဋကတ်ဗျူဟာသည် ပိဋကစာပေညာရှင်တို့၏ "စ"ကို "မူ"အဖြစ် ရှိသေစွာ ခံယူပါသည်။

### ကျမ်းစာကောင်းများဖော်ထုတ်ရေး

မြန်မာပြည်၌ ပိဋကစာပေတို့ကိုရိုက်နှိပ်ဖြန့်ဝေကြရာတွင် ဈေးကွက်အနေဖြင့် (၁) စာမူကောင်း, ရောင်းကောင်း၊ (၂) စာမူကောင်း, ရောင်းမကောင်း၊ (၃) စာမူမကောင်း, ရောင်းကောင်း၊(၄) စာမူမကောင်း, ရောင်းမကောင်းတို့တွင် နံပါတ် (၁-၃) အမျိုးအစားကို ဦးစားပေး ရွေးချယ်လေ့ရှိပါသည်၊ ထို့ကြောင့် စာမူကောင်းသော်လည်း ရောင်းမစွံဟုထင်ခံရသော စာမူတို့သည် ပေထဲတွင်သာ ကိန်းစက်နေခဲ့ရခြင်း ဖြစ်ပါသည်၊ ပိဋကတ်ဗျူဟာသည် ပေမူများကို ပုံနှိပ်စာအုပ်အဖြစ် ရိုက်နှိပ်၍ သင့်လျော်သော ဓမ္မဒါနငွေဖြင့် လုပ်ငန်းလည်ပတ်နိုင်ရန်နှင့် သာသနာတော်နှင့် စာပေအတွက် ရေရှည်ဆောင်ရွက်သွားနိုင်ရန် ဖြန့်ဝေပါသော်လည်း စီးပွားရေးကိုစွမဟုတ်ပဲ သာသနာရေး, စာပေရေးကိစ္စသာ ဖြစ်ပါသဖြင့် နံပါတ် (၁-၂)တို့ကိုသာ ဦးစားပေး ရွေးချယ်မည်ဖြစ်ပါသည်၊ နံပါတ် (၁-၂) အမျိုးအစားတွင်လည်း စီးပွားရေးအမြင်ဖြင့် နံပါတ် (၁) အမျိုးအစားကို အများအားဖြင့် အကြိမ်ကြိမ်ရိုက်နှိပ်ခဲ့ကြပြီးဖြစ်သဖြင့် ကောက်သင်းကောက်အနေဖြင့် နံပါတ်(၁) အမျိုးအစားသည် အနည်းငယ်သာ ကျန်ကောင်းကျန်ပါတော့မည်။

### စာပေမြော်ရည်ချက်

ပိဋကတ်ဗျူဟာအနေဖြင့် အမှန်တကယ် တာဝန်ယူဖော်ထုတ်ရမည့် အခြေအနေသည် နံပါတ်(၂) အမျိုးအစားဖြစ်သည့်

ကျမ်းစာကောင်းသော်လည်း ရောင်းမကောင်းမည့် ပေမူများ သာ အများဆုံးဖြစ်ဖွယ်ရာ ရှိပါသည်၊အပယ်ခံဘဝ ရောက်နေ ရှာသော ကျမ်းစာမူကောင်းတို့ကို ဖော်ထုတ်နိုင်မှုလည်း ပိဋက ဗျူဟာ၏ ရည်ရွယ်ချက်သည် ပိပြင်စင်ကြယ်မည်ဟု သဘော ရပါသည်၊ ရောင်းကောင်း, မကောင်းဟူသော အဆုံးအဖြတ် သည်လည်း စာအုပ်ဈေးကွက်တွင် မူသေမရှိပဲ "မကြံစည်သော် လည်းဖြစ်–ကြံစည်သော်လည်းပျက်" ဟူသော လောကဓံ၏ အလှည့်အပြောင်းအတိုင်းသာ ဖြစ်တတ်ပါသည်၊ တနည်းအားဖြင့် ရောင်းကောင်း, မကောင်းသည် ဆောင်ရွက်သူတို့၏ ကြိုးစားမှုဝီရိယ, ချင့်ချိန်မှုဉာဏ်နှင့်စီမံဆောင်ရွက်မှုကံ(လုပ်အား) ပေါ်တွင်သာ မူတည်ပါသည်၊ ထို့ကြောင့် ပိဋကဗျူဟာ၏ ပိဋကတော်ဖော်ထုတ်စစ်ဆင်ရေးတွင် ရောင်းကောင်း, မကောင်း သည် ပဓာနမဟုတ်ပဲ ကျမ်းကောင်း, မကောင်းသည်သာ ပဓာနဖြစ်ကြောင်း ပြတ်သားစွာ ဆုံးဖြတ်ချက် ချပါသည်၊ ရောင်းမကောင်းသော်လည်း ကျမ်းကောင်းတို့သည် ပရိယတ္တိ သာသနာတော်ကို အားဖြည့်ပေးပါလိမ့်မည်၊ စာပေအင်အားကို နှစ်ဆတိုးစေပါလိမ့်မည်၊ ဤသည်လျှင် ပိဋကဗျူဟာ၏ စာပေ မြော်ရည်ချက်ဆန္ဒ ဖြစ်ပါသည်။

## စာပေခံယူချက်

ပိဋကဗျူဟာကို ဖွဲ့စည်း၍ ပိဋကတော်ပေမူတို့ကို ဖော်ထုတ် ရာတွင် ဤအခက်အခဲမျိုးနှင့် ရင်ဆိုင်ရမည်ကို ရှေးမဆွကပင် မြော်မြင်ခဲ့ပါသည်၊ ထို့ကြောင့်လည်း အမာခံအင်အားအဖြစ်

ပိဋကဝန်ဆောင်အဖွဲ့ဝင်များနှင့် ထာဝရပိဋကအလှူရှင် စသည်တို့ကို ကြိုဆိုဖိတ်ခေါ် စုစည်း အားယူရခြင်း ဖြစ်ပါသည်၊ ကျမ်းကောင်း, မကောင်းကို အလေးမထားပဲ ရောင်းကောင်း, မကောင်းကိုသာ ဦးစားပေးခဲ့ပါသော် စီးပွားရေးလုပ်ငန်း ဆန်လွန်းသွားမည်ဖြစ်ပြီး "ပုံနှိပ်မှုအဖြစ်သို့ မရောက်ဘူးသေးသော ပေမူတို့ကို ပုံနှိပ်မှုအဖြစ်သို့ ဖော်ထုတ်ပူဇော်အံ့" ဟူသော ကြွေးကြော်ချက် သည်လည်း ရေစုန်မျော၍ ပျက်စီးသွားမည် ဖြစ်ပါသည်၊ ထို့ကြောင့် ပေမူတို့ကို ပုံနှိပ်မှုအဖြစ်သို့ ရွေးချယ်ဖော်ထုတ်ရာတွင်—

(၁) ပုံမနှိပ်ဘူးသေးခြင်း၊

(၂) ကျမ်းအရည်အသွေး ကောင်းမွန်ခြင်း၊

(၃) ပရိယတ္တိ သာသနာတော်အတွက် ကျေးဇူးများခြင်း—

တို့ကို ဦးစားပေးသုံးသပ်၍ (၁) စာအုပ်အကြီး, အသေး၊ (၂) ရောင်းကောင်း, မကောင်း၊ (၃) လူပုဂ္ဂိုလ်များ ဖတ်နိုင်, မဖတ်နိုင်စသည်တို့ကား ဒုတိယထား၍ စဉ်းစားရမည့် အချက်များ ဖြစ်ပါသည်၊ ဤသည်လျှင်ပိဋကဗျူဟာ၏ စာပေခံယူချက်(စာမူ–ပေတံ)ဖြစ်ပါသည်။

## စာပေသမိုင်းခရီးရှည်ကြီး

အထက်ပါရည်ရွယ်ချက်သုံးမျိုးဖြင့် ဖော်ထုတ်မည့်ကျမ်းစာ (ပေမူ)တို့သည် ယေဘုယျအားဖြင့်(၁) ပါဠိကျမ်းစာမူ၊(၂) မြန်မာကျမ်းစာမူ၊(၃)ပါဠိ,မြန်မာကျမ်းစာမူဟု သုံးမျိုးရှိမည် ဖြစ်ပါသည်၊ထိုတွင် အဆင်ပြေ၍ အခြေအနေပေးသည့်မူကို ရွေး

တန်းတင်၍ ဖော်ထုတ်သွားမည်ဖြစ်ပါသည်၊ပိဋကဗျူဟာ၏ကြိုး စားချက်,စေတနာရှင်ဒါ ယကာရှင်တို့၏ အားပေးချက်တို့ ဟန်ချက် ညီ၍ အရှိန်ရလာသောအခါ(သို့မဟုတ်)ရန်ပုံငွေအခက်အခဲ,စက္ကူ အခက်အခဲစသည်တို့ကို လွန်မြောက်နိုင်လာသောအခါတွင်မူကား (၁)ပုံနှိပ်ဘူးသော်လည်း ပြတ်လပ်ရှားပါးနေသော ကျမ်းစာ များ၊(၂) စာချ,စာသင်အရှင်မြတ်တို့အတွက် လိုအပ်နေသော ကျမ်းစာများ၊(၃) လူပုဂ္ဂိုလ်များပါအလွယ်တကူဖတ်ရှုလေ့လာ ကျင့်သုံးနိုင်မည့်ကျမ်းစာများ(၄)ပါဠိစာပေ,မြန်မာစာပေတို့ကို အထောက်အကူဖြစ်စေမည့်ကျမ်းစာများ စသည်တို့ကို ဖော်ထုတ် ခြင်း,ဖြည့်တင်းခြင်း,အသစ်ပြုစုတန် ပြုစုခြင်းစသည်ဖြင့် ရှည်လျား လှစွာသော စာပေခရီးသမိုင်းရှည်ကြီးကို ပခုံးပြောင်းစနစ်,လက် ဆင့်ကမ်းစနစ်တို့ဖြင့် မဆုတ်မနစ် ကြိုးပမ်းသွားကြရမည်ဖြစ်ပါ သည်၊ဤသည်လျှင် ပိဋကဗျူဟာ၏ စာပေသမိုင်း ခရီးရှည်အစီ အစဉ်ဖြစ်ပါသည်။

## ပိဋကသမိုင်းတိုက်ကြီး

ပိဋကဗျူဟာသည် ပိဋကတော်စစ်ဆင်ရေးဖြင့် ပိဋကစာပေ (ပေမူ) တို့ကို ရှာဖွေခြင်း, ကူးယူခြင်း,တည်းဖြတ်ခြင်း, ရိုက်နှိပ် ခြင်း,ဖြန့်ဝေခြင်း,ပြန့်ပွားစေခြင်း,အားဖြည့်ခြင်း,အသစ်ပြုစုခြင်း စသည်တို့ကို တဖက်မှ အလစ်အလပ်မရှိကြိုးပမ်းယင်း တဖက်မှ လည်း ထိုရှာဖွေ, ကူးယူ, တည်းဖြတ်, ရိုက်နှိပ်ပြီးသော ပေမူ, လက်ရေးမူ, လက်နှိပ်စက်မူ, ပုံနှိပ်မူတို့ကို စနစ်တကျထိန်းသိမ်း၍ မော်ကွန်းတင်ထားရန် ကြိုးပမ်းရမည်ဖြစ်ပါသည်၊ထိုထက်အရှည်

မြော်တွေးပါသော် မြန်မာပြည်အရပ်ရပ်တွင် အကြောင်းအမျိုးမျိုးကြောင့် အဖိုးတန်ပိဋကစာပေ(ပေမူ)များ အပါအဝင် ရှေးဟောင်းအမွေအနှစ်ဖြစ်သည့် ပေမူ၊ ပရပိုက်မူ၊ လက်ရေးမူစသည်တို့သည် ထိန်းသိမ်းစောင့်ရှောက်မှုနည်းပါးသဖြင့် များစွာပျက်စီးဆုံးရှုံးခဲ့ရပါပြီ၊ ထိုသာသနာ့အမွေ စာပေအမွေ တိုင်းပြည်အမွေ လူမျိုးအမွေ အစစ်အမှန်ဖြစ်ကြသည့် စာပေဆိုင်ရာ သမိုင်းအထောက်အထားဆိုင်ရာ ရှေးဟောင်းအမွေအနှစ်တို့ကို စနစ်တကျစုပေါင်းရှာဖွေ၍ ရှည်ကြာလေးမြင့်ခိုင်ခံ့အောင် စောင့်ရှောက်ထိန်းသိမ်းရန် ဗုဒ္ဓဘာသာဝင်တို့တွင် တာဝန်ရှိနေပါသည်၊ သိင်္ဂုတ္တရကုန်းမြေရှိ လေးဆူဓာတ်ပုံ ရွှေတိဂုံစေတီတော်မြတ်ကြီး၏ ထီးတော်ရိပ်တွင် "ပိဋကသမိုင်းတိုက်ကြီး"ကို တည်ဆောက်၍ ရှေးဟောင်းပိဋကတော်ပေမူ၊ ပရပိုက်မူ၊ ပုံနှိပ်မူစသည်တို့ကို (ဗုဒ္ဓသာသနာ သမိုင်းခေတ်အလိုက်) စနစ်တကျ ထိန်းသိမ်းစောင့်ရှောက် ပူဇော်ပြသထားရန် ပိဋကဗျူဟာသည် မြော်လင့်ချက်ကြီးစွာဖြင့် ရည်မှန်းလျက်ရှိပါသည်။

**မှတ်ချက်။** ။ဤပိဋကသမိုင်းတိုက်ကြီးအတွက် သိန်း ၅၀-ခန့် ကုန်ကျပါမည်၊ သဒ္ဓါရှင် ပညာရှင်ခေါင်းဆောင်ကောင်းတို့ စနစ်တကျ စီမံကိန်းချ၍ သဒ္ဓါကြီးကြီး ဉာဏ်ကြီးကြီး ဝီရိယကြီးကြီးဖြင့် ဦးဆောင်ပြီး တပြည်လုံးရှိ ဗုဒ္ဓဘာသာဝင်တို့၏ စုပေါင်း အင်အားဖြင့် ဆောင်ရွက်ပါက ၁၀-နှစ်အတွင်း အကောင်အထည်ဖော်နိုင်မည်ဟု ဗုဒ္ဓဘာသာဝင်တို့၏ အင်အားကို ယုံကြည်အားထားပါသည်၊ ရွှေတိဂုံစေတီ ထီးတော်ရိပ်တွင် ပိဋကသမိုင်းတိုက်ကြီး ရှိသင့်ကြောင်းနှင့် ပိဋကဗျူဟာ၏ ရည်

မှန်းချက်တို့ကို ကလျာဏီကျောက်စာမြန်မာပြန် စာအုပ်တွင် အစပျိုးတင်ပြခဲ့ပါသည်။

## ဒဂုံ–သထုံ–ပုဂံ သာသနာဆက်

ပုဂံခေတ်ဦးသမိုင်းကို မြော်ကြည့်လိုက်ပါသော် တိုင်းပြည် လူမျိုး သာသနာတော်ကိုဖျက်ဆီး၍ နှစ်ပေါင်းများစွာ မင်းမှု အနိုင်ယူခဲ့သော အရည်းကြီးဝါဒဆိုးကို မထေရ်မြတ်ရှင်အရဟံနှင့် မင်းတရားအနော်ရထာတို့သည် ဓမ္မစကြာ အာဏာစက်ဖြင့် သွက်သွက်ကြီး တိုက်ဖျက်၍ တိုင်းပြည် လူမျိုး သာသနာတော်ကို ထိုးတက်ကြီးပွားစေမည့် ထေရဝါဒ ဗုဒ္ဓ သာသနာတော်ကို ဤနိုင်ငံနှင့် ဤလူမျိုးတို့အတွက် အမျိုးမျိုးသော အခက်အခဲ ကြားမှ ကြီးမားသော သဒ္ဓါအား ဉာဏ်အား ဝီရိယအား တို့ဖြင့် တည်ဆောက်၍ အမွေပေးတော်မူခဲ့ကြပါသည်၊ ထိုသို့ တိုင်းပြည်နှင့် လူမျိုးကို အကျိုးပြုမည့် ထေရဝါဒဗုဒ္ဓသာသနာ တော်ကို တည်ဆောက်ကြရာတွင် အယူဝါဒမှားတို့ကို ဖယ်ရှား ၍ အယူဝါဒမှန်တို့ကို ရှင်သန်တိုးတက်စေနိုင်ရေးအတွက် ပိဋက တော် စာပေများနှင့် ပိဋကတိုက်ကြီးကို တိုက်စစ်၊ ခံစစ်အဖြစ် အားယူအခြေပြုခဲ့ကြောင်းကို ပုဂံသမိုင်းကြောင်းက နှစ်ပေါင်း များစွာ ပြောပြခဲ့ပါသည်၊ ပုဂံသားတို့ အသိဉာဏ်မှန်ကန် တိုး တက်ရေးအတွက် ပုဂံ ပိဋကတိုက်တော်ကြီးကို ခံတပ်ပြုပြီး ပိဋက တော် စာပေစစ်ဆင်ရေးဖြင့် အားသွန်ခွန်စိုက် တိုက်စစ်ဆင်၍ ဤပုဂံနှင့် ဤမြန်မာကို တည်ဆောက်ပေးခဲ့ကြပါသည်၊ ဤသမိုင်း ကြောင်းတို့ကို ပုဂံမြေမှ ပိဋကတိုက်ကြီးက ယနေ့တိုင် မထေရ်

မြွတ် ရှင်အရဟံနှင့် မင်းတရားအနော်ရထာတို့၏ ကိုယ်စား ပြော ပြနေဆဲ, ပညာပေးနေဆဲဖြစ်ပါသည်၊

(၁) ဒဂုံ၏ကျေးဇူးရှင်–တပုဿနှင့်ဘလ္လိက၊
(၂) သထုံ၏ကျေးဇူးရှင်–ရှင်သောဏနှင့်ရှင်ဥတ္တရ၊
(၃) ပုဂံ၏ကျေးဇူးရှင်–ရှင်အရဟံနှင့်အနော်ရထာ၊

ထိုထိုကျေးဇူးရှင်ကြီးတို့၏ထိုထိုကျေးဇူးတရားတို့ကို ကျေးဇူး တော်ဆပ်သောအားဖြင့် ဒဂုံ, သထုံ, ပုဂံ သာသနာဆက်ကို အမွေတော်ဆက်ပေးမည့် "ပိဋကသမိုင်းတိုက်ကြီး" ကို ရွှေတိဂုံ စေတီ ထီးတော်ရိပ်တွင် ဗုဒ္ဓဘာသာဝင်တို့၏ စွမ်းအားဖြင့် တည်ဆောက်သင့်ပြီဖြစ်ပါကြောင်းကို အလေးအနက် တင်ပြ အပ်ပါသည်။

## သာသနာတော်အတွက် မြော်ရည်ချက်ဆန္ဒ

သာသနာတော်အတွက် မြော်ရည်ချက်ဆန္ဒဟူသည်တိုင်းပြည် နှင့်လူမျိုးအတွက် မြော်ရည်ချက်ဆန္ဒပင် ဖြစ်ပါသည်၊ ဤတိုင်း ပြည် ဤလူမျိုး၌ စစ်မှန်သော အယူဝါဒ ထွန်းကားအံ့၊ ဤ တိုင်းပြည် ဤလူမျိုး၏ ပစ္စုပ္ပန်ရေး, သံသရာရေး, လောကီရေး, လောကုတ္တရာစသည်တို့သည် စိတ်အေးဖွယ်ရာ ဖြစ်ပါသည်၊ ထိုတိုင်းပြည် ထိုလူမျိုး၌ မှားယွင်းသောအယူဝါဒထွန်းကားအံ့၊ ထိုတိုင်းပြည် ထိုလူမျိုး၏ ပစ္စုပ္ပန်ရေး,သံသရာရေး,လောကီရေး, လောကုတ္တရာရေးစသည်တို့သည် စိတ်မအေးဖွယ်ရာ ဖြစ်ပါသည်၊ ဗုဒ္ဓသာသနာတော်၏ အမွေအနှစ်တို့ကို ထိန်းသိမ်းစောင့်ရှောက် ပြန့်ပွားစေခြင်းသည် ဤနိုင်ငံ ဤလူမျိုးတို့၏ အမွေအနှစ်တို့ကို

ထိန်းသိမ်းစောင့်ရှောက် ပြန့်ပွားစေခြင်းပင် ဖြစ်ပါသည်၊ အဘယ်ကြောင့်ဆိုပါသော် ထေရဝါဒဗုဒ္ဓသာသနာတော်သည် ဤနိုင်ငံနှင့် ဤလူမျိုးတို့၏ စစ်မှန်သော ဘိုးဘွားအမွေအနှစ် ဖြစ်သောကြောင့်ပါတည်း၊ ထို့ကြောင့် ပိဋကဗျူဟာ၏ သာသနာတော်အတွက် မြေဝ်ရည်ချက်ဆန္ဒဟူသည် သာသနာရေးအတွက် သက်သက်ကိုသာ မြေဝ်ရှုခြင်းမဟုတ်ပဲ အညမညသဘောအဖြစ် တဆက်တည်းဆက်စပ်နေသော တိုင်းပြည် လူမျိုး သာသနာတော်အတွက် မြေဝ်ရည်ချက်ဆန္ဒဖြစ်ပါကြောင်းကို ပွင့်လင်းစွာ အစီရင်ခံအပ်ပါသည်။

## လက်သုံးတန်တားတော်မူပါ

ကမ္ဘာကျော် ရာမာယဏဇာတ်တော် (ရာမဇာတ်တော်)ကို ကပြကြရာ၌ ရာမဇာတ်၏ နောက်ပိုင်း ဇာတ်လိုက်ဖြစ်သော ဟနုမာန်မျောက်မင်းသည် သီတာဒေဝီကို စုံစမ်းရန်ကိစ္စ, သိန်းဃိုကျွန်းသို့သွားရန်ကိစ္စ, ကျောက်တန်းဆည်ရန်ကိစ္စ, ရာမမင်းလက္ခဏမင်းတို့ကို သိန်းဃိုကျွန်းသို့ပို့ရန်ကိစ္စ, စစ်တိုက်ရန်ကိစ္စ, သီတာဒေဝီကို ဆောင်ကြဉ်းရန်ကိစ္စ, ရာမလက္ခဏတို့ကို ကာကွယ်ရန်ကိစ္စစသည်ဖြင့် များလှစွာသော တာဝန်တို့ကို မမောတန်း မနားတန်း ထမ်းဆောင်ရန် ရှိနေပါသည်၊ သို့ရာတွင် နေမင်း၏ ဖမ်းစားထားမှုကြောင့် ဟနုမာန်မျောက်သည် သေးငယ်လျက် ရှိနေသည်ဟု ဆိုပါသည်၊ ရာမမင်းနှင့်တွေ့၍ ထိုတာဝန်များကို ဟနုမာန်အား ပေးအပ်သောအခါ ''ဘုန်းကြီးသောယောကျ်ား လက်သုံးတန်တားယင် သုံးဂါဝုတ်ကြီးပါလိမ့်မည်၊ ထိုအခါ

တာဝန်အားလုံးကို ကျေပွန်စွာ ထမ်းဆောင်နိုင်ပါမည်၊ ကျွန်တော်မျိုးကို လက်သုံးတန်ဖြင့် တားတော်မူပါ”ဟု အပ်နှံသဖြင့် ရာမမင်းက ဟနုမာန်၏ ကျောကို လက်သုံးတန်တားပေးသဖြင့် သုံးဂါဝုတ်ကြီးသော ဟနုမာန်မျောက်မင်းကြီးဖြစ်လာပြီး ရာမမင်း ပေးအပ်သော တာဝန်များကို ကျေပွန်စွာထမ်းဆောင်အောင်မြင်ကြောင်းကို ရာမဇာတ်တော်၌ (နမူနာယူဖွယ် ဖြစ်အောင်)ကပြ တင်ဆက်လေ့ရှိကြပါသည်။

ပိဋကဗျူဟာ၏ သာသနာတော်အတွက် မြော်ရည်ချက်ဆန္ဒများဖြစ်သော တိမ်မြုပ်ပျောက်ကွယ်နေသည့် ပိဋကတော်ပေမူများရှာဖွေ ကူးယူ တည်းဖြတ်ရေး, ပုံနှိပ်ရေး, ဖြန့်ဝေရေး, စုဆောင်းရေး, ထိန်းသိမ်းရေး, အားဖြည့်ရေး, ပိဋကသမိုင်းတိုက်ကြီးတည်ထောင်ရေးစသည့် ကြီးမားလှစွာသော တာဝန်ကြီးတို့ကို တခုချင်းတင်ပြခဲ့ပြီး ဖြစ်ပါသည်၊ထိုထိုတာဝန် ထိုထိုဝတ္တရားတို့ကို ကျေပွန်စွာထမ်းဆောင်နိုင်ရေးအတွက် ပိဋကဗျူဟာသည် ဘုန်းကံပါရမီ ကြီးမားတော်မူကြကုန်သော သဒ္ဓါရှင် ပညာရှင် ဝီရိယရှင်တို့ကို မြော်လင့်ကိုးဆို တောင့်တနေပါသည်၊ဘုန်းကံပါရမီ ကြီးမားတော်မူကြကုန်သော ဗုဒ္ဓဘာသာဝင်သူတော်စင်တို့၏ သဒ္ဓါအား ပညာအား ဝီရိယအားတည်းဟူသော လက်သုံးတန်ဖြင့် အားဖြည့်သုံးသပ်ပေးတော်မူကြပါက ပိဋကဗျူဟာသည် အင်အားကြီးမားသော အရှိန်အဟုန်ဖြင့် ထိုထိုတိုင်းပြည်တာဝန်, လူမျိုးတာဝန်, သာသနာ့တာဝန်တို့ကို ကျေပွန်စွာ ထမ်းဆောင်နိုင်မည်ဖြစ်ပါကြောင်းကို လေးစားစွာ တင်ပြအစီရင်ခံ၍ ရှိသေစွာ ဖိတ်မန္တကပြုအပ်ပါသတည်း။

တိပိဋကံ ဗုဒ္ဓဝစနံ စိရံ တိဋ္ဌတု

တိပိဋကံ—မြတ်စွာဘုရား၏ ကိုယ်တော်စား ဝိနည်းဘုရား, သုတ္တန်ဘုရား,အဘိဓမ္မာဘုရား ဖြစ်တော်မူသော၊

ဗုဒ္ဓဝစနံ—မြတ်စွာဘုရား ရွှေနှုတ်တော်ထွက် တရားတော် ဓမ္မစကားသည်၊

စိရံ —နှစ်ပေါင်းမြားမြောင် ကာလကြာအောင်၊

တိဋ္ဌတု —အရှည်ခံ၍ တည်တံ့တော်မူပါစေသတည်း။

ပိဋကဗျူဟာအဖွဲ့

---

